# ဗုဒ္ဓ၏စကြာဝဠာတရား

ရေးသူ-ရနသင်ဃဲ

မြန်မာပြန်သူ-သခင်ဘသောင်း

၂၄၀၀

# ဗုဒ္ဓဏ်စကြိုက်ဝညတရား

ရေးသူ-ရနသင်ယဲ

မြန်မာပြန်သူ-သခင်ဘသောင်း

# ထုတ်ဝေသူ၏အမှာ

၁။ ဤ ဗုဒ္ဓ၏ စကြာဝဠာ တရား ကို ဖတ်ရှုလေ့လာရာတွင် စာလုံး တလုံးစီ တလုံးစီမှ ဝေါဟာရ တခုစီ တခုစီသို့၄င်း၊ စာကြောင်း တကြောင်းစီ တကြောင်းစီမှ စာပိုဒ်တပိုဒ်စီ တပိုဒ်စီသို့၄င်း၊ စိတ်ရှည်စွာ လေ့လာကြပါဟု တိုက်တွန်းပါ၏။

၂။ ရှေ့ဝါကျနှင့် နောက်ဝါကျကို ကောင်းစွာ ဆက်စပ်၍၄င်း၊ ရှေ့စာပိုဒ်နှင့် နောက်စာပိုဒ်ကို ကောင်းစွာ ဆက်စပ်၍၄င်း၊ လေးလေးနက်နက် ဖတ်ရှု လေ့လာကြပါဟု တိုက်တွန်းပါ၏။

၃။ ဖတ်ရှုပြီးအပ်သော ဝါကျတိုင်း ဝါကျတိုင်းကို၄င်း၊ ဖတ်ရှုပြီးအပ်သော စာပိုဒ်တိုင်း စာပိုဒ်တိုင်းကို၄င်း၊ ကောင်းစွာသဘော ပေါက်သည့်တိုင်အောင် စိတ်ရှည်စွာ သုံးသပ်၍ လေ့လာကြပါဟု တိုက်တွန်းပါ၏။

၄။ ဤကျမ်းတွင် ချွတ်ယွင်းချက်များကို တွေ့ရှိပါက၊ ဤကျမ်းကို ထုတ်ဝေသူ သုတေသီတစု၏ အပြစ်သာ ဖြစ်သည်ဟု ယူကြစေလိုပါ၏။

၅။ ဤကျမ်းကို လေ့လာရသဖြင့် အကျိုး ကျေးဇူး ခံစားရရှိကြသည်ဖြစ်ပါမူ၊ ဤကျမ်းကို ပြုစုသူ လင်္ကာဒီပကျွန်းသား စီ၊ ပီ၊ ရနသင်ဃ နှင့် ဤကျမ်းကို အနက် မြန်မာပြန်သူ မြန်မာနိုင်ငံသား စာရေးဆရာကြီး သခင်ဘသောင်းတို့ကိုသာ လျှင် ကြီးစွာသော ကျေးဇူးတို့ဖြင့် ဂုဏ်ပြုကြပါဟု အလွန်အထူး နှိုးဆော်အပ်ပါသတည်း။

( ပုံ ) ထွန်းလင်း
နှင့် သုတေသီတစု

၁၉၆၀ ခု၊ ဩဂုတ်လ ( ၁၅ ) ရက်နေ့
ရန်ကုန်မြို့။

# အမှာစကား

"သင်တို့အား သင်တို့ကိုယ်တိုင်က မှတပါး၊ အခြားမည်သူကမျှ မကယ်တင်နိုင် ။ ကောင်းစွာကျင့်သုံးပြီး သောအခါတွင် သင်တို့သည် သင်တို့ကိုယ်ကို ကယ်တင်မည့်သူများအဖြစ်သို့ ရောက်လာကြလိမ့်မည်" ဟု ဗုဒ္ဓက ဟောခဲ့၏။ ဗုဒ္ဓသည် ဆင်းရဲခြင်းအပေါင်းမှ လွတ်မြောက်၍ အပြစ်အနာကင်းစင် သောစိတ်၏ ချမ်းသာမှုလမ်းကို ပြ၍သာ ပေး၏။ အဘယ်ကြောင့်ဆိုသော် အကယ်ဆင်းရဲခြင်းခံရသော အရာမှာ စိတ်ပင်ဖြစ် သောကြောင့်ဖြစ်၏။ အဆိုပါ စိတ်၏ချမ်းသာမှုကို၊ မိမိတို့ကိုယ်ကို မိမိတို့လှည့်စားခြင်းဖြင့်၄င်း၊ တခဏတာမျှဖြစ် သော ဈာန်အခြေဖြင့်၄င်း၊ မရနိုင်။

မိမိတို့ဘဝ၏ အဖြစ်မှန်ကို မိမိတို့ကိုယ်တိုင် သဘောပေါက်၍လာကြ သော အခါကျမှသာလျှင် ၊ စိတ်၏ချမ်းသာမှုကို ရနိုင်၏။ မိမိတို့၏ ဘဝအဖြစ်မှန်ကို သိနားလည်ခြင်းသည်သာလျှင် ၊ မိမိတို့၏ စိတ်တွင်း၌ရှိသော ယုတ်ညံ့မှု ညစ်ညမ်းမှုအားလုံးကို ပျောက်ပစေနိုင်သော အကြောင်းဖြစ်၏။ "ပညာယ ပရိသုဇ္ဈတိ" ။

မိမိတို့ဘဝ၏ အဖြစ်မှန်ကို သိနိုင်စေတတ်သော နည်းလမ်းများကို ယေဘုယျအားဖြင့် ဗုဒ္ဓ၏ ဟောပြောချက်အားလုံးထဲတွင် ဖေါ်ပြထား၏။ အထူးသဖြင့် အဘိဓမ္မာထဲတွင် ဖေါ်ပြထား၏။

အဘိဓမ္မာ သို့မဟုတ် အထက်တန်းတရားကို တိကျမှန်ကန်စွာနားလည်ခြင်းမရှိလျှင် မည်သူသည်မျှ ဗုဒ္ဓ၏ တရားကို ဟုတ်မှန်သည့်အတိုင်း နားလည်နိုင်လိမ့်မည်မဟုတ်ဟု ဆိုနိုင်ဘွယ်ရှိ၏။ အဘိဓမ္မာကို ကျမ်းပြုပုဂ္ဂိုလ်အမျိုးမျိုးက ပါဠိဘာသာ၊ မြန်မာဘာသာ၊ သီဟိုဠ်ဘာသာ၊ အခြားအရှေ့တိုင်း ဘာသာများဖြင့် ရေးသားထားသော လက်စွဲကျမ်း မြောက်များစွာရှိသော်လည်း၊ ဤကျမ်းကဲ့သို့ အင်္ဂလိပ်ဘာသာနှင့် ရေးသားထားသောကျမ်းများမှာ လွန်စွာပင်နည်းပါးလှ၏။ ထို့ကြောင့် မစ္စတာ စီ၊ ပီ၊ ရနသင်ဃ ရေးသော ဤကျမ်းသည် လူအများအရှည်အကြာ လိုလားတောင့်တနေချက်ကို ပြည့်ဝစေဘိပြီ ။

ဓမ္မသည် ကြီးပွားပါစေသတည်း ။

ဘီ၊ အနန္ဒ မိုက်ထရေယ နာယက ထေရော။

ဆရီဒါရုံမနန္ဒ ပိရိဝေန ။
ဗလန်ဂိုဒါ။ သီဟိုဠ်ကျွန်း ။
၁၉၅၇ ခုနှစ်၊ မေလ - ၁၄ - ရက်နေ့ ။

ကမ္ဘာငြိမ်းချမ်းသာယာမှုကို

ရည်စူးအပ်ပါသတည်း။

## ရှေ့နိဒါန်း။

ထင်ရှားသော ပုဂ္ဂိုလ်တဦးဖြစ်သော၊ မာထု( Mathu )လျှင် အမှူးရှိသော၊ သတိတရားရှိသော လူပေါင်း ၁၀၀၀၀ (တသောင်း)က ဗုဒ္ဓအား သတ္တဝါများနှင့် စကြဝဠာဖြစ်ပေါ်လာပုံအကြောင်းကို ပြည့်စုံစွာ ဟောပြောပါရန် တောင်းပန်ကြကုန်၏။ အဆိုပါ လူ ၁၀၀၀၀ အနက် မည်သူကမျှ ဗုဒ္ဓထံမှ တိုတိုတုတ်တုတ် အဖြေကို ရလိမ့်မည်ဟု မမျှော်လင့်ကြဘဲ၊ ထိုအကြောင်းနှင့် ပတ်သက်၍ ရှည်လျားသောတရားကို နာကြားလိုသော ဆန္ဒရှိကြောင်းကိုသာ ပြကြ၏။

ဤသို့ တောင်းပန်ကြသဖြင့် ဗုဒ္ဓက လောက၏ ဆန်းကျယ်သော အဖြစ်ကို ဟောကြားရန်သဘောတူလိုက်ပြီးလျှင်၊ ဆွမ်းစားရန်နှင့် အပန်းဖြေရန် အချိန်ကိုသာချန်၍၊ သုံးလတာမျှ နေ့စဉ်ရက်ဆက် ရှင်းလင်းပြတ်သားစွာ ဟောကြား၏။ လူ့တိုင်းလူတိုင်းက ဗုဒ္ဓ၏ ဟောကြားချက်ကို သဘောကျကြ၏။ ထိုသို့ ဟောကြားခြင်းမှာ အနှစ် ၂၅၀၀ (နှစ်ထောင့်ငါးရာ)အလွန်ကဖြစ်၏။

အဆိုပါ ဟောကြားချက်များကို ဗုဒ္ဓ၏ တပည့်ကြီး သာရိပုတ္တာက တဆင့် ပြန်၍ ဟောကြား၏။ သာရိပုတ္တာက အကျဉ်းအားဖြင့်သာ ပြန်၍ ဟောကြား၏။ နောင်အဘို့တွင် ထိုဟောကြားချက်သည် ဗုဒ္ဓဟောကြားခဲ့သော အခြားတရားများကို နားလည်နိုင်ရန်အတွက် အခြေခံဖြစ်နေသည်ကို တွေ့ကြရ၏။

အသောကမင်းကြီးက သီဟိုဠ်ကျွန်းသို့ သားတော် မဟိန္ဒနှင့် သမီးတော် သင်္ဃမိတ္တာအား ဗုဒ္ဓ၏ တရားကို ဟောကြားရန် စေလွှတ်လိုက်သည့်အချိန်ကစ၍ သီဟိုဠ်ကျွန်းသားတို့သည် ဗုဒ္ဓ၏ အခြားဟောကြားချက်များနှင့်တကွ၊ သာရိပုတ္တာ၏ တဆင့် ဟောကြားချက်များကို အမြတ်တနိုးသိမ်းဆီးသိုမှီးထားကြ၏။

ယနေ့တိုင် သီဟိုဠ်ကျွန်းသားတို့ သိမ်းဆီးထားအပ်သော သာရိပုတ္တာ၏ တဆင့်ဟောကြားချက်များကို ကျွန်ုပ်က ဤကျမ်းတွင် အကျဉ်းချုံး၍ ဖော်ပြလိုက်၏။ ဤကျမ်းသည် ဗုဒ္ဓ၏ ဟောကြားချက်များကို မျက်မှောက်ခေတ် လောကဓါတ်ပညာကို အခြေထား၍ အနက်အသစ်ပြန်ဆိုပေးရန်ကြံရွယ်သော ကျမ်းမဟုတ်သည်ကို ကျွန်ုပ်က လေးနက်စွာ ပြောလို၏။ ဤကျမ်းသည် သတ္တဝါများအကြောင်းနှင့် စကြဝဠာအကြောင်းနှင့်စပ်လျဉ်း၍ ဗုဒ္ဓ၏ မူလရည်ရွယ်ချက်များကို ကျွန်ုပ်ကိုယ်တိုင်သဘောပေါက်ရန်အားထုတ်ရာမှ ဖြစ်ပေါ်လာသော အကျိုးဖလသာဖြစ်၏။

ဤကျမ်းသုံး ပါဠိစကားရပ်များကို အင်္ဂလိပ်ဘာသာပြန်ရာတွင် ပထမ အကြိမ်ပြန်ရာ၌ လျောက်ပတ်သော ပါဠိဝေါဟာရများနှင့် ယှဉ်တွဲ၍ပြထားပါသဖြင့်၊ စကားရပ်အချင်းချင်း နှိုင်းယှဉ်ကြည့်ရှုလိုသူများအတွက် လွယ်ကူလိမ့်မည်ဟု မြှော်လင့်ပါ၏။

ဗီ၊ ပီ၊ ရနသင်ဃ ။

ကိရိဗတ်ဂိုထ ။

ကေလာနိယ။

သီဟိုဠ်ကျွန်း ။

၁၉၅၄ ခု၊ မေလ - ၁၄ - ရက်။

# မာတိကာအကျဉ်း ။

## နိဒါန်း ။

ဤကျမ်းပါအကြောင်းရင်းနှင့်သက်ဆိုင်သည့် ပါဠိကျမ်းတို့များစွာရှိသည့်အနက် အောက်ပါကျမ်းတို့မှာ အရေးအကြီးဆုံးဖြစ်၏ ။

၁။ ဓမ္မသင်္ဂဏီပကရဏ ။

၂။ ဝိဘင်္ဂပကရဏ ။

၃။ ဓါတုကထာ ပကရဏ ။

၄။ ပုဂ္ဂလ ပညတ္တိ ပကရဏ ။

၅။ ကထာဝတ္ထု ပကရဏ ။

၆။ ယမက ပကရဏ ။

၇။ ပဋ္ဌာန ပကရဏ ။

ဤကျမ်းများသည် ဗုဒ္ဓ၏ ဟောကြားချက်များအနက် အဘိဓမ္မာအပိုင်းတွင်ပါဝင်ကြပြီးလျှင် ၊ " သတ္တပကရဏ " ဟုတွင်သော ကျမ်းများဖြစ်၏ ။ ယနေ့ထက်တိုင် ဤကျမ်းများကို အနောက်တိုင်းဘာသာများသို့ ကြေနပ်လောက်အောင် ဘာသာပြန်ထားခြင်းရှိသေးဟန်မတူ ။ ဤကျမ်းများတွင် ပါဝင်သော အကြောင်းခြင်းရာ များမှာ အလွန်နက်နဲလှသဖြင့် လေ့လာခါစ သူများအဘို့ နားမလည်နိုင်လောက်အောင်ဖြစ်တတ်၏ ။ ထို့ကြောင့် ရှေးပညာရှိများက စာသင်သားအသစ်များအား အထောက်အပံ့ဖြစ်စေရန် ၊ အခြေခံကျမ်းများကိုပြု၍ ပေးကြ၏ ။ ထိုအခြေခံကျမ်းများကို ပါဠိဘာသာဖြင့် ရေးကြ၏ ။ ထိုကျမ်းများအနက် အောက်ပါကျမ်းတို့မှာ အထင်ရှားဆုံးဖြစ်၏ ။

၁။ အဘိဓမ္မတ္ထသင်္ဂဟ ။

၂။ အဘိဓမ္မာဝတာရ ။

၃။ နာမရူပ ပရိစ္ဆေဒ ။

၄။ ပရမတ္ထ ဝိနိစ္ဆယ ။

၅။ နာမရူပ သမာသ ။

ဤကျမ်းငါးကျမ်းအနက် အထူးသဖြင့် အဘိဓမ္မတ္ထ သင်္ဂဟကျမ်းကို စာသင်သားများက များစွာနှစ်သက်ကြ၏ ။ ထိုကျမ်းကို မျက်မှောက်ခေတ် ဘာသာစကားများသို့ ဘာသာပြန်ထားအပ်ပြီ ။

ထိုမှတပါး ပညာရှိ အမျိုးမျိုးတို့ ပြုစုထားကြသော ရှေးကျသော ကျမ်းပွားများနှင့် မျက်မှောက်ခေတ် ကျမ်းပွားများလည်း ရှိကြသေး၏။ ထိုကျမ်းများကို တတ်နိုင်သမျှ လေ့လာကြရန် ဝီရိယရှိသော စာသင်သားများအား တိုက်တွန်းနှိုး ဆော်ကြ၏။

သို့ရာတွင် သတိပေးစရာ အချက်တချက် ရှိ၏။ ထိုအချက်ကား အခြားမဟုတ်၊ မူရင်းပါဠိကျမ်းပါ စကားလုံးများကို၎င်း၊ ဘာသာပြန်ကျမ်းပါ စကားလုံးများကို၎င်း၊ အဋ္ဌကထာကျမ်းပါစကားလုံးများကို၎င်း၊ အကျဉ်းချုပ်ကျမ်းပါစကားလုံးများကို၎င်း၊ တထစ်ကျမှတ်ယူခြင်း မပြုထိုက်ကြောင်းနှင့် ဗုဒ္ဓက လေးနက်စွာ မှာခဲ့ခြင်းဖြစ်၏။ ဤကျမ်းကို လေ့လာရကျိုးနပ်စေရန်အတွက် ဤကျမ်းပါစကားလုံးများကို၎င်း၊ ဗုဒ္ဓကိုယ်တိုင်အပါအဝင် တစုံတယောက်သောဆရာတို့ ပြောသောစကားလုံးများကို၎င်း၊ ယုံကြည်မှုဒြိကာမျှဖြင့် မှန်သည်ဟုမယူဆဘဲ ရှင်းရှင်းလင်းလင်း ပြည့်ပြည့်ဝဝ နားလည်အောင်အားထုတ်ထိုက်ကြ၏။

မည်သူမဆို ဤကျမ်းပါ အက္ခရာတင်ထားသော စကားလုံးများကို၎င်း၊ တစုံတယောက်သောဆရာ၏ နှုတ်မှ ထွက်လာသောစကားလုံးများကို၎င်း၊ အရေးအကြီးဆုံးဖြစ်သည်ဟု သဘောမထားကြဘဲ၊ မိမိတို့ ဖတ်ရှုရသော စကားလုံးတိုင်း၏ အနက်အဓိပ္ပါယ်ကို သဘောပေါက်အောင် ကြိုးစားကြရာ၏။ မိမိတို့၏ စိတ်ကို နက်နဲဖြောင့်စင်း၍ ဇောဂတာကျအောင် သုံးသပ်ရန်အလို့ငှါ အသုံးပြုခြင်းသည် အကောင်းဆုံးနည်း ဖြစ်၏။

အဘိဓမ္မသည် သဘာဝတရား၏ ပြင်ပကိစ္စကို လေ့လာရာကျမ်းမျှသာ ဖြစ်သည်ဟု မျက်မှောက်ခေတ် ပညာရှင်အချို့က ယူဆလိုကြကြောင်းကို ဖော်ပြဖို့လို၏။ ဤအမှားသည် အချို့ဒေသများတွင် လျှင်မြန်စွာပြန့်ပွားလျက် ရှိသဖြင့် အမှန်သို့ ရောက်အောင်ပြုပြင်ပေးဖို့လို၏။ အဘယ်ကြောင့်ဆိုသော် အဘိဓမ္မသည် သဘာဝတရား၏ အပြင်ပကိစ္စများနှင့် လားလားမျှ မသက်ဆိုင်သောကြောင့်ဖြစ်၏။ အဘိဓမ္မသည် သဘာဝတရားကို ဟုတ်မှန်သည့်အတိုင်း ဖော်ပြသော ကျမ်းသာဖြစ်၏။ အဘိဓမ္မသည် တွက်ကိန်းသက်သက်တရားလည်း မဟုတ်၊ မမည်မရ တရားလည်း မဟုတ်၊ ခွဲခြမ်းစိတ်ဖြာမရသော တရားလည်းမဟုတ်။ စကြာဝဠာတခုလုံး အကြောင်းကို စနစ်ကျကျ လေ့လာထားချက်သာဖြစ်၏။ အဘိဓမ္မသည် စိတ် ( နာမ ) အကြောင်းနှင့် ရုပ် ( ရူပ ) အကြောင်းကိုဆိုရာကျမ်းဖြစ်သဖြင့် စကြာဝဠာပညာဖြစ်၏။

ဗုဒ္ဓသည် ရှာဖွေတွေ့ရှိသူတယောက်သာဖြစ်ကြောင်းကို လူအများက သိလျှင်ကောင်း၏။ ထိုမျှမကသေး ဗုဒ္ဓသည် သူလိုကိုယ်လို လူသားတယောက်သာဖြစ်ကြောင်းကိုလည်း လူအများက သိကြလျှင်ကောင်း၏။ ဗုဒ္ဓသည် သူ့စိတ်ထဲသို့ ရုတ်တရက်ဝင်ရောက်လာသော အိုခြင်း၊ နာခြင်း၊ သေခြင်း ပြဿနာ၏ အဖြေမှန်ကို ရှာခဲ့၏။ ထိုပြဿနာသည် ရှင်းလင်းဖြောင့်စင်း၍ ဗုဒ္ဓသည် ထိုပြဿနာကို နက်နဲစွာသုံးသပ်ခဲ့၏။

ထိုပြဿနာ၏ အဖြေမှာ ရုတ်တရက် ထင်သလောက်မလွယ်။ အဘယ့်ကြောင့်ဆိုသော် ထိုအဖြေထဲတွင် စကြာဝဠာနှင့်ပတ်သက်သော ခက်ခဲသည့်ပြဿနာအားလုံး၏ အဖြေသည် ပါဝင်နေသောကြောင့်ဖြစ်၏။ ခဲယဉ်းပင်ပမ်းစွာရှာဖွေပြီးသည့်နောက် အဖို့တွင် ဗုဒ္ဓသည် မိမိအလိုရှိသော အဖြေသာမကဘဲ စကြာဝဠာတခုလုံးအတွင်းရှိ လူတိုင်းလူတိုင်း၊ အရာဝတ္ထုတိုင်း အရာဝတ္ထုတိုင်းနှင့်ပတ်သက်သော ပြဿနာအားလုံး၏ အဖြေမှန်ကိုပါတွေ့၏။ ဤနည်းဖြင့် ဗုဒ္ဓသည် ဗုဒ္ဓအဖြစ်သို့ရောက်ခဲ့၏။

ဗုဒ္ဓသည် မိမိ၏အကျိုးခံစားခွင့်ကိုထိခိုက်စေခြင်း မရှိဘဲနှင့် မိမိတွေ့ရှိခဲ့သော အဖြေများကို မသိသူ့ကိုမျှ မပြောဘဲနှင့်နေမည်ဆိုလျှင်လည်း ဖြစ်နိုင်၏။ သို့ရာတွင် များနိုင်သမျှများစွာသောလူတို့အား အကူအညီပေးရန်မှာ မိမိ၏ တာဝန်ဖြစ်သည်ဟု ဗုဒ္ဓက ယူဆ၏။ မိမိတရားများကို ဟောပြောရာ၌ ဗုဒ္ဓတွင် ထိုရည်ရွယ်ချက် တခုထိးသာရှိ၏။ သက်ဆိုင်ရာ အချက်အလက်အားလုံးကို ဖော်ပြပေးပြီးနောက် ဗုဒ္ဓသည် ပုဂ္ဂိုလ်တိုင်း ပုဂ္ဂိုလ်တိုင်းအား မိမိတို့အရေးကိစ္စများကို မိမိတို့ဟာ မိမိတို့ ဝဲ့ကိုင်နိုင်အောင် လုပ်၍ပေး၏။ ဤအား ဗုဒ္ဓ၏ ထူးခြားချက်ပင်ဖြစ်၏။ (ခရစ်ယန်ဘာသာ၊ မွတ်ဆလင်ဘာသာ၊ ဟိန္ဒူဘာသာနှင့် ဗုဒ္ဓဘာသာဟု ဆိုအပ်သော) ဘာသာကြီးလေးခု ပေါ်ထွန်းရာ အာယှတိုက်တွင် ယခုတိုင် ဗုဒ္ဓဘာသာကို သက်ဝင်ယုံကြည်သူတို့က ပို၍များ၏။ ဤကျမ်းတွင် ဗုဒ္ဓ၏ အခြေခံတရားကြီးများကို ဖော်ပြထား၏။ အာယှတိုက်ရှိ ဗုဒ္ဓဘာသာဝင်များသာမကဘဲ အခြားအာယှတိုက်သားတို့၏ အယူအဆနှင့်ယဉ်ကျေးမှုတို့သည် ဗုဒ္ဓဘာသာကို အခြေပြုလျက်ရှိကြ၏။

ဤကျမ်းသည် အာယှယဉ်ကျေးမှုနှင့်ဘာသာတရားစုံကို နှိုင်းယှဉ်လေ့လာကြသူများနှင့်သာ သက်ဆိုင်သောကျမ်းမဟုတ်။ မျက်မှောက်ခေတ်တွင် နေရာအနှံ့

အပြားခွဲ လူမှုရေးရာများ၊ ဆူပူမှုများဖြင့် ပြည့်နှက်လျက်ရှိပြီးလျှင် တကမ္ဘာလုံး အား လုံခြုံမှုကင်းမဲ့စေမည့် အရိပ်နိမိတ်အမြောက်အများ ပေါ်ထွက်လျက်ရှိ သဖြင့်၊ ခပ်သိမ်းသော ပညာရှင်တို့သည် ဤကျမ်းကို လေ့လာကြရာ၏။ အဘယ် ကြောင့်ဆိုသော် ဤကျမ်းပါ သိမှတ်ဖွယ်ရာများကို လေ့လာရခြင်း အကျိုးကြောင့် ဤကမ္ဘာသူ ကမ္ဘာသားတို့သည် နောင်လာမည့် နှစ်ပေါင်းအရာအထောင်မျှကာ လပတ်လုံး ဘေးကင်းစွာ နေနိုင်ကြဖွယ်ရှိသော ကြောင့်ဖြစ်၏။

## အင်္ဂလိပ်/မြန်မာ ဝေါဟာရ အညွှန်း

၁။ နာမ်ဓါတ် = Mind

၂။ ရုပ်ဓါတ် = Matter

၃။ စေတသိက် = နာမ်ဓါတ်အလျှင်များ = Currents of the Mind

၄။ အင်အား = Energy

၅။ နာမ်ဓါတ် တခုစီ တခုစီ = a Unit of Mind

၆။ အဆုံးအခြားမရှိသော သင်္ချာ = Mathematics of Infinity

၇။ ဟင်းလင်းပြင်ဓါတ် = Space and
နှင့် အချိန် = Time

၈။ မဟာဘုတ်ဓါတ် = မဟာဘူတ = Maha Bhuta
The Four Great Abstract Elements.
မီး ဓါတ် = abstract heat
လေဓါတ် = abstract air
ရေဓါတ် = abstract water
မြေဓါတ် = abstract earth

၉။ ယေဘုယျနာမ်ဓါတ်အလျှင်များ = Common Currents of the Mind
သဗ္ဗစိတ္တသာဓါရဏ စေတသိက် = mental properties common to every act consciousness

၁၀။ နာမ်ဓါတ်၏ ပိုင်နက်အတွင်းရှိရုပ်ဓါတ် = Matter Within the Hold of Mind

၁၁။ အသွင်အပြင်ဓါတ်များ = Feature Elements

၁၂။ ဖြစ်ခြင်း အလျှင် = Current of Birth
တည်ခြင်း အလျှင် = Current of Existence
ပျက်ခြင်း အလျှင် = Current of Death

၁၃။ ထပ်တလဲလဲလှုပ်ရှားမှုစက်ဝန်း = Wheel of Repetition

၁၄။ အစဉ်မပြတ်တဖွားဖွားဖြစ်ပေါ်မှု = Flux

၁၅။ နာမ်ဓါတ်က လှုပ်ရှားမှုအားလုံးကို သိနိုင်၏။

= Mind can Discern All Motions.

( နာမ်ဓါတ်သည် လှုပ်ရှားမှုဖြစ်၏ = Mind is a Motion )

၁၆။ အသက်ရှင်မှုဓါတ် = Life Element

= Evolution Element

၁၇။ အသက်ရှင်မှုအလျင် = Evolution Current

၁၈။ အာရုံပြန်မှုများ = Elements of Reflection

( အာရုံပြန်မှုဓါတ်များ ) = (Reflective Elements)

၁၉။ အာရုံပို့မှုဓါတ် = Projective Element

၂၀။ ပတ်ဝန်းကျင်အာရုံသိမှုအင်္ဂါများ = Environment Sense Organs.

၂၁။ အသက်ရှင်မှုနာမ်ဓါတ်လှိုင်းများ = Life Waves

၂၂။ အာရုံခံစားမှုများ = Sensations

၂၃။ နာမ်ဓါတ်လှိုင်းများ = Mental Waves

၂၄။ နာမ်ဓါတ်တခါလှုပ်အတွင်း၌ အာရုံပြန်မှုလှိုင်းများ

= Reflection Waves in a Beat of Mind.

၂၅။ စင်ကြယ်မှု = ကုသိုလ် = Purity

၂၆။ မစင်ကြယ်မှု = အကုသိုလ် = Defilement

၂၇။ နာမ်ဓါတ်၏အစဉ်ဖြစ်ပေါ်မှု = Process of Mind's Continuum.

၂၈။ နာမ်ဓါတ်အတွင်း၌ စွဲလန်းမှုတို့၏ မျိုးစေ့နှင့်အသီးများ

= Seeds and Fruits of Mental Impressions.

၂၉။ နာမ်ဓါတ်စက်ဝန်းလည်ပနမှု = Rotation of the Wheel of Mind

၃၀။ နာမ်ဓါတ်လှုပ်ရှားမှုအစဉ်များ = Phases of a Beat of Mind.

၃၁။ အဦးယာမ် ( ဥပ္ပါဒ ) = Dawn Season

၃၂။ အလယ်ယာမ် ( ဌီ ) = Prime Season

၃၃။ အဆုံးယာမ် ( ဘင် ) = Close Season

၃၄။ ထပ်ဖြည့်အလျဉ်များ = Currents of Supplement
( ပကိဏ္ဏက စေတသိက )

၃၅။ ထပ်တလဲလဲပေါ် နာမ်ဓါတ်လှိုင်းများ = Recurrent Waves

၃၆။ အစမရှိသောအခြင်းအရာ = Phenomena Without Origin

၃၇။ အပိုင်းအခြားမရှိသော အခြင်းအရာ = Infinite Phenomena

၃၈။ တပ်မက်မှုနှင့် အရမ်းလုပ်ချင်မှု = Greed and Desperation

၃၉။ နာမ်ဓါတ်၏ ဆွဲငင်မှုအင်အားများ = Mind's Forces of Gravitation

၄၀။ ညီမျှမှု = Equilibrium

၄၁။ မခိုင်မြဲမှု ( အနိစ္စ ) = Impermanence
မဟုတ်မမှန်မှု ( အနတ္တ ) = Unreality
ဆင်းရဲမှု ( ဒုက္ခ ) = Suffering

၄၂။ မြတ်သောရှစ်သင့်လမ်း = Noble Eightfold Path
( မဂ္ဂင်ရှစ်ပါး )

= = = = = = = = = =

## မာတိကာ အကျယ်

### အခန်း ၁။

### ရုပ်ဓါတ်များနှင့်နာမ်ဓါတ်များ



### အခန်း ၂။

### သက်မဲ့ ရုပ်ဓါတ်များ။

## အခန်း ၃ ။

## သက်ရှိဓါတ်များ ။

အခန်း ၄ ။

နာမ်ဓါတ်၏ အခြင်းအရာများ။

အခန်း ၅။

နာမ်ဓါတ်နှင့်နာမ်ဓါတ်၏အခြေအနေများ။

အခန်း ၆ ။

ရုပ်ဓါတ်ရှိ သတ္တဝါဖြစ်ပေါ်ပုံ။

## အခန်း ၇ ။

## ပသာလမ်းညွှန် ။

## အခန်း ၁။

## ရုပ်ဓါတ်နှင့် နာမ်ဓါတ်များ။

ရုပ်ဓါတ်နှင့် နာမ်ဓါတ်တို့၏ အခြင်းအရာတို့ကို တိတိကျကျ မှန်ကန်စွာ နားလည်ခြင်းသည်၊ သတ္တဝါနှင့် စကြာဝဠာကို လေ့လာရာတွင် ရှေးဦးစွာ ရှိအပ်သော အချက်ဖြစ်သည်ဟု ဗုဒ္ဓကဆို၏။ ထို့ကြောင့် ကျွန်ုပ်တို့သည် ရုပ်ဓါတ်နှင့် နာမ်ဓါတ်တို့၏ အဓိက အခြင်းအရာများနှင့် ထိုအခြင်းအရာများနှင့်စပ်လျဉ်းသည့် အခြေခံသဘောများကို နားလည်ရန် ရှေးဦးစွာအာရုံစိုက်သင့်ကြ၏။ ဤကိစ္စ အတွက် ခွဲခြမ်းစိတ်ဖြာ၍ ကြည့်ရှုမှုသည် အကောင်းဆုံးနည်းဖြစ်သည်မှာ ယုံမှားဖွယ် မရှိ။ သို့ရာတွင် ရုပ်ဓါတ်ကို ခွဲခြမ်းစိတ်ဖြာ၍ ကြည့်ရှုရန် လွယ်ကူသော်လည်း၊ နာမ်ဓါတ်ကိုမူကား ထိုကဲ့သို့ ခွဲခြမ်းစိတ်ဖြာ၍ ကြည့်ရှုရန် မလွယ်ကူ။ နာမ်ဓါတ်ကို ခွဲခြမ်းစိတ်ဖြာ၍ ကြည့်ရှုသောအခါတွင် ယေဘုယျအားဖြင့် ကျွန်ုပ်တို့သည် မျက်စေ့လည် သွားတတ်ကြ၏။

## ရူပဗေဒ နှင့် ဝိဇ္ဇာဗေဒ။

နာမ်ဓါတ်ကို လေ့လာကြည့်ရှုသောအခါတွင် ရုပ်ဓါတ်နှင့် ခွဲခြားပြီး စဉ်းစား၍မရ။ ထို့ကြောင့် ကျွန်ုပ်တို့သည် ရူပဗေဒ ပညာနှင့် ဝိဇ္ဇာဗေဒ ပညာ နှစ်ခုကို ယှဉ်တွဲ၍ လေ့လာကြရမည်သာဖြစ်၏။ ယေဘုယျအားဖြင့် ကျွန်ုပ်တို့ သိကြသော နာမ်ဓါတ်သည် ရုပ်ဓါတ်နှင့် အမြဲတမ်း ပေါင်းဖက် ရောစပ်နေသဖြင့်၊ များစွာကုန်သောသူတို့သည် နာမ်ဓါတ်သည် ရုပ်ဓါတ်ပင်ဖြစ်သည်ဟု အထင်မှားကြ၏။ ရုပ်ဓါတ်ပညာနှင့် နာဓါတ်ပညာ နှစ်ရပ်လုံးကို ကောင်းစွာနားလည်မှု ရှိမှသာလျှင် ရုပ်ဓါတ်နှင့် နာမ်ဓါတ်တို့၏ ခြားနားပုံကို သဘော ပေါက်နိုင်ကြ၏။

နာမ်ဓါတ်သည် စကြာဝဠာ၏ အခြေခံအခြင်းအရာဖြစ်၏။ နာမ်ဓါတ်သည်သာ တန်ခိုးအကြီးဆုံးဖြစ်သည်ဟု ဗုဒ္ဓက ဆို၏။ ဤအချက်ကို ထင်ရှားအောင် ပြုဘို့ တာဝန်ရှိသဖြင့် ဗုဒ္ဓက နာမ်ဓါတ်၏ အခြင်းအရာများကို အသေးစိတ် ဖော်ပြ ရုံမျှသာမကဘဲ၊ ရုပ်ဓါတ်စကြာဝဠာ ပေါင်းဖွဲ့နေပုံကိုလည်း တိကျမှန်ကန်သော ဝေါဟာရတို့ဖြင့် ထင်ရှားစွာ ဖော်ပြ၏။

## လူသည် ရုပ်ဓါတ်နှင့် နာမ်ဓါတ်တို့ ပေါင်းစပ်ထားခြင်းဖြစ်၏။

ဗုဒ္ဓ အသုံးပြုသော နည်းမှာ ခွဲစိတ်ပိုင်းဖြတ်ကြည့်နည်းဖြစ်၏။ ဗုဒ္ဓသည် လူကိုခွဲစိတ်ပိုင်းဖြတ်ကြည့်ပြီးလျှင် လူသည် ရုပ်ဓါတ်နှင့် နာမ်ဓါတ်နှစ်ခု ပေါင်းစပ်ထားခြင်းဖြစ်ကြောင်းကို ထင်လျှားစွာပြ၏။ ထို့နောက် စကြာဝဠာကို ခွဲစိတ်ပိုင်းဖြတ်ကြည့်ပြီးလျှင် စကြာဝဠာသည်လည်း ရုပ်ဓါတ်နှင့် နာမ်ဓါတ်တို့ ပေါင်းစပ်ထားခြင်းပင်ဖြစ်ကြောင်းကို ထင်လျှားစွာပြ၏။ ထို့နောက် ရုပ်ဓါတ်ကို နောက်ဆုံးအခြေရောက်အောင် ခွဲခြမ်း၍ကြည့်၏။ ထို့နောက် ရုပ်ကလာပ် (ရူပကလာပ) ကို ခွဲစိတ်ပိုင်းဖြတ်ကြည့်ပြီးလျှင် ရုပ်ကလာပ်သည် မဟာဘုတ်ဓါတ်များစု ပေါင်းနေခြင်းသာဖြစ်ကြောင်းကို ထင်လျှားစွာပြ၏။ ထို့နောက် ရုပ်ကလာပ်ထဲမှ မဟာဘုတ်ဓါတ်များကို ထုတ်၍၊ မဟာဘုတ်ဓါတ်များသည် ထပ်တလဲလဲ ဖြစ်ပျက်နေသော သဘောရှိကြောင်းနှင့် မဟာဘုတ်ဓါတ်သည် လှုပ်ရှားမှုပင် ဖြစ်ကြောင်းကိုပြ၏။ ထို့နောက် လျှပ်စစ်တပျက်အတွင်း၌ အသီးသီးသော မဟာဘုတ်ဓါတ်တို့သည် အကြိမ်ပေါင်း ၁၇၆၄၇၀၀၀၀၀၀၀၀ ခန့်မျှ လှုပ်ရှားနေကြောင်းကိုလည်း ပြ၏။

စကြာဝဠာအတွင်း၌ ရှိရှိသမျှသော သက်ရှိသတ္တဝါတို့သည် နာမ်ဓါတ် တခုစီ တခုစီဖြစ်ကြပြီးလျှင်၊ ထိုနာမ်ဓါတ်တခုစီတခုစီတို့သည် အခြင်းအရာနှင့် လှုပ်ရှားပုံတွင် မဟာဘုတ်ဓါတ် တခုစီ တခုစီနှင့်တူကြ၏။ သို့ရာတွင် တခုစီ တခုစီသော နာမ်ဓါတ်တို့က တခုစီ တခုစီသော မဟာဘုတ်ဓါတ်များထက် လျှင်မြန်ရာနှင့် အင်အားကောင်းရာတို့တွင် ရေတွက်၍ မရနိုင်လောက်အောင် သာလွန်ကြသည်ဟု ဗုဒ္ဓက ဆို၏။ နာမ်ဓါတ်သည် လျှပ်စစ်တပျက်အတွင်း၌ အကြိမ်ပေါင်း ၃၀၀၀၀၀၀၀၀၀၀၀၀၀ လှုပ်ရှား၍၊ ထိုလှုပ်ရှားမှုအကြိမ်နှုန်းသည် မည်သည့်အခါမျှ ပြောင်းလွဲခြင်းမရှိ။ နာမ်ဓါတ်အင်အားမှာ မိမိတို့ သယ်ဆောင်လာသော မစင်ကြယ်မှုနှင့် စင်ကြယ်မှုအဆောက်အအုံအကြီးအသေးအလိုက် သတ္တဝါတခုနှင့် တခု ခြားနား၏။

နာမ်ဓါတ်တခုနှင့် ရုပ်ဓါတ်တခု၏ အဓိကခြားနားချက်မှာ နာမ်ဓါတ်တခုသည် အခြားမည်သည့် နာမ်ဓါတ် မည်သည့်ရုပ်ဓါတ်နှင့်မျှ ပေါင်းစပ်သွားခြင်း မရှိသော်လည်း၊ မဟာဘုတ်ဓါတ်တို့သည် အခြားမဟာဘုတ်ဓါတ်များနှင့်အမြဲတန်း ရောရှက် ပေါင်းစပ်တတ်ခြင်းဖြစ်၏။ မဟာဘုတ်ဓါတ်တို့သည် အချင်းချင်း ပေါင်းစပ်၍ ရုပ်ဝတ္တုဖြစ်ကြပြီးလျှင် နာမ်ဓါတ်များ၏ အမှုကို ထမ်းဆောင်ကြရ၏။

## နာမ်ဓါတ်၏ အင်မတန် ပြင်းထန် သောအင်အား။

ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာသည် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ရှိ သောအင်အားများ ကြောင့် ဖြစ်ပေါ်လာ၏။ ကျွန်ုပ်တို့ တယောက်စီ တယောက်စီ၏ နာမ်ဓါတ်အသီးသီးတို့သည် ကျွန်ုပ်တို့ တယောက်စီ တယောက်စီ၏ ကိုယ်ခန္ဓာ တခုစီ တခုစီ အတွင်း၌ ဖွဲ့မည်းနေသော အသေးအသျှ မျှသော မဟာဘုတ်ဓါတ်များကို စီမံအုပ်ချုပ်၍ရှိကြ၏။ နာမ်ဓါတ်တိုင်း နာမ်ဓါတ်တိုင်းတွင် အင်မတန်ပြင်းထန်သော အင်အားရှိကြ၏။ သို့ရာတွင် ထိုအင်အားများမှာ ယေဘုယျအားဖြင့် ကိုယ်ခန္ဓာများကို သွားလာလှုပ်ရှားနေစေမှုအတွက် လိုအပ်သော နှစ္စပါတ်ဘာဝန်များကို ထမ်းဆောင်ရာတွင် ကုန်ခန်းလေပျောက်ကုန်ကြ၏။ အကယ်၍ <u>နာမ်ဓါတ်အင်အားများကို အလေအပျောက် မရှိအောင်လုပ်ပြီးလျှင် နာမ်ဓါတ် လေ့ကျင့်မှုနည်းများဖြင့် နောက်ထပ် နာမ်ဓါတ်အင်အားများရအောင် လုပ်ကြသည်ဖြစ်မူ၊ မည်သူမဆို မိမိတို့၏ နာမ်ဓါတ်အင်အားကို မိမိတို့ နာမ်ဓါတ်တို့၏ မှန်တန်းကျက်စားရာ နယ်နိမိတ်များကို ကျော်လွန်၍သွားအောင် လုပ်နိုင်သည့်သာဖြစ်၏။</u>

လူတို့၏ နှလုံးသည် နာမ်ဓါတ် ကိန်းဝပ်ရာဌာနဖြစ်ပြီးလျှင်၊ နာမ်ဓါတ်သည် လူတို့၏ ကိုယ်ခန္ဓာအတွင်း၌ရှိ သက်ရှိရုပ်ကလာပ်အဝှံအဝေး အကုန်လုံးသို့ ပြန့်နှံ့ကာ ဘည်သည်ဟု ဗုဒ္ဓက ဆို၏။ ဤနည်းဖြင့် နာမ်ဓါတ်သည် လူတို့၏ ကိုယ်အင်္ဂါ အဝိဘ်အပိုင်း အကုန်လုံးတွင် ရှိနေ၏။ သို့ရာတွင် အချို့အင်္ဂါအစိတ်အပိုင်းတို့တွင်မူ များ၍ အချို့အင်္ဂါအစိတ်အပိုင်းတို့တွင်မူ နည်း၏။ အာရုံခြောက်ပါးဘည်ရာ အင်္ဂါ အစိတ်အပိုင်းများတွင် နာမ်ဓါတ်ကို အများဆုံး တွေ့ရပြီးလျှင်၊ ဆံပင်နှင့် လက်သီး ခြေသီးများတွင် အနည်းဆုံး တွေ့ရ၏။ နာမ်ဓါတ်က ကြောက်ခမန်းလိလိ ပြင်းထန်သောအရှိန်ဖြင့် လှုပ်ရှားသည့်အခါတိုင်း ကိုယ်ခန္ဓာ အစိတ်အပိုင်းအကုန်လုံးက လိုက်၍ လှုပ်ရှားကြရ၏။ သက်ရှိကိုယ်ခန္ဓာအတွင်း၌ မဟာဘုတ်ဓါတ်တို့သည် နာမ်ဓါတ်မှ ဖြစ်ပေါ်လာသောအင်အားတို့ အုပ်စိုးမှု၍ နေကြရ၏။

## ။ ပစ္စုပ္ပါန် ။

နာမ်ဓါတ်သည် အလွန်လျင် သိမ်မွေ့၏။ နာမ်ဓါတ်သည် လှုပ်ရှားသည့်အခါတိုင်း၊ လှုပ်ရှားသည့်အခါတိုင်း ပြောင်းလွဲသွားသည်ဟု ဗုဒ္ဓက ဆို၏။ နာမ်ဓါတ်၏ အမှန်လှုပ်ရှားမှုတိုင်း၊ အမှန်လှုပ်ရှားမှုတိုင်းတွင် အပြန်လှုပ်ရှားမှု တခုစီ

တခုစီရှိ၏။ နာမ်ဓါတ်သည် လှုပ်ရှားသည့်အခါတိုင်း၊ လှုပ်ရှားသည့်အခါတိုင်း ရွေ့၍ ရွေ့၍သွား၏။ ဤနည်းဖြင့် နာမ်ဓါတ်သည် အချိပ်တောက် တောက် သောလမ်းဖြင့် သွား၏။ နာမ်ဓါတ်၏ လမ်းကြောင်းသည် အချိန်ကာလ၏ လမ်းကြောင်းနှင့် အတူတူပင်ဖြစ်၏။ နာမ်ဓါတ်နှင့် အချိန်ကာလနှစ်ခုဝလုံးတို့သည် အပိုင်းအခြားမရှိ သော အတိတ်မှအပိုင်းအခြားမရှိသော အနာဂတ်သို့ ရွေ့ရှု၍ သွားကြပြီးလျှင် ပစ္စုပ္ပန်၌သာလျှင် တည်နေမှုရှိကြ၏။ ပစ္စုပ္ပန်သည် အတိတ်နှင့် အနာဂတ်တို့ကို ပိုင်း ခြားရာ သေးငယ်လှသော အစက်အပြောက်ကလေးမျှသာဖြစ်ပြီးလျှင် ပစ္စုပ္ပန်၏ တည်နေမှုအချိန်မှာ ဂျီဩမေထရိ ပညာ အစက်အပြောက်ကလေးကဲ့သို့ပင် တိုင်း ထွာ၍ မရနိုင်လောက်အောင် သေးငယ်လှ၏။ နာမ်ဓါတ်နှင့် ရုပ်ဓါတ်၏လှုပ်ရှား မှုကို ဤနည်းဖြင့်သာ တွက်ချက်ကြည့်နိုင်၏။

စကြာဝဠာအကြောင်းကို ဆင်ခြင်ရာတွင် ဗုဒ္ဓသည် အပိုင်းအခြား ရှိသော သင်္ချာနည်းနှင့် အပိုင်းအခြားမရှိသော သင်္ချာနည်း နှစ်နည်းလုံးကို အသုံးပြု၏။ ကျွန်ုပ်တို့သည် ထိုသင်္ချာနည်းနှစ်နည်းလုံး၏ အခြေခံသဘောများကို နားလည်ရန် လို၏။

## အပိုင်းအခြားမရှိသော သင်္ချာ

အပိုင်းအခြားရှိသော သင်္ချာနည်းအရ ပုစ္ဆာအမျိုးမျိုးကို တွက်ချက်ကြ သောအခါ ကျွန်ုပ်တို့အဖို့ အဖြေအမျိုးမျိုးကို ရ၏။ အပိုင်းအခြားရှိသော သင်္ချာ နည်း လေးမျိုးကို အောက်ပါ ဥဒါဟရုဏ်ဖြင့် ထင်ရှားစေနိုင်၏။

( ယ အက္ခရာသည် အပိုင်းအခြားရှိခြင်း၏ သင်္ကေတ ဖြစ်၏။ )

ယ + ယ = ၂ယ ။

ယ − ယ = ၀ ။

ယ × ယ = $ယ^{၂}$ ။

ယ ÷ ယ = ၁ ။

အပိုင်းအခြားရှိသော ကိန်းတခုနှင့် အခြားတူညီသော အပိုင်းအခြား ရှိသော ကိန်းတခုကို ပေါင်းလျှင် ရလာဒ်မှာ ပထမ ကိန်း၏ နှစ်ဆဖြစ်၏။ ဥပမါ ၄ နှင့် ၄ ကို ပေါင်းမည်ဆိုလျှင် ရလာဒ်သည် ၈ ဖြစ်၏။ အပိုင်းအခြားရှိသော ကိန်းတခုထဲမှ အခြားတူညီသော ကိန်းတခုကို နှုတ်လျှင် ရလာဒ်သည် ၀ ( သုည ) ဖြစ် လိမ့်မည်။ အပိုင်းအခြားရှိသော ကိန်းတခုကို အခြားတူညီသော အပိုင်းအခြားရှိ

သော ကိန်းနှင့် မြှောက်လျှင် ကိန်းတူနှစ်ခု မြှောက်ခြင်း၏ ရလာဒ်ကို ရ၏။ ဥပမာ ၄ ကို ၄ နှင့်မြှောက်လျှင် ၁၆ ရ၏။ အပိုင်းအခြားရှိသော ကိန်းတခု ကို အခြားတူညီသော အပိုင်းအခြားရှိသော ကိန်းနှင့်စားလျှင် မည်သည့်အခါ တွင်မဆို ရလာဒ် ၁ ကို ရ၏။ ဥပမာ ၄ ကို ၄ နှင့်စားလျှင် ၁ ရ၏။

အပိုင်းအခြားရှိသော သင်္ချာပညာသဘောတရားများကို အပိုင်း အခြားမရှိသော သင်္ချာပညာတွင် အသုံးမပြုနိုင်။ အပိုင်းအခြားမရှိသော ကိန်းတခုနှင့်ပတ်သက်သော ပုစ္ဆာမှန်သမျှ၏ အဖြေမှာ တခုတည်း သာရှိ၍ ထို တခုတည်းသော အဖြေမှာ အပိုင်းအခြားမရှိသော ကိန်းပင်ဖြစ်လိမ့်မည်။ အပိုင်းအခြားမရှိသော သင်္ချာပညာ ဥဒါဟရုဏ် လေးခုမှာ အောက်ပါအတိုင်း ဖြစ်၏။

( မ အက္ခရာသည် အပိုင်းအခြားမရှိခြင်း၏ သင်္ကေတ ဖြစ်၏။ )

မ + မ = မ ။

မ − မ = ပ ။

မ × မ = ပ ။

မ ÷ မ = ပ ။

အပိုင်းအခြားမရှိသော ကိန်းတခုနှင့် အခြား အပိုင်းအခြားမရှိသော ကိန်းတခုကို ပေါင်းလျှင် အပိုင်းအခြားမရှိကိန်းကိုရလိမ့်မည်။ ထိုအပိုင်းအခြား မရှိသော ကိန်းနှင့်ခုမှာ အခြားအပိုင်းအခြားမရှိသော ကိန်း၏ နှစ်ဆဖြစ် လိမ့်မည် မဟုတ်။ ထို့နည်းအတူပင် အပိုင်းအခြားမရှိသော ကိန်းတခုထဲမှ အပိုင်း အခြားမရှိသော ကိန်းတခုကို နှုတ်လျှင် အကြွင်းတခု အမြဲကြွင်းလိမ့်မည်။ ထိုအကြွင်း မှာ အပိုင်းအခြား မရှိသော ကိန်းဖြင့်လိမ့်မည်။ အပိုင်းအခြားမရှိသော ကိန်း ကို အပိုင်းအခြား မရှိသော ကိန်းတခုနှင့် အကြိမ်ကာလ အပိုင်းအခြားမရှိဘဲ ဆက်၍ မြှောက်သည့်ပင်ဖြင့် ပေါက်သော ရလာဒ်မှာ အပိုင်းအခြားမရှိသော ကိန်းပင် ဖြစ် လိမ့်မည်။ အပိုင်းအခြားမရှိသော ကိန်းတခုကို အပိုင်းအခြားမရှိသော ကိန်း တခုနှင့်စားလျှင်လည်း အဖြေမှာ အပိုင်းအခြားမရှိသော ကိန်းပင်ဖြင့်လိမ့်မည်။ ထိုနည်းဆိုသော် အပိုင်းအခြားမရှိသော သင်္ချာပညာတွင် အပေါင်း အနှုတ် အမြှောက်အစား နည်းများကို သုံး၍မရ ။

## ဟင်းလင်းပြင်နှင့် အချိန်

အပိုင်းအခြားမရှိခြင်း သဘောမှာ ကျဉ်းကြုံခြင်းနှင့် ကျယ်ပြန့်ခြင်းဟု နှစ်မျိုးရှိ၏။ ဟင်းလင်းပြင် အစက်အပြောက် သေးငယ်သော ပမာဏနှင့် အချိန် အစက်အပြောက် သေးငယ်သော ပမာဏတို့သည် အပိုင်းအခြားမရှိမှုဆိုင်ရာ ကျဉ်းကြုံခြင်းသဘောတရားကို နာခံကြရ၏။ ဟင်းလင်းပြင်အတွင်း၌ အဘက်ဘက်သို့ ရွေ့ရှား၍ တိုင်းတွာသော အရှည်ပမာဏနှင့် အချိန်ကာလအတွင်း၌ အတိတ်နှင့် အနာဂတ်ဘက်သို့ ရွေ့ရှားတိုင်းတွာသော အရှည်ပမာဏတို့သည် အပိုင်းအခြားမရှိမှု နှင့်ဆိုင်သော ကျယ်ပြန့်ခြင်း သဘောတရားကို နာခံကြရ၏။

ဟင်းလင်းပြင်အတွင်း၌ အစက်အပြောက်နှစ်ခု၏ ပဝ်ကြား၌ အရှည် ပမာဏမှာ မည်မျှလောက်ပင် သေးငယ်သည်ဖြစ်စေကာမူ အပိုင်းအခြားရှိသဖြင့် တိုင်းတွာ၍ရပြီးလျှင် ပေါ်ပြ၍လည်း ဖြစ်နိုင်၏။ မျဉ်းကြောင်းဟကြောင်းသည် ဘလက္ခဏာကို ကူရှေးဟယ်န်းပုံ၍ဘ ပုံသာ ရှည်ပြင်ရှည်မည်ဖြစ်သော်လည်း ထိုမျဉ်းကြောင်းကို လျောက်ပတ်သော ကိရိယာနှင့် တိုင်းတွာ၍ ရနိုင်သဖြင့် အပိုင်းအခြားရှိသော သင်္ချာကိန်းဖြင့် ပေါ်ပြနိုင်၏။ ဘလက္ခဏာကို ကူရှေးဟယ်န်းပုံ၍ သုံးပုံသာရှိသော ဟင်းလင်းအပြင်ယံ၌ (ဝဲလ်မြေထရီ သင်္ချာ) အစက်အပြောက်ပေါင်း အပိုင်းအခြားမရှိ ဘည် နေနိုင်၏။ နာမ်ဓါတ်ဘ ချက်ဟူပ်သည့်အတွင်း၌ ထိုနာမ်ဓါတ် ရောက်ပေါက်သွားသော အစက်အပြောက်ပေါင်း မည်မျှရှိသည်ကို တွက်ချက်သောအခါတွင် အပိုင်းအခြားမရှိသော သင်္ချာပညာနည်းကို အသုံးပြုရ၏။

## စကြာဝဠာ၏ ဗဟို

စကြာဝဠာသည် အကျယ်ပမာဏ၌၎င်း၊ အချိန်ကာလ ရှည်ကြာမှု အဝ၌ရှိသည်တို့၌၎င်း၊ မည်သည့်ဘက်တွင်မျှ အပိုင်းအခြားမရှိဟု ဗုဒ္ဓကဆို၏။ အဆုံးပါ အပိုင်းအခြားမရှိမှုကို မည်ကဲ့သို့မျှ သင်္ချာနှင့်တွက်၍ မရနိုင်။ ထို့ကြောင့် အဆုံးပါ အပိုင်းအခြားမရှိမှု သမုဒ္ဒရာကြီး အတွင်း၌ ဟင်းလင်းပြင်အတွင်း၌ ရှိသမျှသော အစက်အပြောက်များသည် စကြာဝဠာ၏ ဗဟိုချည်းသာဖြစ်ကြကုန်၏။ ဘောင်းကင်ပညာသရာများ တွေ့ရှိရသည့်ကြယ်များအနက်မှ အဝေးဆုံးဖြစ်သော ကြယ်ကို စကြာဝဠာ၏ ဗဟိုဟု ဆိုနိုင်သကဲ့သို့ ဤကမ္ဘာ မြေကြီးကိုလည်း စကြာဝဠာ၏ ဗဟိုဟု ဆိုနိုင်သည်သာဖြစ်၏။ အချိန်သည်လည်း ထိုနည်းအတိုင်းပင် ဖြစ်၏။ အချိန်၌ အစလည်း မရှိ အဆုံးလည်း မရှိ။ အချိန်သည် အတိတ်

ဘက်တွင်လည်း အပိုင်းအခြားမရှိ။ အနာဂတ်ဘက်တွင်လည်း အပိုင်းအခြားမရှိအောင်ရှည်လျား၏။ ထို့ကြောင့် အချိန်အစက် ပြောက်အားလုံးသည် အချိန်၏ ဗဟိုချည်း ဖြစ်ကြကုန်၏။ ပစ္စုပ္ပန် အချိန်သည် နှစ်ပေါင်း မရေမတွက်နိုင်လောက်အောင် ကြာခဲ့သော အတိတ်အချိန်နှင့် နှင်ပေါင်းမရေမတွက်နိုင်လောက် အောင်ကြာသောအခါကျမှ ဖြင်ပေါ်မည့် အနာဂတ်အချိန်တို့ကဲ့သို့ပင် အချိန်၏ ဗဟိုပင် ဖြစ်၏။

အပိုင်းအခြားရှိသော သချာပညာသည် အပိုင်းအခြားရှိသော ပမာဏများကိုသာ တွက်ချက်နိုင်၏။ လူကိုယ်ခန္ဓာ၏ ပမာဏကို တွက်ချက်ခြင်း၊ လူတန်ခိုးအရှိန်ပြန့်နှံ့ရာ အကျယ်အဝန်းကို တွက်ချက်ခြင်း၊ ကမ္ဘာမြေကြီး၏ အကျယ်ပမာဏကို တွက်ချက်ခြင်း၊ လူတို့သိပြီးဖြစ်သော စကြာဝဠာ၏ အကျယ်အဝန်းကိုတွက်ချက်ခြင်းတို့မှာ အပိုင်းအခြားရှိသော ပမာဏများကို တွက်ချက်ခြင်းသာဖြစ်၏။ ထိုနည်းအတိုင်းပင် လူ၏ သက်တမ်းကို တွက်ချက်ခြင်း၊ ကမ္ဘာမြေကြီး၏ သက်တမ်းကို တွက်ချက်ခြင်း၊ လူတို့သိပြီးဖြစ်သော စကြာဝဠာ အဝိုက်အပိုင်း၏ သက်တမ်းကို တွက်ချက်ခြင်းတို့မှာ အပိုင်းအခြားရှိသော အချိန်ကာလ၏ ပမာဏကို တွက်ချက်ခြင်းသာ ဖြစ်၏။ သို့ရာတွင် အပိုင်းအခြားမရှိသော သချာပညာသည်မူကား မည်သည့် ပမာဏမျိုးကိုမဆို တွက်ချက်နိုင်၏။

## လှုပ်ရှားမှုတို့၏ စပ်ကြားအချိန်

နာမ်ဓါတ် တခါလှုပ်၍ ကြာသည့်အချိန်မှာ လျှပ်စစ်ကပျက်ကို ကုဋေဘသိန်းပုံလျှင် သုံးပုံမျှသာရှိသော်လည်း ထိုအချိန်မှာ အပိုင်းအခြားရှိသော အချိန်သာ ဖြစ်၏။ ထို့ကြောင့် ထိုအချိန်ကို သချာနည်းနှင့် ဘိုင်းထွာ၍ ပေါ်ပြနိုင်၏။ ထိုမျှ တိုတောင်းသော အချိန်အတွင်း၌ နာမ်ဓါတ် ရောက်ပေါက်သွားသော အချိန်ကာလ အစက်ပြောက်ပေါင်းသည်ကား အပိုင်းအခြား မရှိ။ အချိန်ကာလ အဝက်ပြောက်များနှင့် ဘိုင်းထွာ၍ ကြည့်မည်ဆိုလျှင် စိတ်တခါ လှုပ်သောအချိန်မှာ အလွန်လျှင် ရှည်ကြာလှ၏။

နာမ်ဓါတ် တခါလှုပ်နှင့် တခါလှုပ် စပ်ကြား၌၎င်း၊ ရုပ်ဓါတ်တခါလှုပ်နှင့်တခါလှုပ် စပ်ကြား၌၎င်း၊ ဟင်းလင်းဖြစ်၍နေ၏။ သို့ရာတွင် ထိုသို့ ဟင်းလင်းဖြစ်နေသော အချိန်မှာ တိုတောင်းလှသဖြင့် အပိုင်းအခြားမရှိမှု အဝက်ပြောက် တပြောက်လောက်မျှပင် မရှိ။ နာမ်ဓါတ်တခါလှုပ်ခြင်းနှင့် ရုပ်ဓါတ်တခါလှုပ်ခြင်းတို့မှာ တခုနောက်သို့တခု နီးကပ်စွာလိုက်၍ နေကြသဖြင့် ထိုသို့တခါလှုပ်နှင့်တခါလှုပ် စပ်ကြားတွင် ပေါ်ပေါက်သော ဟင်းလင်းပေါက်မှာ မြင်နိုင်ခဲမျှဖြစ်၏။ သို့ရာတွင် ထိုဟင်းလင်းပေါက်မှာ အပိုင်းအခြားရှိ၍ အကျယ်ဝင်စပ်တည်ရှိသော အရာသာဖြစ်၏။

## အခန်း ၂။

## သက်မဲ့ရုပ်ဓါတ်များ

ဗုဒ္ဓက စကြာဝဠာအတွင်း၌ရှိ အရာဝတ္ထုအားလုံးကို ပုံပေါင်း၍ ရုပ်ဓါတ်ဟု ခေါ်၏။ ဤအခန်းတွင် စကြာဝဠာအတွင်း၌ ပါဝင်သော အရာဝတ္ထု အမျိုးမျိုးနှင့်ပတ်သက်၍ ဗုဒ္ဓက အသေးစိတ် ဖော်ပြထားချက်များကို ဝေဖန်၍ ကြည့်ကြမည်။ ရုပ်ဝတ္ထုအမျိုးမျိုးအား ဖြစ်ပေါ်သည့် အစဉ်အတိုင်း ဖော်ပြအံ့။

စကြာဝဠာထဲ၌ မြေ၊ ရေ၊ လေ၊ မီး ဟူသော ထင်ရှားသော မဟာဘုတ်ဓါတ်ကြီး လေးပါးရှိ၏။ ဤဓါတ်ကြီး လေးပါးထဲတွင် တခုခုသော ဓါတ်က လွန်ကဲလျက်ရှိပြီးလျှင် ကျန်ဓါတ်များက အနည်းငယ်ဝိသာပါ၏။ ဤဓါတ်ကြီး လေးပါးကို ပထမအဆင့်ဓါတ်နှင့် ဒုတိယအဆင့်ဓါတ်ဟု ဗုဒ္ဓက ခွဲခြားခေါ်ဝေါ်ရာတွင် ပရမတ္ထသဘောဖြင့် ခေါ်ဝေါ်ခြင်းသာဖြစ်၏။

## အခြေခံရုပ်ဓါတ်အင်အားများ

မဟာဘုတ်ဓါတ်များသည် အခြေခံလှုပ်ရှားမှု (ကြိယာ) များ သို့မဟုတ် အင်အားများဖြစ်၏။ ထိုအင်အားများသည် ထပ်တလဲလဲ လှုပ်ရှားမှုဖြင့် တည်နေကြ၏။ ထိုအင်အားများ၏ လှုပ်ရှားမှုအမြန်နှုန်းမှာ နာမ်ဓါတ်၏ လှုပ်ရှားမှုအမြန်နှုန်းထက် ၁၇ ဆနည်း၍၊ လျှပ်ဝပ်တပျက် အချိန်အတွင်း၌ အကြိမ်ပေါင်း - ၁၇၆၄၇၀၀၀၀၀၀၀ လှုပ်ရှား၏။ တနည်းအားဖြင့်ဆိုသော် ထိုအင်အားများသည် စကြာဝဠာဖြစ်ခြင်း အကြောင်းရင်းဖြစ်သော မဟာဘုတ် ရုပ်ဓါတ်များဖြစ်၏။ ထိုရုပ်ဓါတ်အင်အားများသည် အထက်ပါအမြန်နှုန်းအတိုင်း ထပ်တလဲလဲ လှုပ်ရှားနေကြ၏။

စကြာဝဠာအတွင်း၌ရှိသော မဟာဘုတ်ဓါတ်ကြီးများမှာ (၁) မြေဓါတ် (ပထဝီ) (၂) ရေဓါတ် (အာပေါ) (၃) လေဓါတ် (ဝါယော) နှင့် (၄) မီးဓါတ် (တေဇော) တို့ဖြစ်၏။ မြေဓါတ်သည် မြေဟုလူအများ ခေါ်ဝေါ်နေကြသော အရာဝတ္ထု၏ အခြေခံအင်အားဖြစ်၏။ ရေဓါတ်သည် ရေဟု လူအများ ခေါ်ဝေါ်နေကြသော အရာဝတ္ထု၏ အခြေခံအင်အား ဖြစ်၏။ လေဓါတ်သည်လေဟု လူအများ ခေါ်ဝေါ်နေကြသော အရာဝတ္ထု၏ အခြေခံအင်အား ဖြစ်၏။ မီးဓါတ်သည် မီးဟု လူအများ ခေါ်ဝေါ်နေကြသော အရာဝတ္ထု၏ အခြေခံအင်အားဖြစ်၏။

အဆိုပါ မဟာဘုတ်ဓါတ်ကြီး ( မဟာဘူတ ) လေးပါးတွင် ဂုဏ်နှစ်မျိုးစီ ရှိ၏။ ထိုဂုဏ်နှစ်မျိုးသည် ရုပ်တရက်ကြည့်လျှင် အပြန်အလှန်ဂုဏ်များဟု ထင်ရသော်လည်း သေချာစွာ စစ်ဆေးကြည့်ရှုသောအခါ အတူတူပင်ဖြစ်၏။ ထိုဂုဏ်နှစ်ပါးမှာ အောက်ပါအတိုင်းဖြစ်၏။

( ၁ ) မြေဓါတ် ။ ။ မာခြင်း၊ ပျော့ခြင်း ။

( ၂ ) ရေဓါတ် ။ ။ ယိုစီးခြင်း၊ စေးကပ်ခြင်း ။

( ၃ ) လေဓါတ် ။ ။ ကျယ်ပြန့်ခြင်း၊ ကျဉ်းကြုံခြင်း ။

( ၄ ) မီးဓါတ် ။ ။ ပူခြင်း၊ အေးခြင်း ။

စကြာဝဠာတွင်း၌ ရှိရှိသမျှသော အရာဝတ္ထုများအနက် မည်သည့်အရာဝတ္ထုသည်မျှ အဆိုပါ ဓါတ်ကြီးလေးပါး မပါဝင်ဘဲနှင့် ဖြစ်ပေါ်မလာနိုင်။ ဓါတ်ကြီး ၄ ပါး ပါဝင်သည့်အတွက် ခပ်သိမ်းသော အရာဝတ္ထုတိုင်း၌ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ဂုဏ်ရှစ်မျိုးရှိနေခြင်းဖြစ်၏။

## အရာဝတ္ထုများဖြစ်ပေါ်ပုံ

မြေဓါတ်လွန်ကဲသော အရာဝတ္ထုတို့သည် မာ၍ မြေဓါတ်ယုတ်နည်းသော အရာဝတ္ထုတို့သည် ပျော့၏။ ရေဓါတ်လွန်ကဲသော အရာဝတ္ထုတို့သည် ယိုစီး၍ ရေဓါတ်ယုတ်နည်းသော အခြားအရာဝတ္ထုတို့သည် တွယ်ကပ်၍ နေကြ၏။

လေဓါတ်လွန်ကဲသော အရာဝတ္ထုတို့သည် ကျယ်ပြန့်၍ လေဓါတ်ယုတ်နည်းသော အရာဝတ္ထုတို့သည် ကျဉ်းကြုံ၏။ ထိုနည်းအတူပင် မီးဓါတ်လွန်ကဲသော အရာဝတ္ထုတို့သည် ပူ၍ မီးဓါတ်ယုတ်နည်းသော အရာဝတ္ထုတို့သည် အေး၏။ အားလုံးသော မဟာဘုတ်ဓါတ်တို့သည် ထပ်တလဲလဲ လှုပ်ရှားမှုဖြင့် မိမိတို့ဟာ မိမိတို့ တသီးတခြားစီ နေလိုသော သဘောရှိကြ၏။ သို့ရာတွင် မဟာဘုတ်ဓါတ်တမျိုးသည် အမျိုးမတူသော အခြားမဟာဘုတ်ဓါတ်တမျိုးနှင့် ကြုံတွေ့သော အခါတွင် ထိုကဲ့သို့ တသီးတခြားတည် နေနိုင်ခွင့်မရှိတော့။ အဘယ့်ကြောင့်ဆိုသော် ထိုအခါတွင် အားလုံးသော မဟာဘုတ်ဓါတ်တို့သည် အပိုင်းအခြားမရှိအောင် ကျယ်ပြန့်၍ သွားကြပြီးနောက် တခုကိုတခုက တင်းကြပ်နိုင်မာစွာ ဆွဲငင်ထားသော ကြောင့်ဖြစ်၏။

မဟာဘုတ်ဓါတ်ကြီးလေးပါးသည် မိမိတို့ အချင်းချင်း တွေ့ဆုံကြသော အခါတွင် တခုနှင့်တခု အလွန်တင်းကြပ်နိုင်မြဲစွာ ဆွဲငင်ပေါင်းစပ်ကြသဖြင့် တခုအတွင်းသို့ တခုအကြင်းမဲ့ ထိုးဝင်ကြ၏။ အရာဝတ္ထုတို့သည် ထိုကဲ့သို့ မဟာဘုတ်ဓါတ်ခြင်း ပေါင်းစပ်ရာမှ ဖြစ်ပေါ်လာကြ၏။

ထိုသို့ ပေါင်းဝင်ကြသောအခါတွင် မဟာဘုတ်ဓါတ်ကြီး လေးပါးတို့၏ အပုံပုံဖြစ်သော အင်္ဂါအားတို့သည် တန်ခိုးဝ၍ပြုကြပြီးလျှင်၊ ဓါတ်ကြီး ဘမျိုးစိ တမျိုး ပ်ဖြစ်သော ကြောင့် ဖြစ်ပေါ်လာသော အကျိုးတရားတို့သည် ကျန်ဓါတ်သုံးပါး အပေါ်သို့ သက်ရောက်ကြ၏။ ဥပမာ ဆိုသော် အကယ်၍ အရာဝတ္ထုတခုသည် မြေဓါတ်က များများနှင့် အခြားဓါတ်ကြီး သုံးပါးက နည်းနည်းစီ ပေါင်းစပ်၍ ဖြစ်ပေါ်လာသည်ဖြစ်မူ ထိုအရာဝတ္ထုသည် မာလိမ့်မည်ဖြစ်၏။ အဆိုပါအရာဝတ္ထုထဲတွင် ရေဓါတ်ယုတ်နည်းသည် ဖြင်သောကြောင့် ထိုရေဓါတ်သည် ထိုအရာဝတ္ထုအား ခဲကပ်ခြင်း၊ ခုပေါင်းနေခြင်း အကျိုးကိုသာ ဖြစ်စေနိုင်လိမ့်မည် ဖြစ်၏။ အဆိုပါအရာဝတ္ထုထဲတွင် လေဓါတ်သည် ယုတ်နည်းလျက်ရှိသဖြင့်၊ ထိုယုတ်နည်းခြင်းအကျိုးအားဖြင့် အဆိုပါအရာဝတ္ထုသည် ကျဉ်းကြပ်ခြင်း သဘောရှိပြီးလျှင် ပမာဏ သေးငယ်မည်သာဖြစ်၏။ ထို့ပြင် မီးဓါတ်ယုတ်နည်းခြင်း ကြောင့်လည်း ထိုအရာဝတ္ထုသည် အေးလိမ့်မည်သာဖြစ်၏။

## <u>မြေ၊ ရေ၊ လေ၊ မီး ။</u>

မီးဓါတ်သည် အရာဝတ္ထုများကို အေးမှု၊ ပူမှုကို ဖြစ်စေနိုင်သည့်အပြင် အရာဝတ္ထုများအား အခြေအနေအမျိုးမျိုး၌ တည်နေစေနိုင်၏။ အထက်ပါအရာဝတ္ထုများသည် ယခုဖော်ပြအပ်သော မီးဓါတ်၏အကျိုးကြောင့် မာကြော၊ သိပ်သီး၊ တင်းကြပ်၊ ကျဉ်းကြပ်၍ အေးသောအရာဝတ္ထုအဖြစ်သို့ ရောက်လာပြီးလျှင် လူအများက မြေဟု ခေါ်ကြသော အရာဖြစ်၍ လာလိမ့်မည်။

ကျန်ရစ်တို့ ရေဟု ခေါ်သော အရာဝတ္ထုတွင်လည်း အဆိုပါ ဂုဏ်မျိုးများရှိ၏။ ရေသည် ရေဓါတ်လွန်ကဲသော အရာဖြစ်၏။ ထိုသို့ ရေဓါတ်လွန်ကဲခြင်းကြောင့်သာလျှင် ရေသည် ယိုစီးခြင်းဖြစ်၏။ မြေဓါတ် နည်းပါးသည့်အတွက် ရေသည် မြေ့ခြင်းဖြစ်၏။ သို့ရာတွင် ရေသည် အထုံကိုအလျောက် လေးလန်သည်ကို ယောက်ရှုရသဖြင့် ရေထဲ၌ပါသော မြေဓါတ်မှာ တောင့်တောင့်များသည်ကို သိရ၏။ ရေထဲ၌ လေဓါတ်လည်း တောင့်တောင့်များများပါ၏။ ထို့ကြောင့် ရေသည် ကျယ်ပြန့်မှု ရှိခြင်းဖြစ်၏။ လေဓါတ်သည် ကျဉ်းကြပ်မှုကိုလည်း ဖြစ်စေသတ်၏။ သို့မဟုတ်ပါမူ ရေသည် အပိုင်းအခြားမရှိ ယိုစီး၍ သွားမည်သာဖြစ်၏။ ဤနည်းဖြင့် ရေထဲ၌ ပါဝင်နေသော လေဓါတ်သည် ရေကို အပိုင်းအခြားမရှိ ယိုစီးသွားခြင်းမှ ချုပ်ထိန်းထားပြီးလျှင် အပိုင်းအခြားမရှိ ကျဉ်းကြပ်သွားခြင်းမှလည်း ပိတ်ပင်ထား၏။ ရေ၏ အေးခြင်း ပူခြင်းမှာ မီးဓါတ်ပါဝင်မှုနည်းခြင်း များခြင်း အလိုက်ဖြစ်၏။

လေသည်လည်း ဤနည်းအတိုင်းပင်ဖြစ်၏။ လေသည် လေဓါတ်လွန်ကဲ၍ အခြားဓါတ်သုံးပါးယုတ်နည်းသော အရာဝတ္ထုဖြစ်၏။ လေဓါတ်လွန်ကဲခြင်းကြောင့် လေသည် ကျယ်ပြန့်သော သဘောရှိ၏။ မြေဓါတ်နည်းပါးခြင်းကြောင့် လေသည် ပေါ့ပါး၍ ရွေ့ပြောင်းခြင်းဖြစ်၏။ ရေဓါတ် ပါဝင်ခြင်းကြောင့်သာ လေသည် ယိုစီးခြင်း ဝေကင်ပူးတွဲနေခြင်းဖြစ်၏။ လေ၏ အေးခြင်းပူခြင်းမှာ မီးဓါတ် နည်းခြင်း များခြင်း အလိုက်ဖြစ်၏။

မီးသည်လည်း အခြား အရာဝတ္ထုသုံးမျိုးကဲ့သို့ပင် အရာဝတ္ထုတမျိုး ဖြစ်၏။ မီးသည် မီးဓါတ်လွန်ကဲ၍ အခြားဓါတ်သုံးပါး ယုတ်နည်း သော အရာဝတ္ထု ဖြစ်၏။

<u>အခြေခံအင်အားများသည် အရာဝတ္ထုအားလုံးထဲသို့ ဝင်၍ နေကြပုံ ။</u>

စကြာဝဠာအတွင်း၌ ခပ်သိမ်းသော အရာဝတ္ထုတို့သည် မဟာဘုတ်ဓါတ်ကြီး လေးပါး၏ အင်အားများကို ပေါင်းထားသော အရာများသာဖြစ်၏။ ဓါတ်ကြီး လေးပါး မပါဝင်သော အရာဝတ္ထုဟူ၍ မရှိ။

ဓါတ်ကြီး လေးပါး ပါဝင်သော အချိုးအစားမှာ အရာဝတ္ထု တခုနှင့် တခု မတူ။ စကြာဝဠာအတွင်း၌ အရာဝတ္ထုအမျိုးမျိုး အဖုံဖုံ ဖြစ်ပေါ် နေခြင်းမှာ အဆိုပါ ဓါတ်ကြီး လေးပါး ပါဝင်မှု အချိုးအစားအမျိုးမျိုး အဖုံဖုံ ခြားနားခြင်းကြောင့်ဖြစ်၏။

ကျွန်ုပ်တို့ တွေ့မြင်ကြရသမျှသော အရာဝတ္ထုအပေါင်းသည် မဟာဘုတ် ဓါတ်ကြီး လေးပါးတို့ ပေါင်းဝပ်နေသော အရာဝတ္ထုချည်းသာဖြစ်၏။ ဤအချက်ကို ကောင်းစွာမှတ်အပ်၏။ နေ ရောင် သို့မဟုတ် မီး ရောင်သည် မဟာဘုတ်ဓါတ်ကြီး လေးပါး ပေါင်းစပ်နေသော အရာသာဖြစ်၏။ ကျောက်ခဲ၊ သတ္တု၊ အရည်၊ လေ၊ မီး တို့လည်း ထိုနည်း အတိုင်းပင်ဖြစ်၏။

<u>ရူပကလာပ် ဖွဲ့စည်းပုံ</u>

ဤကျမ်းတွင် ရူပကလာပ် ( ရူပကလာပ ) သည် အရာဝတ္ထုများ၏ အသေးငယ်နိုင်သမျှအသေးငယ်ဆုံးသော အစိတ်အပိုင်းဖြစ်ကြောင်းကို လေ့လာအံ့။ ရူပကလာပ်ဆိုသည်မှာ မဟာဘုတ်ဓါတ်ကြီး လေးပါးအနက် တပါးပါးသော ဓါတ်ကြီးသည် သီးခြားအဖြစ်သို့ ရောက်လာအောင်ဖွဲ့စည်းနေခြင်းပင်ဖြစ်၏။ ထိုရူပကလာပ်ထဲတွင် ကျန်သောဓါတ်ကြီးသုံးပါးမှ အစိတ်အပိုင်းများလည်းပါဝင်ချင်ပါဝင်နိုင်၏။ ထို့ကြောင့် ဥပမာအားဖြင့်စုစုပေါင်း ၁၁၁၁ အစိတ်အပိုင်းရှိသော ရူပကလာပ် ထဲတွင် မြေဓါတ် ၁၀၀၀၊ မီးဓါတ် ၁၀၀၊ ရေဓါတ် ၁၀ နှင့် လေဓါတ် ၁ ပါဝင် နိုင်၏။

တခုပ် တခုပ်ဖြင့်သော မဟာဘုတ်ဓါတ်များကို ခွဲဝိတ်၍မရ၊ ထို့ကြောင့် အထက်ပါ မဟာဘုတ်ဓါတ် ၁၁၁၁ ခုရှိသော ရုပ်ကလာပ်ကို တနည်းနည်းဖြင့် ခွဲဝိတ်၍ ကြည့်ရသော် လေဓါတ် ၁ သို့ ရောက်သောအခါ လေဓါတ် ၁ ကို နောက်ထပ် ခွဲဝိတ်၍ရ တော့မည်မဟုတ်။ အဆိုပါ ရုပ်ကလာပ်ကို ခွဲဝိတ်လိုက်သော အခါတွင် လေဓါတ်သည် အခြားဓါတ်များ၏ ဆွဲငင်ထားမှုကို မှ လွှတ်၍ လွတ်မြောက် သွားလိမ့်မည်။ အဆိုပါ လေဓါတ်လွတ်မြောက်၍သွားသောအခါတွင် ကျန်သောဓါတ် ၁၁၀၀ သည် မိမိတို့ ဖွဲ့စည်းနေနိုင်မှုအတွက် အရေးကြီးသော လေဓါတ် မရှိ တော့သဖြင့် ချက်ခြင်း တကွဲတပြားစီဖြစ်၍ သွားကြလိမ့်မည်။ ရုပ်ကလာပ်တခုကို ခွဲဝိတ်လိုက်သောအခါတွင် ထိုရုပ်ကလာပ်တွင်း၌ရှိသော မဟာဘုတ်ဓါတ်အားလုံး သည် တကွဲတပြားစီ ဖြစ်၍သွားကြပြီးလျှင် မိမိတို့ အစဉ်ဖြစ်မြဲအတိုင်း မိမိတို့ဟာ မိမိတို့ ယဝ်ဘလဲလဲ လှုပ်ရှားကာ တခြားစီ နေကြလိမ့်မည်။ လေဓါတ်သည် အခြား ဓါတ်များနှင့် မထိတွေ့ဘဲ နေသမျှကာလပတ်လုံး အဆိုပါ ရုပ်ကလာပ်အတွင်း၌ရှိ ဓါတ်တို့သည် ကြိမ်ဖန်များစွာ ယဝ်ဘလဲလဲ လှုပ်ရှား၍ နေကြလိမ့်မည်။ သို့ရာတွင် ထိုဓါတ်များသည် အချင်းချင်းပြန်၍ ဆုံတွေ့သောအခါတွင်မူ ပြန်၍ ဖွဲ့စီးကြလိမ့် မည်။

## ရုပ်ကလာပ် အင်အား

အဆိုပါ ရုပ်ကလာပ်အတွင်း၌ရှိ မဟာဘုတ်ဓါတ် ၁၁၁၁ ခုသည် အထက်ပါ နည်းအတိုင်း အစည်းပြေ၍ သွားသောအခါတွင် အင်အားကြီးမား ၁၁၁၁ ခုအဖြစ် သို့ ရောက်သွားကြပြီးလျှင် မိမိတို့ မှန်တန်း အမြန်နှုန်းအတိုင်း လျှပ်ပင်တပျက် အတွင်း၌ အကြိမ် ပေါင်း ၁၇၆၄၇၀၀၀၀၀၀ လှုပ်ရှား၍ နေကြလိမ့်မည်။ ဤသို့ လှုပ်ရှား သော အကြိမ်ပေါင်းကို တက်နာဂရီ တဝက္ကန့်နှင့်တွက်လျှင် သင်္ချာ အဖြေအများပင် ဖိုး၍လာလိမ့်ဦးမည်။ အကယ်၍ မဟာဘုတ်ဓါတ်တခုကို တဝုံ တခုသော နည်းဖြင့် အခြားဓါတ်သုံးခုနှင့် မတွေ့ထိအောင် ခွဲခြား၍ ထားနိုင် မည်ဆိုပါလျှင် ထိုဓါတ်၏ အထက်မဖြတ် လှုပ်ရှားခြင်းများသည် အပိုင်းအခြားမရှိ အောင် များပြားလိမ့်မည်ဖြစ်၏။

အကယ်၍ အထက်တွင် ဥပမာ ပေးခဲ့သော ရုပ်ကလာပ်၌ ပါဝင်သည့် မဟာဘုတ်ဓါတ် ၁၁၁၁ ခုသည် ပြန်၍ ပေါင်းစပ်စီသည်ဖြစ်မူ၊ မူလ ရုပ်ကလာပ် ကဲ့သို့သော ရုပ်ကလာပ်တခု ပြန်၍ ဖြစ်လာလိမ့်မည်။

ထိုရုပ်ကလာပ်အတွင်း၌ မြေဂါက် ၁၀၀၀ သည် အင်အား ၁၀၀၀ နှင့်ညီမျှသော မာကြောမှုနှင့် လေးလံမှုကို ဖြစ်စေလိမ့်မည်။ ထိုနည်းတူပင် မီးဓါတ် ၁၀၀ သည် အပူအင်အား ၁၀၀ ကိုဖြစ်စေလိမ့်မည်။ ထိုနည်းတူပင် ရေဓါတ် ၁၀ ကလည်း ယိုစီးခြင်းအင်အား သို့မဟုတ် ဝေးကပ်ခြင်းအင်အား ၁၀ ကို ဖြစ်စေပြီးလျှင် လေဓါတ် ၁ ကလည်း ကျယ်ပြန့်ခြင်းအင်အား ၁ ကို ဖြစ်စေလိမ့်မည်။

## အင်အားခြင်း ပေါင်းစပ်ပုံ

အင်အား လေးမျိုးသည် ပေါင်းစပ်၍ ရုပ်ကလာပ်ကို ဖွဲ့စည်းထား၏။ မြေဓါတ် ၁၀၀၀ သည် ကျန်ဓါတ် ၁၁၁ အတွင်းသို့ ထိုးဝင်၍ ဆွဲငင် ထားကြ၏။ မီးဓါတ် ၁၀၀ သည် ကျန်ဓါတ် ၁၀၁၁ အတွင်းသို့ ထိုးဝင်၍ ဆွဲငင်ထား၏။ လေဓါတ် ၁ ကလည်း ကျန်ဓါတ် ၁၁၁၀ အတွင်းသို့ ထိုးဝင်၍ ဆွဲငင်ထား၏။ ဤနည်းဖြင့် ပေါင်းစပ်မှုသည် ပြည့်စုံသွား၏။ ထို့နောက် မီးဓါတ်က ပူခြင်းသတ္တိဖြင့် တည်တန့်နိုင်မြဲအောင် ပြုပြင်ပေး၏။ ဤနည်းဖြင့် နောက်ဆုံးတွင် မူလရုပ်ကလာပ်သည် အဖန်တလဲလဲ လှုပ်ရှားမှုဖြစ်ပေါ်လာ၏။

ရုပ်ကလာပ်များ ဖြစ်ပေါ်လာပုံနှင့်ပါတ်သက်၍ ဗုဒ္ဓ၏ ဟောပြောချက်ကို ကောင်းစွာနားလည်ထားရန် လို၏။ အဘယ်ကြောင့်ဆိုသော် ထိုသို့နားလည်ထားမှသာလျှင် လူဘို့ ပဋိသန္ဓေယူပုံ၊ ကြီးထွားပုံနှင့် သေပုံများကို နားလည်နိုင်မည်ဖြစ်သောကြောင့်တည်း။ ထိုသို့ နားလည်ထားသော အခါတွင် ဤကမ္ဘာမြေကြီးနှင့် စကြာဝဠာဖြစ်လာပုံ၊ ကြီးထွားလာပုံနှင့် နောက်ဆုံးတွင် ပျက်စီး၍ နောက်ထပ်စကြာဝဠာအသစ် ဖြစ်လာပုံတို့ကို နားလည်နိုင်လိမ့်မည်။

အထူးသဖြင့် မီးဓါတ်၏ အင်အားများကို ကောင်းစွာ သဘောပေါက်ရန်လို၏။ အဘယ့်ကြောင့်ဆိုသော် မဟာဘုတ်ဓါတ်ကြီး လေးပါးအနက် မီးဓါတ်သည် တည်ငြိမ်မှု အနည်းဆုံးဖြစ်သောကြောင့်ဖြစ်၏။ မီးဓါတ်သည် အရာဝတ္ထုများအတွင်းသို့ လျှင်မြန်စွာထိုးဝင်တတ်၍ လျှင်မြန်စွာ ထွက်သွားတတ်၏။ ဤသို့မဟာဘုတ်ဓါတ်များသည် အရာဝတ္ထုများ အတွင်းသို့ လျှင်မြန်စွာထိုးဝင်၍ လျှင်မြန်စွာထွက်သွားခြင်းကို စကြာဝဠာတခုလုံးအတွင်း၌ တွေ့နိုင်၏။ ထိုသို့ ထိုးဝင်မှု ထွက်သွားမှုသည် ဂြိုလ်တခုဆီမှ တခုဆီသို့ပင် ရောက်၏။

## မီးဓါတ် ဘန်ဒိုး

မြေဓါတ်၊ ရေဓါတ်နှင့် လေဓါတ်သုံးခုတို့သည် ညီညွတ်စွာတည်နေလိုသော သဘောရှိကြ၏။ သို့ရာတွင် မီးဓါတ်သည် အရာဝတ္ထုတခုမှတခုသို့ ကူး၍ ဖျက်ဆီးနေသော ဓါတ်ဖြစ်၏။ မီးဓါတ်များခြင်း၊ နည်းခြင်း အလိုက် အခြားဓါတ်သုံးပါးတို့၏ အင်အားသည် ခြားနား၏။ ဤနည်းဖြင့် မီးဓါတ်သည် ကျန်ဓါတ်သုံးပါးအား မိမိတို့ဖြစ်ပျက်မြဲလမ်းအတိုင်း အပြည့်အဝ မဖြစ်စေဘဲ ခပ်ကြားအဖြစ်များဖြင့် တည်နေပေ၏။

ဥပမာဆိုသော် နေမှဖြာပေါ်လာသော မီးဓါတ်သည် ကမ္ဘာမြေကြီးပေါ်ရှိ အရာဝတ္ထုများအတွင်းသို့ ဝင်ရောက်လာ၏။ ဤသို့ နေမှဝင်ရောက်လာသော ပရမတ္ထမီးဓါတ်သည် ကမ္ဘာမြေပေါ်ရှိ အခြေကျ၍နေကြသော အရာဝတ္ထုများကို ချောက်ချားစေပြီးလျှင်၊ ထိုအရာဝတ္ထုတို့အား တနေရာမှ တနေရာသို့ လှည့်လည်မှုကို ဖြစ်စေ၏။ မီးဓါတ်သည် ဤကမ္ဘာမြေကြီးမှ လွတ်မြောက်၍ အခြားဂြိုဟ်များသို့လည်း သွားတတ်သဖြင့် ကမ္ဘာမြေကြီးပေါ်ရှိ အရာဝတ္ထုများသည် မီးဓါတ်ဆုတ်ယုတ်ကာ ဖေါက်ပြန်ကြ၏။ မီးဓါတ်တို့သည် ဤကမ္ဘာမြေကြီးပေါ်၌ပင်လျှင် ရေထဲမှ လေထဲသို့၎င်း၊ လေထဲမှ ရေထဲသို့၎င်း၊ မြေထဲမှ လေထဲသို့၎င်း၊ လေထဲမှ မြေထဲသို့၎င်း၊ မီးထဲမှ မြေထဲသို့၊ လေထဲသို့၊ ရေထဲသို့၎င်း၊ မြေထဲမှ – လေထဲမှ – ရေထဲမှ မီးထဲသို့၎င်း၊ ကူးပြောင်းနေကြ၏။ ဤနည်းအတိုင်း အဖန်တလဲလဲ ကူးပြောင်းနေကြ၏။

ဤနည်းဖြင့် ရုပ်လောကအခြင်းအရာတို့ကို ဖန်တီး၍ပေးနေသော အဓိကအရာမှာ မီးဓါတ်ဖြစ်သည်ကို တွေ့ရ၏။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများထဲ၌လည်း အရေးအကြီးဆုံးသော အရာမှာ မီးဓါတ်ပင်ဖြစ်၏။ ထို့ပြင် မီးဓါတ်သည် အဖျက်အဆီးဘက်ကလည်း အလွန်ပွမ်း၏။ မီးဓါတ်သည် မွေးဖွားမှု၊ ကြီးထွားမှုများကို အထောက်အပံ့ပြုသော်လည်း လူတို့ အိုရခြင်း၊ သေရခြင်းမှာ မီးဓါတ်ကြောင့်ပင်ဖြစ်၏။ မီးဓါတ်သည် ကျွန်ုပ်တို့အား မည်ကဲ့သို့ ကောင်းကျိုးဆိုးကျိုးကို ပြုနိုင်သည့် အကြောင်းကို မလေ့လာကြမီတွင် ထိုဓါတ်အကြောင်းကို အနည်းငယ်အသေးစိတ် ထပ်၍ သိကြလို၏။

## ဂြိုဟ်ကလာပ်အမျိုးမျိုး နှင့် အရာဝတ္ထုအမျိုးမျိုး

ယခု လော လောဆယ်အဖို့တွင် ဂြိုဟ်ကလာပ်တခု သို့မဟုတ် ဂြိုဟ်ကလာပ်တခုဖြစ်ပေါ်လာရင်းဖြစ်သော မဟာဘုတ်ဓါတ်ကြီး ၄ ပါးတို့၏ အနည်းအများ အမျိုးအစားအလိုက်သာလျှင် ဂြိုဟ်ကလာပ်တခုမှ သို့မဟုတ် ဂြိုဟ်ကလာပ်တစုမှ ဖြစ်ပေါ်လာသော အရာဝတ္ထုတို့သည် ကွဲပြားခြားနားခြင်း ရှိကြ၏။ အထက်တွင် ဖော်ပြခဲ့သော ဓါတ်အချိုးအစားသည် မြေဖြစ်ရန် အချိုးအစားဖြစ်သကဲ့သို့ မီးဓါတ် ၁၀၀၀ ၊ လေဓါတ် ၁၀၀၊ ရေဓါတ် ၁၀၊ မြေဓါတ် ၁ အချိုးအစားမျိုးသည် မီးကဲ့သို့သော အရာဝတ္ထုမျိုးဖြစ်လာလိမ့်မည်ဟု သိနိုင်၏။

ဓါတ်ကြီး လေးပါး ပေါင်းစပ်၍ ဖြစ်ပေါ်နေသော အရာဝတ္ထု အမျိုးမျိုး၏ အတွင်း၌ရှိသော ဓါတ်ကြီးများ၏ အချိုးအစားကို ဗုဒ္ဓက အတိအကျ ထုတ်ဖော်မပြောခဲ့။ အဘယ့်ကြောင့်ဆိုသော် အရာဝတ္ထုတို့၏ အတွင်းရှိ ဓါတ်ကြီးတို့၏ အချိုးအစားမှာ တခုနှင့်တခု မတူကြသော ကြောင့်ဖြစ်၏။ သို့ရာတွင် အဆိုပါ ဓါတ်ကြီးများသည် ဂြိုဟ်ကလာပ်တို့အတွင်း၌ အချိုးအစားအမျိုးမျိုး ပါဝင်၍ နေကြသည့်အဖြစ်ကိုမူ ဗုဒ္ဓက ထုတ်ဖော်၍ ပြောခဲ့၏။ ထိုသို့ အချိုးအစား အမျိုးမျိုး ဖြစ်နေခြင်းကြောင့်ပင် ဂြိုဟ်ကလာပ်အမျိုးမျိုး၊ အရာဝတ္ထု အမျိုးမျိုး ရှိနေခြင်း ဖြစ်၏။

## ဂြိုဟ်ကလာပ်သည် ငှက်မွေးနှင့်တူပုံ

ဗုဒ္ဓ ဟောခဲ့သော ဂြိုဟ်ကလာပ်မှာ အုပ်ချပ်နှင့် မတူဘဲ ငှက်မွေးနှင့်သာ တူ၏။ ဂြိုဟ်ကလာပ်တို့၏ ပုံသဏ္ဌာန်နှင့် အခြင်းအရာသည် ထိုဂြိုဟ်ကလာပ်တို့၏ အတွင်း၌ ပါဝင်သော ဂြိုဟ်ကလာပ်တို့၏ အနည်းအများအလိုက် ခြားနားခြင်း ရှိ၏။ အသေးဆုံးဂြိုဟ်ကလာပ်တခုတွင် မဟာဘုတ်ဓါတ် ၄ ပါးသည် တခုစီသာ ပါဝင်၏။ အကြီးဆုံးဂြိုဟ်ကလာပ်တခုတွင် ဓါတ်ကြီး လေးပါးထဲမှ ဓါတ်ကြီး တခုစီနှင့် ကျန်ဓါတ်ကြီးသုံးပါးထဲမှ တခုထက်များ၍ ပါဝင်ကြ၏။

ဂြိုဟ်ကလာပ်သည် သေချာသော အတိုင်းအရှည်ပမာဏ ရှိသော အရာဝတ္ထုဖြစ်၏။ ဂြိုဟ်ကလာပ်သည် သေးငယ်သော ချည်မျှင်များဖြင့် တင်းကြပ်စွာ ချုပ်၍ထားသော ငှက်မွေးနှင့်တူသော အရာဖြစ်၏။ မဟာဘုတ်ဓါတ် လေးမျိုးသည် တမျိုးအတွင်းသို့တမျိုး အလှည့်ကျ ဖေါက်ဝင်၍ နေကြ၏။

## ရုပ်ကလာပ် အချင်းချင်းလိန်ယှက်ပုံ

အစိုင်အခဲ အရာဝတ္ထုတို့သည် ရုပ်ကလာပ်များ စုပေါင်းနေသော အရာများဖြစ်၏။ သို့ရာတွင် ထိုကဲ့သို့ စုပေါင်းနေသည့်အခါတွင် ရုပ်ကလာပ်တို့၌ ပုဂ္ဂလိက သဘောမရှိကြ။ ရုပ်ကလာပ်များအတွင်း၌ရှိကြသော မဟာဘုတ်ဓါတ်အမြှင်ကလေးများသည် မိမိတို့နှင့် နီးကပ်လျက်ရှိသော ရုပ်ကလာပ်များ အတွင်းသို့ ဖေါက်ဝင်၍ နေကြ၏၊ သို့ဖြစ်ရာ အစိုင်အခဲ အရာဝတ္ထုများသည် ရုပ်ကလာပ်အသီးသီးအတွင်း၌ အမြှင်ကလေးများ အပြန်ပြန် အလှန်လှန် ထိုးဖေါက်လိန်ယှက်၍ နေသော ရုပ်ကလာပ် အစုကြီးများ ဖြစ်၏။

တနည်းဆိုသော် ရုပ်ကလာပ်တို့သည် မဟာဘုတ်ဓါတ်အသီးသီးမှ ထွက်၍ နေသော အမြှင်ကလေးများ ပူးလိန်၍ နေသောအရာများဖြစ်၏။ အစိုင်အခဲဖြစ်လာသောအခါတွင် ရုပ်ကလာပ်အသီးသီး၌ အမြှင်ကလေးများသည် အခြားများစွာကုန်သော ရုပ်ကလာပ်တို့အတွင်း၌ရှိသော အမြှင်ကလေးများနှင့် လိန်ယှက်၍ နေကြ၏။ ထိုသို့ လိန်ယှက်၍ နေကြရာတွင် မဟာဘုတ်ဓါတ်တို့သည် သမဝါ ပေါင်းဝပ်နေကြသဖြင့် တပ်ကြပ်စွာ စုစည်းထားသော၊ တသားတည်းဖြစ်သော ရုပ်ဝတ္ထုအဖြစ်သို့ ရောက်ကြ၏။ ဤနည်းဖြင့် စကြဝဠာအတွင်း၌ ကျွန်ုပ်တို့ တွေ့ကြရသော အရာဝတ္ထုတို့သည် ဖြစ်ပေါ်လာကြ၏။

## ရုပ်ကလာပ်များကို ခွဲစိတ်လျှင်

အစိုင်အခဲဖြစ်သော အရာဝတ္ထုကို ခွဲစိတ်လျှင် မဟာဘုတ်ဓါတ်တို့သည် ကွဲပျက်ခြင်း မရှိကြ။ ခွဲစိတ်ရာလမ်းကြောင်း၌ရှိကြသော မဟာဘုတ်ဓါတ်အမြှင်များသည် မိမိတို့နေသားတကျ ပူးပေါင်းနေကြခြင်းကို စွန့်လွှတ်၍ ခွဲစိတ်ရာ လမ်းကြောင်းတဖက်ဖက်သို့ လိုက်ခါ ခွေလိန်၍ နေကြ၏။

တစုံတခုသော အစိုင်အခဲ အရာဝတ္ထုကို ခွဲစိတ်သည့်အခါတိုင်း ဤကဲ့သို့ ဆက်၍ဖြစ်ကြပြီးလျှင် မဟာဘုတ်ဓါတ်တို့သည် ခွဲစိတ်ရာလမ်းကြောင်းအတိုင်း သင့်တော်သလို ခွေလိန်၍ နေကြ၏။ ဤနည်းဖြင့် အစိုင်အခဲ ဝတ္ထုတို့ကို ရုပ်ကလာပ် အဖြစ်သို့ မရောက်မချင်း ခွဲစိတ်နိုင်၏။ တနည်းဆိုသော် အရာဝတ္ထု အသီးသီး အတွင်း၌ ပါဝင်သော ဓါတ်ကြီးလေးပါးအနက် ဓါတ်ကြီး တပါးပါးအား မိမိ၏ မူလအရွယ် ပမာဏသို့ မရောက်မီအထိသာ ခွဲစိတ်နိုင်၏။ တစုံတခုသော အရာဝတ္ထုသည် ဓါတ်ကြီးတပါးအဖြစ်သို့ ရောက်အောင် မခွဲမစိတ်ရ သေးသမျှ ကာလပါတ်လုံးသာ တည်နေနိုင်၏။

ရုပ်ကလာပ်များကို ခွဲစိတ်လိုက်သောအခါ အတွင်း၌ မဟာဘုတ်ဓါတ် အားလုံးသည် တကွဲတပြားစီဖြစ်၍သွားကြ၏။ မဟာဘုတ်ဓါတ်များသည် မိမိတို့ အချင်းချင်းဆွဲငင်ထားမှုကို ရပ်လိုက်ကြသည်နှင့်တပြိုင်နက် အရာဝတ္ထုတို့သည် ပျောက်ကွယ်သွားကြ၏။ သို့ရာတွင် အရာဝတ္ထုတို့သည် အခြားသော ပုံသဏ္ဌာန်သို့ ပြောင်း၍သွားကြခြင်းသာဖြစ်၏။ ထိုသို့ ပုံသဏ္ဌာန် ပြောင်း၍သွားကြခြင်းကို နာမ် ဓါတ်အာရုံမှတပါးအခြားသော အာရုံတို့က မသိနိုင်ကြ။ မျက်စေ့အာရုံဖြင့်လည်းမသိ နိုင်၊ ကျန်အခြားအာရုံတို့ဖြင့်လည်း မသိနိုင်။ ရုပ်ကလာပ်ကို ခွဲစိတ်လိုက်သော အခါ ရုပ်ကလာပ်သည် အင်အားအဖြစ်သို့ ပြောင်း၍သွား၏။ ထိုအင်အားတို့၏ အရည်အတွက်မှာ သက်ဆိုင်ရာ ရုပ်ကလာပ်အတွင်း၌ပါသော မဟာဘုတ်ဓါတ် အရည် အတွက်အလိုက်ဖြစ်၏။ ထိုအင်အားတို့သည် လျှင်မြန်စွာ ပတ်ချာလှည့်ကာ တည်နေ ကြ၏။ ထိုသို့ပတ်ချာလှည့်ကာ တည်နေကြခြင်း အကြောင်းကို နားလည်နိုင်ရန်အတွက် အကြောင်းခြင်းတ အနည်းငယ်ကို ထပ်၍ဖေါ်ပြရန် လို၏။

## အာရုံပို့မှုများ

မဟာဘုတ်ဓါတ် တခုစီတခုစီတွင် အင်အားအလျှင် ငါးမျိုးပါ၏။ ထိုငါးမျိုး မှာ အဆင်း(ဝဏ္ဏ)၊ အနံ့ (ဂန္ဓ)၊ အရသာ(ရသ)၊ အသံ(သဒ္ဒ)၊ နှင့်တွေ့ ထိမှု(ဖေါဋ္ဌဗ္ဗ) ဖြစ်၏။ မဟာဘုတ်ဓါတ်ကြီးလေးပါးတို့သည် ပေါင်းစပ်၍ ရုပ်က လာပ် သို့မဟုတ် အရာဝတ္ထုအဖြစ်သို့ ရောက်ကြသောအခါတွင် အဆိုပါ အလျှင်ငါးမျိုး သည်လည်း အစိုင်အခဲဖြစ်ကာ ရုပ်ဓါတ်၏ နောက်ပွားအရာဝတ္ထုများ အဖြစ်သို့ ရောက်ကြ၏။

ဤသို့အစိုင်အခဲဖြစ်လာသော အလျှင်ငါးမျိုးသည် သက်ဆိုင်ရာ အရာ ဝတ္ထုအား အရောင်တင်မှုသဘောကို ပေးကြ၏။ မဟာဘုတ်ဓါတ်ကြီးလေးပါးတို့ တွေ့ဆုံ၍အကြွင်းမဲ့ ပေါင်းစပ်မိသောအခါတွင် နောက်ပွားအရာဝတ္ထု ငါးခုလုံး သည်လည်း ရောယှက်သွားကြ၏။

ဤနောက်ပွားဓါတ်ငါးမျိုးသည် ကိုယ်ခန္ဓာ၏ အာရုံငါးပါးနှင့် တခြား စီဖြစ်သည်ကို သတိပြုရ၏။ ထို့ကြောင့် ကိုယ်ခန္ဓာ၏ အာရုံငါးပါးသည် နာမ် ဓါတ်အာရုံများသာဖြစ်ကြ၍ အရာဝတ္ထုများ မဟုတ်ကြ။ မဟာဘုတ်ဓါတ်ကြီးလေးပါး ပေါင်းစပ်ရာမှဖြစ်ပေါ်လာသော နောက်ပွားဓါတ်များသည်ကား အရာ ဝတ္ထုများဖြစ်ကြ၏။

အဆိုပါ နောက်ပွားအရာဝတ္ထု ငါးမျိုး၏ အဓိက ဂုဏ်မှာ အရောင် ဘင်မှုအာရုံကို ပို့ပေးရန်ဖြစ်သဖြင့် ၄င်းတို့အား အာရုံပို့မှုဓါတ် ( ဂေါစရ ရူပ ) ဟု စုပေါင်း၍ ခေါ်၏။

## အဆင်း နှင့် အသံ

မဟာဘုတ်ဓါတ်ကြီး လေးပါး ပေါင်းစပ်၍ အရာဝတ္ထုဖြစ်လာသောအခါ တွင် အဆင်းပို့မှု အလျှင်ဘို့သည် ပေါင်းစပ်၍ ထူးခြားသော အဆင်းဖြစ်လာ၏။ မဟာဘုတ်ဓါတ်ကြီး လေးပါးသည် တသီးတခြားစီ နေကြသောအခါတွင် မည်သည့်အဆင်း ကိုမျှ မပြကြ ။ စုပေါင်း၍ အရာဝတ္ထုဘာခုခုအဖြစ်သို့ ရောက်သောအခါကျမှသာ အဆင်းပို့မှု သတ္တိသည် ဖြစ်ပေါ်လာ၏။ လေကဲ့သို့ အင်မတန် နူးညံ့သော အရာ ဝတ္ထု၌ပင် အဆင်းရှိ၏။ သို့ရာတွင် လူတို့၏ မျက်စိသည် အင်အားနည်းလှသဖြင့် ထိုအဆင်းကို မမြင်နိုင် အဆင်းပို့မှုဓါတ်အားသည် အရာဝတ္ထုအဖြစ်နှင့် အင်အား ကောင်းစွာ ပေါင်းစပ် နေကြမှသာလျှင် လူတို့၏ မျက်စေ့သည် အဆင်းကို မြင်နိုင်၏။

နိုနည်းထပ်တူပင် အသံပို့မှုဓါတ်များသည် အရာဝတ္ထုအဖြစ်နှင့် ကောင်းစွာ ပေါင်းစပ်၍ နေကြမှသာလျှင် အသံများဖြစ်ပေါ်လာကြပြီး၊ ထိုအရာ ဝတ္ထုတည်ရှိနေသမျှ အချိန်အတွင်း၌သာ အသံပို့မှုအကျိုးကို ပေးနိုင်၏။

## အနံ့၊ အရသာ၊ အထိအတွေ့

အရာဝတ္ထုတိုင်း၌ အာရုံပို့မှုဓါတ်သည် ရှိ၏။ အနံ့ပို့မှုဓါတ်ရှိ ကြောင်းကို နှာခေါင်းကသာ သိနိုင်၏။ လူတို့၏ နှာခေါင်းသည် အနံ့ပို့မှုဓါတ်များအင်အား ကောင်းစွာ စုပေါင်း၍ နေမှသာလျှင် သိနိုင်၏၊

အရသာပို့မှုဓါတ်သည်လည်း အရာဝတ္ထုတိုင်းတွင်ရှိ၏။ သို့ရာတွင် အင်အား ကောင်းစွာ စုပေါင်း နေကြသောအခါတွင် လျှာနှင့် တွေ့မှသာလျှင် ထိုအရသာပို့မှုဓါတ်ရှိ ကြောင်းကို သိနိုင်၏။

အထက်ပါ အာရုံပို့မှုဓါတ် လေးမျိုးကဲ့သို့ပင် ထိတွေ့ခြင်းပို့မှုဓါတ်သည်လည်း အရာဝတ္ထုတိုင်းတွင်ရှိ၏။ ထိုဓါတ်သည် လုံလောက် သော ပမာဏရှိ၍ ထိတွေ့မှု အာရုံနှင့် ထိတွေ့သောအခါကျမှသာလျှင် ထိုပို့မှုဓါတ်ရှိ ကြောင်းကို ကျွန်ုပ်တို့သိနိုင် ၏။ နောက်အခန်း၌ သက်ရှိ ရုပ်ဓါတ်တွင် ဖြစ်ပေါ်တတ်သော အထက်ပါ ဓါတ် ငါးမျိုးနှင့် ဆန့်ကျင်ဘက်ဖြစ်သော ဓါတ်ငါးမျိုး၏ ကြောင်းကို ဖော်ပြသောအခါတွင် ဤဓါတ်ငါးမျိုးအကြောင်းကို ပို၍နားလည်လာကြလိမ့်မည်။

## ဟင်းလင်းပြင်ဂါဟ်

ယခုအခါတွင် ဟင်းလင်းပြင်ဂါဟ် (အာကာသရုပ) အကြောင်းကို ဆိုပေအံ့။ မဟာဘုဟ်ဂါဟ်များ တခုနှင့်တခုကြားတွင် ဟင်းလင်းဖြစ်နေခြင်းကို ဟင်းလင်းပြင်ဂါဟ်ဟု ခေါ်၏။ မဟာဘုတ်ဂါဟ်များသည် အရာဝတ္ထုများဖြစ်ရန် မည်မျှလောက်ပင် တခုသည် တခုတက်သို့ ကျယ်ပြန့်ရစ်ပတ်ကာ နေကြသော်လည်း မိမိတို့၏ တသီးပုဂ္ဂလအဖြစ်ကို မစွန့်ကြ။ တစကြာဝဠာလုံး၌ ခပ်သိမ်းသော အရာဝတ္ထုများထဲတွင် ရှိကြသည့် မဟာဘုဟ်ဂါဟ်အားလုံးကို ဂါဟ်အသီးသီးအဖြစ်၌ ဆက်လက်တည်ရှိနေစေရန် ထိန်းသိမ်း၍ပေးနေသော အရာသည် ကျယ်ပြန့်ခြင်း၊ ကျဉ်းကြုံခြင်းနှင့် အမြဲယှဉ်တွဲ၍နေသော ဟင်းလင်းပြင်ဂါဟ်ပင်ဖြစ်၏။

မဟာဘုဟ်ဂါဟ်ကြီးလေးပါးသည် မည်မျှလောက်ပင် တင်းကြပ်စွာ ပူးပေါင်း၍ နေသည်ပင်ဖြစ်စေကာမူ ဂါဟ်ကြီးတခုနှင့်တခု ဝပ်ကြားတွင် ဟင်းလင်းပြင်ဂါဟ်သည် နိုးယိုပေါက်ဝင်လျက်ရှိ၏။ ၎င်းသို့ဖြစ်ခြင်းကြောင့် မည်ကဲ့သို့ ဆိုးဝါးသော အခြေအနေမျိုး၌ဖြစ်စေ ဂါဟ်ကြီးလေးပါးသည် တသီးတခြားစီ တည်နေခွင့်ကို ဆုံးရှုံးကြလိမ့်မည် မဟုတ်။ အရာဝတ္ထုအသီးသီးအတွင်း၌ မည်ကဲ့သို့ ပင်မာကြော၍ မည်ကဲ့သို့ပင်တင်းကြပ်စွာ ဖွဲ့စည်းနေသော ရုပ်ကလာပ်၊ မည်ကဲ့သို့ပင် ပျော့ပျောင်း၍ ယော့ယဲစွာ ဖွဲ့စည်းနေသော ရုပ်ကလာပ်တွင်း၌မဆို၊ ဟင်းလင်းပြင်ဂါဟ်သည် စိမ့်ဝင်၍ ပပ်ကြားမှ တပိုင်းနှင့်တပိုင်း မပွန်းပဲ့အောင် ခု၍ပေးနေ၏။

ဟင်းလင်းပြင်ဂါဟ်သည် အသီးသီးသောနာမ်ဂါဟ်နှင့် မဟာဘုတ်ဂါဟ်ကြီးလေးပါးတို့ကဲ့သို့ပင် အစလည်းမရှိ၊ အဆုံးလည်းမရှိ။ သို့ရာတွင် ဟင်းလင်းပြင်ဂါဟ်အတွင်း၌ အသီးသီးသော နာမ်ဂါဟ်များနှင့် မဟာဘုတ်ဂါဟ်ကြီးလေးပါး အတွင်းထဲမှာကဲ့သို့ အချိန်မှန်မှန်၊ ပမာဏမှန်မှန်နှင့် လှုပ်ရှားနေမှုများ မရှိ။ ဟင်းလင်းပြင်ဂါဟ်သည် တခုတည်းတဆက်တည်းသော ဂါဟ်သာဖြစ်၍ အကျယ်အဝန်းတွင် အပိုင်းအခြားမရှိ။ အချိန်ကာလတွင်လည်း အတိတ်၌၎င်း၊ အနာဂတ်၌၎င်း အပိုင်းအခြားမရှိ။

အတွင်းဟင်းလင်းပြင်ဓါတ်နှင့်အပြင်ဟင်းလင်းပြင်ဓါတ်

ဟင်းလင်းပြင်ဓါတ်သည် တခုတည်းသော အရာသာဖြစ်သော်လည်း လူအများ နားလည်နိုင်စေခြင်း အကျိုးငှါ ဗုဒ္ဓက နှစ်ပိုင်းခွဲခြား၍ ဟောခဲ့၏။ ကမ္ဘာမြေကြီးကဲ့သို့သော အရာဝတ္ထုများအတွင်းသို့ ထိုးဖေါက်ဝင်ရောက်နေသော ဟင်းလင်းပြင်ဓါတ်အပိုင်းကို ဗုဒ္ဓက အတွင်းဟင်းလင်းပြင်ဓါတ် (ပရိစ္ဆေဒါကာသ) ဟူ၍၎င်း၊ ဂြိုဟ်များ ကြယ်များကဲ့သို့သော အရာဝတ္ထုအစုအပြုံများကို တသီးတခြားစီ တည်နေနိုင်ရန် ထိန်းသိမ်းပေးသော ဟင်းလင်းပြင်ဓါတ်အပိုင်းကို အပြင်ဟင်းလင်းပြင် (အဇတာကာသ) ဟူ၍၎င်း၊ ဗုဒ္ဓက ခေါ်သည်။ သို့ရာတွင် ဟင်းလင်းပြင်ဓါတ်သည် အတွင်းဟင်းလင်းပြင်ဓါတ်ဖြစ်စေ၊ အပြင်ဟင်းလင်းပြင်ဓါတ်ပင်ဖြစ်စေ အတူတူပင်ဖြစ်၏။

ဟင်းလင်းပြင်ဓါတ်သည် အခြားမဟာဘုတ်ဓါတ်များနှင့် နာမ်ဓါတ်အမျိုးမျိုးတို့က မိမိတို့ သက်ဆိုင်ရာတာဝန်များကို ဆောင်ရွက်ကြရာ တည်နေရာခွင် ဖြစ်၏။ ခပ်သိမ်းသော မဟာဘုတ်ဓါတ်များနှင့် နာမ်ဓါတ်များသည် ကျယ်ဝန်း၍ အပိုင်းအခြားမရှိသော ဟင်းလင်းပြင်ဓါတ်အတွင်း၌ သွားလာကြ၊ ကစားကြ၊ ငုတ်ကြ၊ ကူးကြ၏။ ဟင်းလင်းပြင်ဓါတ်၏ အဓိက ဂုဏ်မှာ ခပ်သိမ်းသော မဟာဘုတ်ဓါတ်များအား တခုနှင့်တခု အကြင်းမဲ့ ပူးပေါင်း၍ မသွားစေရန် ကာကွယ်ပေးခြင်းနှင့် တခုစီ တခုစီတသီးပုဂ္ဂလ နေနိုင်ကြစေရန် စောင့်ထိန်းပေးခြင်းဖြစ်၏။

ဟင်းလင်းပြင်ဓါတ်မှတပါး ကြွင်းသော မဟာဘုတ်ဓါတ်အားလုံးသည် နာမ်ဓါတ်တို့၏ လှုပ်ရှားမှုထက် ၁၇ ဆ လျော့နည်းသော အရှိန်မြန်နှုန်းဖြင့် လှုပ်ရှားကာတည် နေကြသည်ကို သတိပြုအပ်၏။ ဟင်းလင်းပြင်ဓါတ်သည် အရာဝတ္ထုတို့အား အခိုင်အခဲဖြစ်ပြီးသည့် နောက်အဖို့၌ပင် တသီးတခြား တည်နေနိုင်အောင် စောင့်ထိန်းပေးတတ်ကြောင်းကို အထက်တွင် ဖေါ်ပြခဲ့ပြီ။ မဟာဘုတ်ဓါတ်အားလုံးသည် အခိုင်အခဲအဖြစ်သို့ ရောက်ပြီးသည့်နောက် အဖို့၌ပင်လျှင် အတိုင်းအထွာ ပမာဏရှိသော အမြန်နှုန်းဖြင့် ထပ်တလဲလဲလှုပ်ရှား၍ နေကြ၏။ မဟာဘုတ်ဓါတ်တို့သည် အရာဝတ္ထုတို့အတွင်း၌ အနှောင်အဖွဲ့ခံ နေကြရသည်ဖြစ်စေ၊ တသီးတခြားစီ လွတ်လပ်စွာ နေကြရသည်ဖြစ်စေ၊ လှုပ်ရှားမြဲလှုပ်ရှားကာ နေကြ၏။ ဤနည်းဖြင့် မဟာဘုတ်ဓါတ် အသီးသီးတို့သည် အချိန်ကာလရှိသမျှ မိမိတို့၏ အင်အားကို အသုံးပြုကာ နေကြ၏။

## အသွင် အပြင် ဝါဒ်များ

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း မိမိတို့၏ အင်အားကို အသုံးပြုကာ နေနိုင်ကြရန်အတွက် မဟာဘုတ်ဓါတ်တို့၏ အတွင်း၌ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း ဟူသော အလျင်သုံးခုရှိ၏။ ထိုအလျင်သုံးခုသည် ခဝ်သိမ်းသောအင်အားတို့ အတွင်း၌ ရှိနေကြပြီးလျှင်၊ ထိုအင်အားတို့၏ အသွင်အပြင်ကို ပြဋ္ဌာန်း၍ပေးကြ၏။ မဟာဘုတ်ဓါတ်တခုအတွင်း၌ ဖြစ်ခြင်းအလျင်ကို အမှီပြု၍ ဖြစ်ပေါ်လာသော အင်အားက ထိုမဟာဘုတ်ဓါတ်၏ အင်အားကို ဖြစ်ပေါ်စေ၏။ တည်ခြင်းအလျင်ကို အမှီပြု၍ ဖြစ်ပေါ်လာသော အင်အားက အသီးသီးသော မဟာဘုတ်ဓါတ်တို့၏ အင်အားကို ဆက်လက်တည်ရှိစေ၏။ ပျက်ခြင်းအလျင်ကို အမှီပြု၍ ဖြစ်ပေါ်လာသော အင်အားက မဟာဘုတ်ဓါတ်တို့၏ အင်အားကို ဘိုးခြင်း လျော့ခြင်းကို ဖြစ်စေ၏။

မဟာဘုတ်ဓါတ်တို့သည် ပေါင်းစပ်၍ အရာဝတ္ထုများအဖြစ်သို့ ရောက်ကြသောအခါတွင် မိမိတို့ဟာ မိမိတို့လည်း ဆက်လက် လှုပ်ရှားမြဲလှုပ်ရှား နေကြပြီးလျှင်၊ ဖြစ်ခြင်းအလျင် တည်ခြင်းအလျင်နှင့် ပျက်ခြင်းအလျင်တို့က နောက်ပွားအရာဝတ္ထုသုံးမျိုးကို ဖြစ်ပေါ်စေ၏။ ထိုသုံးမျိုးမှာ ဖြစ်ခြင်း နောက်ပွား အရာဝတ္ထု၊ တည်ခြင်း နောက်ပွားအရာဝတ္ထုနှင့် ပျက်ခြင်း နောက်ပွား အရာဝတ္ထုတို့ဖြစ်၏။ ထိုနောက်ပွား အရာဝတ္ထုသုံးမျိုးက အရာဝတ္ထုတို့၏ ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်းကိုဖြစ်စေ၏။ အရာဝတ္ထုများအတွင်း၌ မဟာဘုတ်ဓါတ်အားလုံးနှင့် သက်ဆိုင်သော ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်းအလျင်တို့ ဝုဝု ပေါင်း၏ အင်အားတို့သည် နောက်ပွားအရာဝတ္ထုတို့၏အပေါ်သို့ ကျရောက်ကြပြီးလျှင် ထိုနောက်ပွား အရာဝတ္ထုများသည် မိမိတို့အပေါ်သို့ ကျရောက်သော အင်အားအလိုက် မိမိတို့၏ တည်မှုအင်အားကို ရကြ၏။

ဖြစ်ခြင်းဝါဒ် (ဥဖစယရူပ) သည် လွတ်လပ်သော အင်အားအတွင်း၌ တည်နေသောအခါတွင် မိမိအတွက်ဖြင့် ပေါ်မှုကိုသာ ဖြစ်စေနိုင်၏။ သို့ရာတွင် အရာဝတ္ထုတခုအတွင်းသို့ ကျရောက်သွားသောအခါတွင် ၎င်းအရာဝတ္ထု၏ ဖြစ်ပေါ်မှုကိုလည်းဖြစ်စေနိုင်၏။ လွတ်လပ်သော အင်အားအတွင်း၌ရှိသော တည်နေမှုဓါတ် (ဇရတာ ရူပ) သည် မိမိ၏ တည်နေမှုကိုသာ ဆက်လက်ဖြစ်ပေါ်စေနိုင်၏။ သို့ရာတွင် အရာဝတ္ထုတခုအတွင်းသို့ ကျရောက်သွားသောအခါ ထိုအရာဝတ္ထု၏ ဆက်လက်တည်နေမှုကိုလည်း ဖြစ်စေနိုင်၏။ လွတ်လပ်သော အင်အားအတွင်း၌ရှိသော ပျက်ခြင်းဓါတ် (အနိစ္စတာရူပ) သည် မိမိအတွက် ရပ်စဲမှုကိုသာ ဖြစ်စေနိုင်၏။ သို့ရာတွင် အရာဝတ္ထုတခုအတွင်းသို့ ရောက်သွားသော အခါတွင်မူ ထိုအရာဝတ္ထု၏ ရပ်စဲမှုကိုလည်း ဖြစ်စေနိုင်၏။

ဤ ဓါတ်သုံးဝသည် မဟာဘုတ်ဓါတ်များအတွင်း၌ အင်အားအလျင်များအဖြစ်နှင့် နေကြရင်းနှင့်လည်း အရာဝတ္ထုများအတွင်းသို့ အင်အားအလျင်များ အဖြစ်နှင့်လည်း ရောက်သွားနိုင်ကြ၏။ ဝ်ဓါတ်သုံးပါးကို နာမ်ဓါတ်ကသာ တွေ့မြင်နိုင်၍ အခြားကိုယ်ခန္ဓာ၏ အာရုံတို့က မတွေ့မြင်နိုင်ကြ။

အရာဝတ္ထုများအတွင်း၌ အကြွင်းကျန်၍ နေကြသော ဖြစ်ခြင်းအလျင်၊ တည်နေခြင်းအလျင်၊ သေခြင်းအလျင်တို့သည် မူလမဟာဘုတ်ဓါတ်ကြီးလေးပါးအတွင်း၌ ရှိသော ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်း အလျင်တို့၏ ကျယ်ဝန်းလာမှုသာဖြစ်၏။ ကြံလဲ့တခု သို့မဟုတ် ကြယ်တခုအတွင်း၌ အရာဝတ္ထုအားလုံးနှင့် ပေါ်လွှဦး သော ဖြစ်ခြင်းအလျင်၊ တည်နေခြင်းအလျင်၊ ပျက်ခြင်းအလျင်တို့သည် ထိုကြံလဲ့တခုလုံး၏ သို့မဟုတ် ထိုကြယ်တခုလုံး၏ ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်းအလျင်တို့ကို ပြဋ္ဌာန်းပေးသော အင်အားကို ဖြစ်ပေါ်စေ၏။

ကြံလဲ့အားလုံး၊ ကြယ်အားလုံးအတွင်း၌ ဖြစ်ပေါ်လျက်ရှိသော ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်းအလျင်များသည် စကြဝဠာတခုလုံးကို ပြုပြင်ပေးသည့် အင်အား အလျင်ကို ဖြစ်ပေါ်စေ၏။ ဤနည်းဖြင့် ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်းအလျင်တို့သည် မဟာဘုတ်ဓါတ် အသီးသီးမှ နေ၍ နောက်ဆုံးတွင် အပိုင်းအခြားမရှိသော စကြဝဠာတခုလုံးကို ဖုံးအုပ်မိအောင် ကျယ်ဝန်းသွားကြ၏။

## ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်းအလျင်

မဟာဘုတ်ဓါတ်များအတွင်း၌ ရှိကြသော ဖြစ်ခြင်းအလျင်၊ တည်ခြင်းအလျင်၊ ပျက်ခြင်းအလျင် သုံးခုတို့သည် တခုပြီးတခု အလှည့်ကျဖြစ်ပေါ်၍ မဟာဘုတ်ဓါတ်တို့၏ ထပ်တလဲလဲ လှုပ်ရှားမှုကိုဖြစ်စေ၏။ ဖြစ်ခြင်းအလျင်က အင်အား ကောင်းသောအခါတွင် အခြားအလျင်နှစ်ခုတို့သည် ငုတ်၍နေကြ၏။ တည်ခြင်း အလျင်က အင်အားကောင်းသောအခါတွင် အခြားအလျင်နှစ်ခုတို့သည် ငုတ်၍ နေကြ၏။ ပျက်ခြင်းအလျင်က အင်အားကောင်းသောအခါတွင် ဖြစ်ခြင်းအလျင် နှင့် တည်ခြင်းအလျင်နှစ်ခုတို့သည် ငုတ်၍ နေကြ၏။

ဤအလျင်သုံးခုတို့၏ အင်အားသည် အမြဲန်ရှည်ကြာစွာ မခံ ။ တခုသောအလျင်သည် ထကြွ၍နေသောအခါတွင် ထိုအလျင်သည် မိမိ၏ အင်အားကို လျင်မြန်စွာကုန်ဆုံးသွားစေ၏။ သို့ရာတွင် အလျင်တခုသည် ငုံမိသက်နေသော အခါတွင်မူကား ထိုအလျင်၏အင်အားသည် တိုးပွား၍လာ၏။ ထကြွမိတွင်အလျင်တခုတည်း သာ ထကြွနိုင်သဖြင့် ကျန်အလျင်နှစ်ခုသည် အမြဲတန်းငုံမိသက်စွာ အင်အားစုဆောင်း နေကြ၏။

အလျင်တစ်ခုသည် ကြွ၍ မိမိအင်အားကို ကုန်ဆုံး စေလိုက်သည်နှင့် တပြိုင်နက် နောက်အလှည့်ကျ သော အလျင်တစ်ခုသည် အင်အားပြည့်ဝ၍ ထကြွလာ၏။ ဤနည်းဖြင့်ညီမသက် နေ သော အသီးသီး သော အလျင်တို့သည် မိမိတို့အလှည့်ကျသည်နှင့် တပြိုင်နက် အင်အားပြည့်ဝမှုနှင့် ပေါ်လာကြ၏။ အလျင်တစ်ခု၏ တာဝန်ပြီးဆုံး သည်နှင့် တပြိုင်နက် နောက်အလှည့်ကျသော အလျင်က ပေါ်လာပြီးလျှင် ၎င်းတာဝန် ကို ဆက်လက် ဆောင်ရွက်၏။ ပထမအလျင် နောက်သို့ ဒုတိယအလျင်ကလိုက်၍၊ ဒုတိယ အလျင် နောက်သို့ တတိယအလျင်ကလိုက်ပြီးလျှင်၊ တတိယအလျင် နောက်သို့ ပထမအလျင် က လိုက်၏။ တကယ်ဖြစ် နေသည့်အတိုင်းဆိုလျှင် ဖြစ်ခြင်းအလျင် နောက်သို့ တည်ခြင်း အလျင်ကလိုက်၍ ၊ တည်ခြင်းအလျင် နောက်သို့ ပျက်ခြင်းအလျင်က လိုက်ပြီးလျှင်၊ ပျက် ခြင်းအလျင် နောက်သို့ ဖြစ်ခြင်းအလျင်ကလိုက်၏။ ဤနည်းဖြင့် သဝဘလဲလဲဖြစ် ပေါ် မှု စက်ဝိုင်းသည် လည်၍ နေ၏။

## အဆင့်အဆင့် လျင်မြန်စွာ တာဝန်လွှဲပြောင်းခြင်း

မဟာဘုတ်ဓါတ်တစ်ခုအတွင်း၌ရှိ သော ဖြစ်ခြင်းအလျင်သည် ထိုဓါတ်အတွင်း ၌ အင်အား၏ သဝဘလဲလဲ လှုပ်ရှားမှုကိုအစပြုပေ၊သို့မဟုတ် ဖြစ် ပေါ် စေသဖြင့် တည်မှုအလျင်သည် ပေါ်ထွက်လာပြီးလျှင် မိမိ၏အလှည့်ကို ယူရန်အတွက် ဖြစ်ခြင်းအလျင် ပြီးဆုံးသည့်အချိန်ကို အသင့်စောင့် နေ၏။ ဖြစ်ခြင်းအလျင်၏ သဝဘလဲလဲလှုပ် ရှားပြီးဆုံး သောအခါတွင် တည်ခြင်းအလျင်က ဖြစ်ခြင်းအလျင်ကို အကြွင်းမဲ့ဆက်ခံ ပြီးလျှင်၊ ဖြစ်ခြင်းအလျင်အား အနားယူကာ အင်အားစုဆောင်း စေ၏။ ဤနည်း ဖြင့် တည်ခြင်းအလျင်က ဦးစီးပြီးလျှင် မိမိ၏ တာဝန်ကို ပြီးဆုံး စေ၏။

ဤကဲ့သို့ မိမိ၏ တာဝန်ကို ဆောင်ရွက်ရင်းနှင့် တည်ခြင်းအလျင်၏ အင်အားသည် ကုန်ခန်း၍သွား၏။ ထိုအတောအတွင်း၌ ပျက်ခြင်းအလျင်သည် အင် အားတိုးပွားလျက်ရှိ၏။ ထို့နောက် ပျက်ခြင်းအလျင်က တည်ခြင်းအလျင်ဆီမှ တာ ဝန်ကို လွှဲပြောင်းယူရန် အချိန်သည် ဆိုက် ရောက်လာရမည်ဖြစ်သည့်အတိုင်းပင် ဆိုက် ရောက်လာ၏။ ဤနည်းဖြင့် ပျက်ခြင်းအလျင်သည် မိမိ၏ အင်အားအကြမ်း ကုန်ဖြင့် မိမိ၏ တာဝန်ကို ဆောင်ရွက်၏။ ဤသို့ ဆောင်ရွက်ရင်းနှင့် အင်အား ကုန်ခန်းသွားပြီးလျှင်၊ အင်အားပြန်စုရန် အနားယူလိုလာ၏။ ထိုအချိန်သို့ ရောက် သောအခါတွင် ဖြစ်ခြင်းအလျင်သည် အင်အား ကောင်းမွန် ပြည့်ဝလာပြန် သဖြင့်၊ ပျက်ခြင်းအလျင်ထံမှ တာဝန်ကို လွှဲပြောင်း၍ယူချင်လာကာ လွှဲပြောင်း၍ ယူလိုက်၏။

ဤနည်းဖြင့် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း အလျင်သုံးခုသည် ဤကဲ့သို့ တာဝန်ကို တဆင့်တဆင့် လွှဲပြောင်းကြပြီးလျှင်၊ မိမိတို့သက်ဆိုင်ရာ ဝတ္တရားများကို အမြဲတန်း သေချာစေ့စပ်စွာ ဆောင်ရွက်ကြပြီးလျှင် မိမိတို့ အလှည့်ကျသည့် အခါများတွင်လည်း အင်မတိ အင်မတန် အချိန်မှန်စွာ ရောက်လာကြ၏။ ထိုသို့ တဆင့်တဆင့် တာဝန်လွှဲပြောင်း ဆောင်ရွက်ကြခြင်း၌ စက်နှင့်လုပ်သကဲ့သို့ သေချာစေ့စပ်လှသဖြင့် အချိန် နောက်ကျနေခြင်းဟူ၍ အလျင်းမရှိ။ ဤရုပ်ဓါတ် စကြာဝဠာကြီးသည် အဆိုပါ ထောက်သုံးထောက်ရှိသော ထပ်တလဲလဲ လှုပ်ရှားမှု ဘီးကြီးဖြင့် မရပ်မနား လည်လျက်ရှိ၏။

အချိန်ကာလသည် ခပ်သိမ်းသော မဟာဘုတ်ဓါတ်စက်ဝန်းတို့ လှည့်လည်ရာလမ်း ဖြစ်၏။ "ပစ္စုပ္ပန်" သည် ခပ်သိမ်းသော စက်ဝန်းတို့၏ ရပ်နားရာ အမှတ်အသား ဖြစ်၏။ ထိုနည်းတူစွာပင် ရုပ်ဓါတ်စက်ဝန်းတို့လည်း လှည့်လည်၍ ရပ်နားကြ၏။ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်းပင် ထပ်တလဲလဲ လှုပ်ရှားမှု စက်ဝန်း လှည့်လည်ခြင်း၏ အမြန်နှုန်းသည် လျှပ်စစ်ဘပျက်အတွင်း၌ အကြိမ် - ၁၇၆၄၇၀၀၀၀၀၀၀ ခန့်ဖြစ်၏။ မဟာဘုတ်ဓါတ်တခုအတွင်း၌ ထပ်တလဲလဲ လှုပ်ရှားမှု အမြန်နှုန်းသည် အလွန်မြန်လှသဖြင့် ဉာဏ်ဖြင့်ကူး၍သာ ကြည့်နိုင်၏။

## ထပ်တလဲလဲလှုပ်ရှားမှု စက်ဝန်းလည်ရာ နေရာ

ခပ်သိမ်းသော မဟာဘုတ်ဓါတ်များအနက် မြေဓါတ်၊ ရေဓါတ်၊ လေဓါတ်၊ မီးဓါတ် များအတွင်း၌သာလျှင် ဖြစ်ခြင်းစက်ဝန်း၊ တည်ခြင်းစက်ဝန်း၊ ပျက်ခြင်းစက်ဝန်း တို့သည် လည်နိုင်၏။ ဟင်းလင်းပြင်ဓါတ်သည် တဆက်တည်း သော အခြင်းအရာဖြစ်သဖြင့် ထပ်တလဲလဲ လှုပ်ရှားမှုမှ ကင်းလွတ်၏။ ဟင်းလင်းပြင် ဓါတ်ထဲ၌ ဖြစ်ခြင်းစက်ဝန်း၊ တည်ခြင်းစက်ဝန်း၊ ပျက်ခြင်းစက်ဝန်းတို့ မရှိ။

အာရုံပို့မှုဓါတ်တို့သည် ဓါတ်ကြီး လေးပါး၏ဖြစ်စဉ်ကို မလွန်ဆန်နိုင်ကြ။ ထိုဓါတ်တို့သည် ဓါတ်ကြီး လေးပါး မှတဆင့်ပွား၍လာကြသော ဓါတ်များဖြစ်၏။ အာရုံပို့မှုဓါတ်တို့သည် မဟာဘုတ် ဓါတ်ကြီး လေးပါးတို့နှင့် အတူတကွသာလျှင်ဖြစ်ကြ၊ တည်ကြ၊ ပျက်ကြ၏။ အဆင်း၊ အသံ၊ အရသာ၊ အနံ့နှင့် အထိအတွေ့ ဟူဆိုအပ်သော ပို့မှုဓါတ်တို့သည် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း အင်အားများကို မလွန်ဆန် နိုင်ကြ။ သို့ရာတွင် ထိုဓါတ်တို့မှာ မဟာဘုတ် ဓါတ်ကြီး လေးပါးတို့၏ ဖြစ်ပေါ်လာ ခြင်း၏ လက္ခဏာသာလျှင် ဖြစ်၏။ မဟာဘုတ် ဓါတ်များအတွင်း၌ရှိသော ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း အင်အားတို့နှင့် ကင်း၍ဖြစ်ပေါ်လာသော အခြင်းအရာ များ မဟုတ်။

မဟာဘုတ်ဝါတ်ကြီး လေးပါး ဖြစ်ပေါ်လာသည်နှင့်တပြိုင်နက် ဝို့မှုဝါတ်တို့လည်း အတူတကွ ယှဉ်တွဲ၍ ပါလာ၏။ မဟာဘုတ်ဝါတ်ကြီး လေးပါး ရပ်စဲသည်နှင့် တပြိုင်နက် ထိုဝါတ်တို့လည်း ရပ်စဲကြ၏။ တနည်းဆိုသော် ထိုဝါတ်တို့သည် မဟာဘုတ်ဝါတ်ကြီး လေးပါး လည်ရာစက်ဝန်းအတွင်း၌သာ ထဝ်တလဲလဲ လှုပ်ရှားကြ၏။ ထိုဝါတ်တို့တွင် အဆိုပါစက်ဝန်း၌ လည်နိုင်ရန် မိမိတို့ကိုယ်ပိုင် အင်အား မရှိကြ ။

## အင်အားသို့မှီး မှုသဘော

မဟာဘုတ်ဝါတ်အားလုံးအတွင်း၌ ဖြစ်ခြင်းစက်ဝန်း၊ တည်ခြင်းစက်ဝန်း၊ ပျက်ခြင်းစက်ဝန်းတို့သည် မရပ်မနားဘဲ လျှင်မြန်စွာ လည်၍ နေကြသော်လည်း ဟင်းလင်းပြင်ဝါတ်က မဟာဘုတ်ဝါတ်အားလုံး၏ အင်အားကို သို့မှီး၍ ပေး၏။ ဤနည်းဖြင့် အင်အားမညီမျှဖြစ်မှုတို့သည် မပေါ်ပေါက်နိုင်ကြ။ ဟင်းလင်းပြင်ဝါတ်သည် အင်အားများကို သို့မှီးပေးရန်အလို့ငှါ မဟာဘုတ်ဝါတ်အားလုံးအတွင်းသို့ ထိုးဖေါက်ကာ ဝင်၍နေကြောင်းကို အထက်တွင် ဖေါ်ပြခဲ့ပြီ။ ထို့အပြင် မဟာဘုတ်ဝါတ်အားလုံးသည် အချင်းချင်း ပူးပေါင်း၍ ရုပ်ကလာပ်များဖြစ် နေကြသည်ကိုင် အောင်ပင် တခုနှင့်တခု ပေါင်းစပ်မသွားကြစေရန်အတွက် ဟင်းလင်းပြင်ဝါတ်က ဝေ၀င့် ထိန်းပေးထားကြောင်းကိုလည်း အထက်တွင် ဆိုခဲ့ပြီ။ ဟင်းလင်းပြင်ဝါတ်၏ ကျေးဇူးကြောင့် မဟာဘုတ်ဝါတ်တို့သည် ရုပ်ကလာပ်များအတွင်း၌ နှောင်ဖွဲ့ခြင်းခံနေကြရသည့်တိုင် အောင်ပင် တခုနှင့်တခု လွတ်လွတ်ကင်းကင်းကြီး ဝေးကွာနေကြသဖြင့် ထဝ်တလဲလဲ လှုပ်ရှားမှုကိစ္စကို အနှောက်အယှက်ကင်းစွာဖြင့် ပြုနိုင်ကြ၏။ ထဝ်တလဲလဲ လှုပ်ရှားမှုသည် မဟာဘုတ်ဝါတ်ကြီးများ တခုစီ တခုစီ ကွဲပြား၍ နေသောအခါတွင်သာမဟုတ်ဘဲ တခုနှင့်တခု ဘင်းကြပ်စွာ ပေါင်းဖွဲ့နေသည့်အခါများ၌ပင် ချောမောလွယ်ကူစွာ ဖြစ်ပေါ်နိုင်၏။ အသီးသီး သော မဟာဘုတ်ဝါတ်ကြီးတို့၏ အင်အားကို ဟင်းလင်းပြင်ဝါတ်က သို့မှီး၍ ပေးပြီးလျှင် ထဝ်တလဲလဲ လှုပ်ရှားမှုသည် စကြာဝဠာတဝန်းလုံး၌ မဟာဘုတ်ဝါတ်ကြီးများအတွင်း၌၄င်း၊ ခပ်သိမ်းသော အရာဝတ္ထုတို့အတွင်း၌ ဖြစ်ခြင်းစက်ဝန်း၊ တည်ခြင်းစက်ဝန်း၊ ပျက်ခြင်းစက်ဝန်း များနှင့် ဘကွ လူတို့၏ ကိုယ်ခန္ဓာအတွင်း၌ အရာဝတ္ထုများထဲ၌၄င်း ၊ဖြစ်ပေါ် လျက်ရှိ၏။

နာမ်ဓါတ်တခါလျှပ်ကို သုံးပုံငိုင်းပုံငိုင်းထား၏။ ထိုသုံးပိုင်းကို စိတ္တက္ခဏ ဟု ခေါ်၏။ မဟာဘုတ်ဓါတ် တခါလျှပ်တွင် နာမ်ဓါတ်က ၁၇ ကြိမ်လျှပ်သဖြင့် မဟာဘုတ်ဓါတ် ၁ကြိမ်လျှပ်သည့်အခါတွင် နာမ်ဓါတ်က ( ၁၇×၃ ) = ၅၁ ကြိမ်လျှပ်၏။ မဟာဘုတ်ဓါတ်တခု၏ ပထမ စိတ္တက္ခဏ အတွင်း၌ ထိုမဟာဘုတ်ဓါတ်၏ ဖြစ်ခြင်းသည် အပြီးသတ်၏။ ထို့နောက် စိတ္တက္ခဏ ၄၉ ခု ကြာမျှ တည်၏။ စိတ္တက္ခဏ ၅၁ ကြိမ်မြောက်အတွင်း၌ မဟာဘုတ်ဓါတ်အသီးသီးတို့သည် ပျက်ခြင်းအင်အားက မှီလာသဖြင့် ရပ်စဲ၍သွားကြ၏။ ဤနည်းဖြင့် မဟာဘုတ်ဓါတ်တခု၏ လျှပ်ရှားခြင်း အချိန်ကာလကို သုံးပိုင်း ပိုင်းထား၏။ ဖြစ်ခြင်းအပိုင်းနှင့် ပျက်ခြင်းအပိုင်းမှာ တို၍ တည်ခြင်း အပိုင်းမှာ ရှည်လှ၏။

## ထပ်တလဲလဲ လှုပ်ရှားမှုနှင့် အစဉ်မပြတ် တဖွားဖွားဖြစ်ပေါ်မှု

ဖြစ်ခြင်းဓါတ်အကြောင်းနှင့်ပတ်သက်၍ နားမရှုပ်စေရန် အလို့ငှါ ဗုဒ္ဓက ဖြစ်ခြင်း ( ဥပစယ ) ဆိုသည်မှာ ရုပ်ကလာပ်တခုအတွင်း၌ မဟာဘုတ်ဓါတ် ပထမ ဖြစ်ပေါ်ခြင်းကိုဆိုလိုသည်ဟု ပြော၏။ သို့ရာတွင် အသီးသီး သော ဖြစ်ခြင်း တို့သည် တည်ခြင်း၊ ပျက်ခြင်းတို့နှင့် အတိုင်အဖေါက် အချိန်မှန်ကန်စွာဖြင့် လှုပ်ရှား ကာ နေကြ၏။

ရုပ်ကလာပ်တခုအတွင်း၌ မဟာဘုတ်ဓါတ်တို့ ထပ်တလဲလဲ ဖြစ်နေခြင်းကို ထပ်တလဲလဲဖြစ်ခြင်းဓါတ် ( သန္တတိရုပ ) ဟု ဗုဒ္ဓက ခေါ်၏။ ထပ်တလဲလဲဖြစ်ခြင်းဓါတ်သည် ဖြစ်ခြင်းဓါတ်နှင့်အတူတူပင် ဖြစ်၏။ အရာဝတ္ထုတခု ပထမ ဖြစ်ပေါ်လာခြင်းကို ဖြစ်ခြင်းဓါတ်ဟု ခေါ်၍ ထိုအရာဝတ္ထုအတွင်း၌ နောက်ထပ်အဆက်မပြတ် ပေါ်လာသော ဖြစ်ခြင်းဓါတ်တို့ကို ထပ်တလဲလဲ ဖြစ်ခြင်းဓါတ်ဟု ခေါ်၏။ ဖြစ်ခြင်း ဓါတ်နှင့် ထပ်တလဲလဲ ဖြစ်ခြင်းဓါတ်တို့သည် ထိုသို့ခြားနားခြင်း ရှိကြ၏။

ဤတွင် မဟာဘုတ်ဓါတ်များ ပေါင်းဝင်၍ သက်မဲ့ရုပ် စကြာဝဠာဖြစ်စေ တတ်သော အကျဉ်းအားဖြင့် လေ့လာအပ်သော မဟာဘုတ်ဓါတ်များအကြောင်း သည် ပြီး၏။ တဆင့်ပွား အရာဝတ္ထုများ၏ အသွင်အပြင်အကြောင်းများကို မှုကား မလေ့လာကြရသေး။ စပ်စပ်သော်ကား ထိုအရာဝတ္ထုများအကြောင်းကို လက် တွေ့အားဖြင့် လေ့လာ၍လည်း ဖြစ်နိုင်ပုံမရ။ အဘယ့်ကြောင့်ဆိုသော် အမိက တဆင့်ပွားအရာဝတ္ထုတိုင်းတွင် အရေအတွက် အပိုင်းအခြားမရှိသော တဆင့်ပွား အရာဝတ္ထုအမျိုးမျိုး ရှိသောကြောင့်ဖြစ်၏။ ဥပမာ ဆိုသော် အဆင်းဓါတ်ကို

အကြိမ်ပေါင်း မရေမတွက်နိုင်အောင် ပိုင်းခြားနိုင်၏။ အဆင်းဟု ဆိုရာ၌ အနီ လည်းဖြစ်နိုင်၏။ အပြာလည်းဖြစ်နိုင်၏။ အမည်းလည်းဖြစ်နိုင်၏။ အဝါလည်းဖြစ်နိုင်၏။ အစိမ်း စသည်တို့လည်းဖြစ်နိုင်၏။ ထို့ပြင် စကြဝဠာ တခုလုံးသည် အဝဥ်မပြတ် ဘဝသစ်ဖွားဖြစ်ပျက်လျက် နေသဖြင့် ထိုစကြဝဠာ၏ တခုသောအစိတ်အပိုင်းကို စစ်ဆေးကြည့်ရှုမည်ဆိုက လက်တွေ့လုပ်၍ ဖြစ်နိုင်လိမ့်မည် မဟုတ်။ အဓိက မဟုတ်သော အသေးစိတ်အချက်တို့မှာ အလွန်တရာ စိတ်ဝင်စားဘွယ်ကောင်းသည်မှာ မှန်၏။ သို့ရာတွင် ထိုအသေးစိတ်အချက်များကို နားလည်နိုင်ရန်အတွက် အဓိက သဘောတရားအချို့ကို နောက်ထပ်နားလည်ရန်လို၏။ ထို့ကြောင့် သက်ရှိစကြဝဠာနှင့် သက်ဆိုင်သော မဟာဘုတ်ဓါတ်များအကြောင်းကို သုံးသပ်ကြကုန်အံ့။

## အခန်း ၃။

## သက်ရှိဓါတ်များ

သက်မဲ့စကြဝဠာကြီးသည် ဓါတ် ၁၃ ခုတို့ ပေါင်းစပ်မှုဖြင့်ဖြစ်ပေါ်နေသည့်အကြောင်းကို ပြီးခဲ့သော အခန်းတွင် ဆိုခဲ့ပြီ။ အပိုင်းအခြားမရှိသော ဟင်းလင်းပြင်ဓါတ်က အပိုင်းအခြားမရှိသော အခြားဓါတ်အားလုံးကို ပြုစုထောက်ပံ့ထား၏။ အာရုံပို့ ၅(ဂေါစရရုပ)ဓါတ်ငါးခုသည် မဟာဘုတ်ဓါတ်ကြီးလေးခုမှ တိုက်ရိုက်ဖြစ်ပေါ်လာကြ၏။ အသွင်အပြင်ဓါတ် (လက္ခဏာရုပ)ဓါတ်များသည် မဟာဘုတ်ဓါတ်များအတွင်း၌ လည်း၍နေကြသော အတွင်းပါအင်အားများဖြစ်၏။ ထို့ကြောင့် အာရုံပို့မှုဓါတ်နှင့် အသွင်အပြင်ဓါတ်နှစ်မျိုးလုံးသည် မဟာဘုတ်ဓါတ်ကြီးလေးခု ပေါင်းစပ်ရာအဖြစ်နှင့် ဖြစ်ကြ၊ တည်ကြ၊ ပျက်ကြ၏။

ဤအခန်းကို လေ့လာသည့်အခါတွင် အထက်တွင်ဖေါ်ပြခဲ့သော ဓါတ်ကြီး ၁၃ ခုအကြောင်းကို မမေ့ကြဘို့ အရေးကြီး၏။ ထို့ကြောင့် အောက်ပါအတိုင်း အဆိုပါဓါတ်ကြီး ၁၃ ခုကို ထပ်၍ ဖေါ်ပြပေအံ့။ မဟာဘုတ်ဓါတ်ကြီးလေးပါးမှာ မြေဓါတ်၊ ရေဓါတ်၊ လေဓါတ်နှင့် မီးဓါတ်တို့ဖြစ်၏။ အာရုံပို့မှုဓါတ်ငါးပါးမှာ အဆင်း၊ အရသာ၊ အသံ၊ အနံ့နှင့်အထိအတွေ့တို့ဖြစ်၏။ အသွင်အပြင်ဓါတ်သုံးပါးမှာ ဖြစ်ခြင်းအင်အား၊ တည်ခြင်းအင်အား၊ ပျက်ခြင်းအင်အားတို့ဖြစ်၏။ ထိုအထဲသို့ ဟင်းလင်းပြင်ဓါတ်ကို ပေါင်းလျှင် ပေါင်း ၁၃ ခုဖြစ်၏။ ထပ်တလဲလဲ ပြုစ်ရှားမှုဓါတ်မှာ ဖြစ်ခြင်းအင်အားနှင့် အတူတူပင်ဖြစ်၏။

ဤအခန်းတွင် လေ့လာမည့်အချက်များကို ကောင်းစွာသဘော ပေါက်နိုင်ရန်အတွက် နာမ်ဓါတ်၏ ပြုမူပုံနှင့် ပတ်သက်သော အခြေခံသဘော တရားများကို သိဘို့လို၏။ အခန်း ပါ ရုပ်ဓါတ်များနှင့် နာမ်ဓါတ်များ အကြောင်းတွင် နာမ်ဓါတ်နှင့် ပတ်သက်၍ သိနားလည်ရန် အချက်များကို လုံလောက်စွာ ဖေါ်ပြခဲ့ပြီ။ ထို့ကြောင့် ထိုအချက်များကို လိုအပ်သည့်အခါတိုင်း အသုံးပြုကြရ ပေလိမ့်မည်။

<u>သက်ရှိသတ္တဝါတို့နှင့် စပ်လျဉ်းသော နောက်ထပ်ဓါတ်များ</u>

အသက်မရှိသောသူနှင့် အသက်ရှိသောသူတို့၏ ခြားနားချက်မှာ အသက်မရှိသူတို့တွင် အထက်တွင် ဖေါ်ပြခဲ့သည့်အတိုင်း ဓါတ် ၁၃ မျိုးသာရှိ၍၊ အသက်ရှိ သူတို့တွင် ထိုဓါတ် ၁၃ မျိုးအပြင် အသက်ရှိမှုနှင့် စပ်လျဉ်းသော ဓါတ် ၁၅ မျိုး ရှိခြင်း ဖြစ်၏။ အသက်မရှိသူတို့တွင် မရှိဘဲ အသက်ရှိသူတို့၌သာရှိသော ဓါတ် ၁၅ မျိုး အကြောင်းကို စဉ်ဆေးကြည့်ရှုကြကုန်အံ့။

အသက်ရှင်၍ ကျန်းမာခြင်းနှင့် ကောင်းမွန်ပြည့်စုံသော သူတို့တွင် အဆိုပါ ဓါတ် ၁၅ မျိုးလုံးသည် အမြဲတမ်းလှုပ်ရှားလျက်ရှိ၏။ ထို ၁၅ မျိုးကို အသက်ရှင် မှုဓါတ်များဟု ခေါ်ဆိုအံ့။ အသက်ရှင်သူတို့၏ ကိုယ်တွင်း၌ရှိနေသော အသက်ရှင်မှု ဓါတ်အားလုံးသည် ထိုသူတွင်ရှိသော နာမ်ဓါတ်မှ ဖြစ်ပေါ်လာသော အခြင်းအရာ များဖြစ်၏။ ထိုဓါတ်အားလုံးသည် နာမ်ဓါတ်ဆိုက် ရောက်လာသည့်အခါတွင် ပါလာ၍ နာမ်ဓါတ်ထွက်ခွါသွားသည့်အခါတွင် ပျောက်ကွယ်သွားကြ၏။ ထိုဓါတ်တို့သည် မဟာ ဘုတ်ဓါတ်ကြီး လေးပါးတို့မှ အဆင့်ပွားသော အရာများဖြစ်၏။ သို့ရာတွင် ထိုဓါတ် တို့သည် သက်မဲ့ရုပ်ဓါတ်တွင်းရှိ ဓါတ်များထက် သိမ်မွေ့၏။ အဘယ့်ကြောင့်ဆိုသော် အသက်ရှင်မှုဓါတ်တို့သည် နာမ်ဓါတ်မှ ထွက်ပေါ်လာသော ပိုမိုပြင်းထန်၊ ပိုမိုအား ကောင်းသော လှုပ်ရှားမှု အရှိန်ကို ခံယူကြရသော ကြောင့်ဖြစ်၏။

<u>နာမ်ဓါတ်၏ ပိုင်နက်တွင်းရှိ ရုပ်ဓါတ်</u>

အသက်ရှင်မှုဓါတ်တို့သည် နာမ်ဓါတ်၏ ပိုင်နက်တွင်းသို့ သက်မဲ့ရုပ်ဓါတ် များ ကျရောက်လာသည့်အခါတွင် ထွက်ပေါ်လာကြသော အခြင်းအရာများဖြစ်၏။ စကြာဝဠာအတွင်း၌ရှိကြသော ရုပ်ဓါတ်ရှိ သတ္တဝါတို့၏ ကိုယ်ထည်သည် သက်မဲ့ရုပ် ဓါတ် ၁၃ မျိုး၏ အပုံအဝေးဖြစ်၏။ ထိုရုပ်ဓါတ် ၁၃ မျိုးသည် လှုပ်ရှားမှုနှေး၍ အားနည်းကြ၏။ ထို့ကြောင့် နာမ်ဓါတ်နှင့် ယှဉ်တွဲ၍ ခရီးသွားနေရသော ရုပ် ဓါတ်တို့သည် အစဉ်မပြတ် နာမ်ဓါတ်၏ ဆွဲငင်မှုကို ခံနေကြရ၏။

ပို၍ အားကောင်းသော နာမ်ဓါတ်နှင့် အားပြော့သော ရုပ်ဓါတ်တို့ အင်အားခြင်းမျှ နေကြခြင်းမှာ အောက်ပါအကြောင်းနှစ်ခု ကြောင့်ဖြစ်၏။ တကြောင်းမှာ နာမ်ဓါတ်သည် မိမိပိုင် ကိုယ်ထည်ထဲသို့ နောက်ထပ်ရုပ်ဓါတ်များကို ဆွဲငင်ယူခြင်းဖြစ်၍ ကျန်တကြောင်းမှာ နာမ်ဓါတ်သည် မိမိပိုင် သက်ရှိကိုယ်ထည်ကို လျော့ပါးသော အဆင့်အတန်းဘုံ၌ နေအောင် ထိန်းသိမ်းထားခြင်းဖြစ်၏။ ထို့ကြောင့် ကိုယ်ထည်၏ ပမာဏနှင့် အဆင့်အတန်းရှိမှုတို့က နာမ်ဓါတ်၏ ပိုနေသောအားကို မျှတအောင်ပြုပြင်၍ ပေးကြ၏။ ဤနည်းဖြင့် သက်ရှိ သတ္တဝါတို့သည် မိမိတို့ဘည် နေရန်လိုအပ်သော ရုပ်ဓါတ်နှင့် နာမ်ဓါတ် မျှတမှုကို ရကြ၏။

## လျှင်မြန်သော လှုပ်ရှားမှု၏ အကျိုး

နာမ်ဓါတ် ၁၇ ကြိမ်လှုပ်ရှားသောအခါတွင် ရုပ်ဓါတ်က တကြိမ်လှုပ်ရှား၏။ ထို့ကြောင့် နာမ်ဓါတ်က လျှပ်စစ်ဘပျက်အဋ္ဌန်အတွင်း၌ အကြိမ်ပေါင်း - ၃၀၀၀၀၀၀၀၀၀၀၀၀ လှုပ်ရှားသောအခါတွင် ရုပ်ဓါတ်က အကြိမ်ပေါင်း - ၁၇၆၄၇၀၀၀၀၀၀၀ သာလျှင်လှုပ်ရှား၏။ ဤနည်းဖြင့် နာမ်ဓါတ်က လှုပ်ရှားတိုင်း လှုပ်ရှားတိုင်း ရုပ်ဓါတ်က လိုက်၍ ကြောက်မက်ဖွယ်ရာ လှုပ်ရှားရ၏။ ဤသို့ ကြောက်မက်ဖွယ်လှုပ်ရှားခြင်းများသည် ရုပ်ဓါတ် တကြိမ်တကြိမ် လှုပ်ရှားသည့် အခါတိုင်း ၁၇ ကြိမ် ဖြစ်ပေါ်ကြသဖြင့်၊ သက်ရှိကိုယ်ထည်အတွင်းရှိ ရုပ်ဓါတ်အားလုံးသည် သွက်သွက်ခါသွားကြ၏။ သက်ရှိကိုယ်ထည်အတွင်းရှိ ရုပ်ဓါတ်တို့သည် နာမ်ဓါတ်၏ ပြင်းထန်သော လှုပ်ရှားမှုကို ခံကြရသောအခါတွင် မိမိတို့ နေရိုးနေစဉ် အခါများထက်ပို၍ ကမောက်ကမ ဖြစ်ကြ၏။ ဆပ်ပြာရေကို မွှေသောအခါတွင် အမြှုပ်များထွက်လာသကဲ့သို့ ရုပ်ဓါတ်သည် နာမ်ဓါတ်၏ လှုပ်ရှားမှုနှင့် တွေ့သော အခါတွင် သိမ်မွေ့သော တဆင့်ပျိုးလှိုင်းများဖြစ်ပေါ်လာ၏။

## အသက်ရှင်မှုဓါတ်များဖြစ်ပေါ်ပုံနှင့်ပြန့်ပွားပုံ

ရုပ်ဓါတ်များကို လှုပ်ရှားမှုဖြင့် အသက်သွင်းပေးရာတွင် နာမ်ဓါတ်သည် အင်အား ၁၅ မျိုးကို အသုံးပြု၍ သိမ်မွေ့သော အမြှုပ်လှိုင်းဟု ဆိုအပ်သော အသက်ရှင်မှုဓါတ်ကို ဖြစ်ပေါ်စေ၏။ အဆိုပါအင်အား ၁၅ မျိုးလုံးသည် နာမ်ဓါတ်ထဲ၌ ရှိ၏။ သို့ရာတွင် ထိုအင်အား ၁၅ မျိုးအနက်မှ အနည်းငယ်သည် သာလျှင် အမြဲတန်းအင်အားပြည့်ဝွာနှင့် နေနိုင်၍ ကျန်အင်အားများမှာ

ရာသီအလိုက်၊ အသက်အရွယ်အလိုက်၊ ပြောင်းလဲခြင်း ရှိကြ၏။ နာမ်ဓါတ်၏ အင်အားများမှာ တခုနှင့်တခု မတူကြသဖြင့် ထိုအင်အားများမှ ဖြစ်ပေါ်လာသော အသက်ရှင်မှုဓါတ်များသည်လည်း အမျိုးမှာ နည်းပါး၍ အမျိုးမှာ များပြားကြ၏။ နာမ်ဓါတ်သည် မိမိ၏ အတွင်းပါအင်အားများကို မည်သည့်အခါတွင်မျှ အကုန်အဝင် အသုံးမပြု။ ပြော့ညံ့သော အသက်ရှင်မှုဓါတ်များကပင် နာမ်ဓါတ်တွင်းမှ နေ၍ ပြော့ညံ့သော အသက်ရှင်မှုဓါတ်များကို ဖြစ်ပေါ်စေကြ၏။ ဤနည်းဖြင့် အသီးသီးသော သက်ရှိကိုယ်ထည်များထဲတွင် အသက်ရှင်မှုဓါတ်များသည် အမြဲတမ်းဖြစ်ပေါ်နေကြ၏။ အားပြော့သော အသက်ရှင်မှုဓါတ်များသည် ငုတ်လျှိုး၍ နေကြ၏။

အသက်ရှင်မှုဓါတ်အားလုံးသည် သက်ရှိကိုယ်ထည်တခုလုံး၌ အနှံ့အပြား ပြန့်၍ နေကြ၏။ ထို့ကြောင့် လူတိုင်းလူတိုင်း၏ ကိုယ်ထည်တွင်း၌ ရုပ်ကလာပ်တိုင်း ရုပ်ကလာပ်တိုင်း၌ အသက်ရှင်မှုဓါတ် ၁၅ မျိုးပုံးသည် တည်ရှိနေကြသည်ကို သတိပြုရာ၏။ သို့ရာတွင် အဆိုပါ အသက်ရှင်မှုဓါတ်တို့သည် မိမိတို့ အလုပ်ရှိရာ ကိုယ်ထည်အစိတ်အပိုင်းများ၌သာ သိမြင်နိုင်လောက်အောင် အဆောက်အအုံကြီးဝှာဖြင့် ဝုရိုး နေကြသဖြင့် ကျန်နေရာများတွင်မူကား အသက်ရှင်မှုဓါတ်တို့သည် ငုတ်လျှိုး၍ နေကြ၏။ သက်ရှိကိုယ်ထည်အတွင်း၌ အဆိုပါ အသက်ရှင်မှုဓါတ်များ တည်ရှိနေကြောင်းနှင့် အဆိုပါ အသက်ရှင်မှုဓါတ်များသည် မည်ကဲ့သို့ ကိုယ်ထည်တခုလုံးအတွင်း၌ ပြန့်နှံ့၍ တည်ကြသည့်အကြောင်းကို နားလည်ဘို့အရေးကြီး၏။ ထိုသို့ အရေးကြီးသည့်အကြောင်းသည် ဝကြောဝဋ္ဋာ အကြောင်းနှင့် ပတ်သက်၍ [illegible] လေ့လာသောအခါများတွင် ထင်ရှားလာလိမ့်မည်။

အသက်ရှင်မှုဓါတ်အသီးသီးသည် မည်ကဲ့သို့သော အခြင်းအရာများ ရှိကြောင်းကို သဘောပေါက်မှသာလျှင် နာမ်ဓါတ်က မိမိအကျိုးငှါ အသက်ရှင်မှုဓါတ်များကို မည်ကဲ့သို့ ပုံမည်း၍၊ မည်ကဲ့သို့ အသုံးပြုနေကြောင်းကို ရှင်းလင်းစွာ နားလည်နိုင်လိမ့်မည်။ ထို့ကြောင့် အသက်ရှင်မှုဓါတ် ၁၅ မျိုးအကြောင်းကို ဝံနစ်တကျ စစ်ဆေးကြည့်ရှုကြကုန်အံ့။

## အာရုံပြန်မှုများ

သက်မဲ့အရာဝတ္ထုများအတွင်း၌ အဆင်း၊ အရသာ၊ အသံ၊ အနံ့နှင့် အထိအတွေ့ဟူသော အာရုံပို့မှုဓါတ်များ ရှိကြောင်းကို ပြီးခဲ့သည့်အခန်း၌ ဖော်ပြခဲ့ပြီ။ ထိုဓါတ်များနှင့် အပြန်အလှန်ဖြစ်သော အာရုံပြန်မှုဓါတ် (ပသာဒရုပ) များ ရှိကြ၏။ ထိုအာရုံပြန်မှုဓါတ်တို့သည် [illegible]အင်္ဂါများကို မှီ၍ဖြစ်ပေါ်လာသော

အရောင်တင်သောသများဖြစ်ပြီးလျှင်၊ ၄င်းတို့၏ အကူအညီဖြင့် ပတ်ဝန်းကျင်အခြေအနေသည် နာမ်ပါတ်ထဲ၌ ထင်လှာ၏။ အာရုံပြန်မှုပါတ်တို့၏ အရောင်ဘင်မှုသဘောသည် သတ်ရှိသတ်မဲ့ ရုပ်နှစ်မျိုးလုံးအတွင်း၌ရှိ အရောင်လှတ်မှုသဘောဆောင် သေ်ာ အာရုံပို့မှုပါတ် ငါးမျိုး ရှိ၍သာ မိမိတို့၏ တာဝန်ကို ဆောင်ရွက်နိုင်ကြ၏။ အာရုံပြန်မှုပါတ်တို့သည် မိမိတို့သက်ဆိုင်ရာ အင်္ဂါအစိတ်အပိုင်းများ၌သာ ထိုတ်လျောက်ဝွာ စုပေါင်း၍ ထကြမှုရှိနိုင်၏။

အာရုံပြန်မှုပါတ်အားလုံးသည် လူတို့၏ ကိုယ်တွင်းတလျောက်၌ ငုတ်လျှိုး၍ နေကြ၏။ ထို့ကြောင့် အာရုံတည်ရာ အင်္ဂါများ မဖွံ့ဖြိုးသူ၊ မသန်စွမ်းသူတို့၌ပင် အဆိုပါ အာရုံပြန်မှုပါတ်များ မရှိဟု မမှတ်ယူအပ်။ အင်္ဂါတခုသည် မဖွံ့ဖြိုး မသန်စွမ်း ဖြစ်နေခဲ့လျှင် ထိုသို့ဖြစ်နေခြင်းမှာ သက်ဆိုင်ရာ အင်္ဂါအတွင်း၌ အာရုံပြန်မှုပါတ်သည် အင်အားနည်းနေခြင်းသာဖြစ်၏။ အဆိုပါ အခြေအနေမျိုးတွင် အာရုံပြန်မှုပါတ်တည်ရာ အင်္ဂါများအတွင်း၌ ရှိနေကြသော အာရုံပြန်မှုပါတ်တို့သည် ငုတ်လျှိုးနေကြ၏။

အာရုံပြန်မှုပါတ်များမှာ မျက်စေ့(စက္ခု)၊ နား(သောတ)၊ နှာခေါင်း(ဃာန)၊ လျှာ(ဇိဝှါ)၊ အထိအတွေ့(ကာယ) ဟူ၍ ငါးမျိုးရှိ၏။ ထိုပါတ်များသည် မဟာဘုတ်ပါတ်ကြီးလေးပါးကို အမှီပြု၍ နေကြသော ပါတ်များဖြစ်၍ အထည်ဒြပ်ရှိသော အခြင်းအရာများ မဟုတ်ကြ။

## မျက်စေ့

မျက်စေ့၏ နောက်ဖယ်၌ရှိ အမွေးပါးပါတ်များထဲ၌ ချောမွေ့သော မျက်နှာပြင်သည် ရှိ၏။ ထိုမျက်နှာပြင်သည် အတွင်းဘက်၌ရှိ အမွေးပါးများကို အမှီပြု၍ နေရ၏။ ထိုမျက်နှာပြင်က မိမိရှေ့၌ ရောက်လာသော အဆင်းအမျိုးမျိုးကို နာမ်ပါတ်သို့ သိစေ၏။ ဤနည်းဖြင့် ရုပ်ပါတ်များအတွင်း၌ ရှိသော အဆင်းများ၏ အာရုံပြန်မှုကို ဖြစ်စေသော ပါတ်များကို မျက်စေ့၏ အာရုံပြန်မှုပါတ်(စက္ခုပသာဒ ရုပ)ဟု ခေါ်၏။ မျက်စေ့၏ အာရုံပြန်မှုပါတ်သည် အတိတ်က တွေ့မြင်ခဲ့ဘူးသော အဆင်းတို့ကိုလည်း အာရုံ၌ ထင်မြင်လာစေရန် အထောက်အပံ့ ပြုနိုင်၏။ ထို့ပြင် အနာဂတ်တွင် တွေ့မြင်အံ့သော အဆင်းကိုလည်း တင်ကူး၍ အာရုံ၌ထင်မြင်လာစေရန် အထောက်အပံ့ ပြုနိုင်၏။ အာရုံပြန်မှုပါတ်သည် အဆင်းပို့မှုပါတ်ကို နာမ်ဆီသို့ ရောက်စေခြင်းမှတပါး အခြားတာဝန်များကို မဆောင်ရွက်နိုင်။ ရုပ်ပါတ် ၂၈ မျိုးရှိသည့်အနက် မျက်စေ့သည် အဆင်းတမျိုးတည်းကိုသာ နာမ်ပါတ်ဆီသို့ ရောက်စေနိုင်၏။ ကျန် ၂၇ မျိုးသော ရုပ်ပါတ်တို့ကို မျက်စေ့သည် မမြင်နိုင်။ ဤအချက်ကို ကောင်းစွာနားလည်အပ်၏။

## နား

အင်္ဂါပြည့်စုံသော သတ္တဝါတို့၏ နားစည်ထဲတွင် အာရုံပြန်မှုဓါတ် ရှိ၏။ ထိုဓါတ်သည် ပတ်ဝန်းကျင်၌ရှိသော အသံဓါတ်များကို နာဗ်ဓါတ်ဆီသို့ ရောက်စေ၏။ အဆိုပါ နားတွင်း၌ရှိသော အာရုံပြန်မှုဓါတ်ကို နား၏အာရုံပြန်မှုဓါတ် ( သောတပသာဒ ရုပ် ) ဟု ခေါ်၏။

အသံပို့မှုဓါတ်တခုသည် နား၏ အာရုံပြန်မှုနှင့် ထိတွေ့သောအခါ နားစည်က အသံပြန်မှုကို ခံယူပြီးလျှင် နာဗ်ဓါတ်ဆီသို့ ပို့၏။ ဤနည်းဖြင့် ကြားမှုအာရုံသည်ဖြစ်ပေါ်လာ၏။ နား၏ အာရုံပြန်မှုဓါတ်သည် အသံပို့မှုဓါတ်တခုတည်းကိုသာ သိနိုင်ပြီးလျှင် ကျန်ရုပ်ဓါတ် ၂၇ပါးကို မသိနိုင်။

## နှာခေါင်းနှင့်လျှာ

အထက်ပါ နည်းအတိုင်းပင် နှာခေါင်းတွင်း၌လည်း အာရုံပြန်မှုဓါတ်သည် ရှိ၏။ ထိုဓါတ်သည် ရုပ်ဓါတ်ထဲ၌ရှိသော အနံ့ပို့မှုဓါတ်ကို နာဗ်ဓါတ်အား သိစေနိုင်၏။ ထိုဓါတ်သည် နှာခေါင်းအတွင်း မျက်နှာပြင်ပေါ်၌ အမြဲပေါ်၍ နေပြီးလျှင် အနံ့ပြန်မှုဓါတ်အားလုံးကို ခံယူ၍ နာဗ်ဓါတ်ဆီသို့ပို့၏။ ဤနည်းဖြင့် အနံ့အာရုံသည် နာဗ်ဓါတ်၌ ဖြစ်ပေါ်လာ၏။ ဤဓါတ်ကို နှာခေါင်း၏ အာရုံပြန်မှုဓါတ် ( ဃာနပသာဒ ရုပ် ) ဟု ခေါ်၏။ ဤဓါတ်သည် အနံ့ပို့ဓါတ်တခုတည်းနှင့်သာ ဆက်ဆံနိုင်၏။ ကျန်ဓါတ် ၂၇ ပါးကို နှာခေါင်းက မသိနိုင်။ လျှာမျက်နှာပြင် ပေါ်၌လည်း ရုပ်ဓါတ်ထဲ၌ရှိသော အရသာပို့မှုဓါတ်သည် ရှိ၏။ ထိုဓါတ်ကို လျှာ၏ အာရုံပြန်မှုဓါတ် ( ဇိဝှါပသာဒ ရုပ် ) ဟု ခေါ်၏။ ထိုဓါတ်သည် နာဗ်ဓါတ်ဆီသို့ အရသာပို့မှုဓါတ်တခုတည်းကိုသာ ရောက်စေနိုင်၏။ ကျန်ဓါတ် ၂၇ ပါးကို လျှာက မသိနိုင်။

## အထိအတွေ့ အာရုံပြန်မှုဓါတ်

မျက်စေ့၊ နား၊ နှာခေါင်း နှင့် လျှာဟူသော အာရုံပြန်မှုဓါတ် လေးခုသည် မိမိတို့နှင့်သက်ဆိုင်သော အာရုံပို့မှုဓါတ် လေးခုအတွက်သာ အသုံးဝင်၏။ အဆိုပါ ဓါတ်လေးခုသည် မိမိတို့နှင့် သက်ဆိုင်သော အင်္ဂါ၌ ၎င်း၊ အင်္ဂါများ၌ ၎င်း တည်နေကြ၏။

ထို့ရာသွင် အထိအတွေ့အာရုံပြန်မှုဓါတ် (ကာယပသာဒ ရုပ) သည်ကား လူကိုင်းလူကိုင်း၏ သက်ရှိကိုယ်အတွင်း၌ တည်နေ၏။ ထိုဓါတ်သည် အခြားသော အာရုံတည်ရာ အင်္ဂါများအပါအဝင်ဖြစ်သော တကိုယ်လုံး၌ အပေါ်ယံမျက်နှာပြင်တွင် တည်၍နေ၏။

## အထိအတွေ့ အာရုံပို့မှု

အထိအတွေ့ပြန်မှုဓါတ်သည် ရုပ်ဓါတ်အတွင်း၌ရှိသော အာရုံပို့မှုဓါတ်ကို နာမ်ဓါတ်အား ထင်အောင်ပြပေး၏။ ထိုဓါတ်ထဲ၌ မဟာဘုတ်ဓါတ်ကြီး ၃ ပါး ပါဝင်၏။ ထိုဓါတ်ထဲ၌ မြေဓါတ်ပါကြောင်းကို ၊ မာမှု၊ ပြော့မှုကို ၊ အကြောင်းပြု၍ သိရ၏။ မီးဓါတ်ပါကြောင်းကိုမူ နာမ်ဓါတ်သို့ ပူခြင်း အေးခြင်းကို သိအောင် လုပ်ပေးခြင်းဖြင့် သိရ၏။ ထိုနည်းတူစွာ ပ၆ လေဓါတ်ပါကြောင်းကိုမူ ပြည့်ဝခြင်း၊ ဟင်းလင်းဖြစ်ခြင်းတို့ဖြင့် သိရ၏။ အထိအတွေ့ အာရုံပြန်မှုဓါတ်သည် အဆိုပါ မဟာဘုတ်ကြီးသုံးပါးမှတပါး လူနှင့်အခြားသတ္တဝါတို့၏ ကိုယ်တွင်း၌ရှိသော အခြားဓါတ်များကို နာမ်ဓါတ်အား သိအောင် လုပ်၍ မပေး။ ကျွန်ုပ်တို့၏ ကိုယ်တကိုယ်လုံး၌ရှိသော အထိအတွေ့ အာရုံပြန်မှုဓါတ်သည် ဓါတ်ကြီး ၂၄ မျိုးလုံးကို မသိနိုင်။

## အင်္ဂါငါး ခုက ပတ်ဝန်းကျင်ကို အာရုံပြန်မှုပေးပုံ

ကျွန်ုပ်တို့သည် အရာဝတ္ထုတခုကို ကြည့်ကြသောအခါ ကျွန်ုပ်တို့ မျက်စေ့နှစ်လုံးတွင်းရှိ အာရုံပြန်မှုဓါတ်က ထိုအရာဝတ္ထုထဲ၌ရှိသော အာရုံပို့မှုဓါတ်ကို နာမ်ဓါတ်အား သိအောင်လုပ်ပေး၏။ ဤနည်းဖြင့် မျက်စေ့များ ရှေ့မှောက်တွင်ရှိသော အရာဝတ္ထု၏ အသင်းသည် နာမ်ဓါတ်ထံသို့ ရောက်လာ၏။ ကျွန်ုပ်တို့သည် အရာဝတ္ထုတခု၏ အနီးသို့ ချဉ်းကပ်၍ ကိုင်တွယ်ကြည့်လိုက်လျှင် ထိုအရာဝတ္ထုထဲ၌ရှိသော မြေဓါတ်၊ မီးဓါတ်နှင့် လေဓါတ်သုံးခုက မိမိ သက်ဆိုင်ရာ အာရုံပို့မှုဓါတ်ကို ထိတွေ့မှုဓါတ်ထံသို့ ပို့ဆောင်ပေး၏။ ... ခေါင်း၏ အာရုံပြန်မှုဓါတ်သည် အနံ့၏ အာရုံပို့မှုဓါတ်နှင့် ထိတွေ့သောအခါတွင် နာမ်ဓါတ်၌ အနံ့ဖြစ်ပေါ်လာ၏။ အရာဝတ္ထုတခုအတွင်း၌ရှိသော အရသာအာရုံပို့မှုဓါတ်သည် လျှာအတွင်း၌ရှိသော အရသာအာရုံပြန်မှုဓါတ်နှင့် ထိတွေ့သောအခါ ထိုအာရုံပြန်မှုဓါတ်သည် နာမ်ဓါတ်အတွင်းသို့ ရောက်သွားပြီး လျှင် အရသာအာရုံကို ဖြစ်ပေါ်စေ၏။ အရာဝတ္ထုတခုက အသံအာရုံပို့မှုကို ပို့လိုက်၍ ထိုအာရုံပို့မှုကို နားအတွင်းရှိ အာရုံပြန်မှုဓါတ်က နာမ်ဓါတ်ထံသို့ ဆောင်သွားသောအခါတွင် နာမ်ဓါတ်အတွင်း၌ အသံသည် ဖြစ်ပေါ်လာ၏။

ဤအင်္ဂါ နည်းငါးမျိုး၏ ကျေးဇူးကြောင့် နာမ်ဓါတ်သည် ပတ်ဝန်းကျင်ရှိ အရာဝတ္ထုများကို သိခြင်းဖြစ်ကြောင်းကို သတိပြုအပ်၏။ ထို့ကြောင့် အဆိုပါ အာရုံပြန်မှုဓါတ်ငါးမျိုးတို့အား အမှူးအမြှူး မုရုံးတည်ရာဖြစ်သော အင်္ဂါငါးမျိုးကို နာမ်ဓါတ်၏ တံခါးပေါက်ကြီးငါးပေါက်ဟု မှတ်ယူအပ်၏။ နှလုံးမှာ ပတ်ဝန်းကျင်နှင့်ဆိုင်သော အင်္ဂါ မဟုတ်။ နှလုံး၏အကြောင်းကို မကြာမီပင် ဖေါ်ပြအံ့။

## ပတ်ဝန်းကျင်သိမှုအင်္ဂါများက မသိနိုင်သော ဓါတ်များ

ရုပ်ဓါတ် ၂၈ ခု ရှိသည့်အနက် ပတ်ဝန်းကျင်သိမှု အင်္ဂါငါးခု၏ ကျေးဇူးဖြင့် ၈ ခုကိုသာလျှင် ကျွန်ုပ်တို့၏ နာမ်ဓါတ်က သိနိုင်၍၊ ကျန် ၂၀ သည် အဆိုပါ အင်္ဂါငါးခုဖြင့် မသိမြင်နိုင်ကြောင်းကို ဖေါ်ပြခဲ့ပြီ။ ပတ်ဝန်းကျင်သိမှု အာရုံငါးခုဖြင့် သိမြင်နိုင်သောဓါတ်များမှာ အဆင်း၊ အသံ၊ အနံ့၊ အရသာနှင့် အထိအတွေ့အာရုံပို့မှုဓါတ်များနှင့် မြေဓါတ်၊ မီးဓါတ်၊ လေဓါတ်တို့ ပါဝင်သော အထိအတွေ့ အာရုံပို့မှုဓါတ်များဖြစ်၏။ ထို့ကြောင့် ပတ်ဝန်းကျင်သိမှုအင်္ဂါငါးမျိုးတို့ဖြင့် မသိနိုင်သော ဓါတ် ၂၀ ကို ကျွန်ုပ်တို့၏ နာမ်ဓါတ်က မသိနိုင်။

ပတ်ဝန်းကျင်သိမှုအင်္ဂါများက မသိနိုင်သော ဓါတ် ၂၀ ထဲတွင် ရေဓါတ် ပါဝင်၏။ ရေဟု ကျွန်ုပ်တို့ ခေါ်နေကြသောအရာကို သေသေချာချာ ကိုင်တွယ်၍ ကြည့်သည့်အခါတွင် ကျွန်ုပ်တို့၏ နာမ်ဓါတ်သို့ ပူခြင်း၊ ဖြော့ပျောင်းခြင်း၊ ပြည့်ဝခြင်း အာရုံပြန်မှုများသာ ရောက်လာသည်ကို တွေ့ရလိမ့်မည်။ ရေကို ကြည့်လျှင်လည်း ရေ၏ အဆင်းသာလျှင် အာရုံပြန်မှုအဖြစ်နှင့် တွေ့ရလိမ့်မည်။ အကယ်၍ ရေထဲ၌ အနံ့ပို့မှုဓါတ် အလုံအလောက်ရှိသည်ဆိုပါမူ ထိုရေကို နမ်းကြည့်က ရေ၏ အနံ့သာလျှင် တွေ့ရ၏။ ရေကို သောက်ကြည့်လျှင်လည်း ရေ၏ အရသာကိုသာ တွေ့ရလိမ့်မည်။ သို့ရာတွင် ကျွန်ုပ်တို့၌ ရေဓါတ်၏ ယိုစီးမှု၊ စေးကပ်မှုများကို သိနိုင်သည့် အင်္ဂါများ မရှိ။ ထို့ကြောင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ပတ်ဝန်းကျင် သိမှုအင်္ဂါများဖြင့် ရေဓါတ်ရှိသည့်အဖြစ်ကို မသိနိုင်ကြ။

## နာမ်ဓါတ်က အားလုံးသော ဓါတ်များကို အိပ်

ပတ်ဝန်းကျင်သိမှုအင်္ဂါများဖြင့် မသိနိုင်သော ရေဓါတ်နှင့် နောက်ပွား ရုပ်ဓါတ် ၁၉ ခုကို နာမ်ဓါတ်က သိမြင်နိုင်၏။ နာမ်ဓါတ်သည် နှလုံးတွင်း၌ တည်ရှိကြောင်းကို ဖေါ်ပြခဲ့ပြီ။ အထက်တွင် ဖေါ်ပြခဲ့သော ရုပ်ဓါတ် ၂၀ ကို သာမာန်နာမ်ဓါတ်တို့က မသိနိုင်ဘဲ အားကြီးသော နာမ်ဓါတ်တို့ကသာ

သိနိုင်၏။ အဘယ့်ကြောင့်ဆိုသော် အိုးကြီးသော် **နှလုံး**ခါတ်ဘို့သည်သာလျှင် ပတ်ဝန်း ကျင်သိမှုအင်္ဂါများ၏ အကူအညီမရဘဲနှင့် တိုက်ရိုက်သိသောကြောင့်ဖြစ်၏။ ကောင်း ထောက်မသဖြင့် လူတို့၏ နှလုံးခါတ်သည် အဆိုပါ အာရုံတို့ကို တိုက်ရိုက် သိနိုင်သော သတ္တိနှင့်ပြည့်စုံ၏။ ထို့ကြောင့် လူတို့သည် စကြဝဠာတခုလုံးအကြောင်း ကို သိနိုင်၏။

ပတ်ဝန်းကျင်သိမှုအင်္ဂါများဖြင့် သိနိုင်သော ရုပ်ခါတ် ၈ ခုကို ခါတုဗေဒ ခါတ်စမ်းရုံ၊ ရူပဗေဒ ခါတ်စမ်းရုံများ၌ စမ်းသပ်ကြည့်နိုင်၏။ သို့ရာတွင် နှလုံးခါတ်သည်ကား ကျန်ခါတ် ၂၀ ကို စမ်းသပ်ကြည့်ရှုနိုင်သော တခုတည်းသော ခါတ်စမ်းရုံဖြစ်၏။ အဆိုပါ နူးညံ့သိမ်မွေ့သော ခါတ် ၂၀ ကို စမ်းသပ်ကြည့်ရှုနိုင်သော ခါတ်စမ်းရုံသည် နောက်ဆုံးပေါ် ခါတ်စမ်းရုံများ သို့မဟုတ် နောင်တွင် ပေါ်လာသော ခါတ်စမ်းရုံများထက် ပို၍ တန်ဖိုးကြီးရမည် သာဖြစ်၏။ လူတို့၏ နှလုံးခါတ်သည် အားလုံးသော ခါတ်စမ်းကြိယာတို့ထက် တန်ဖိုး ကြီးသည့်အပြင် ရှေးခေတ် ဗုဒ္ဓသည် မိမိ၏ နှလုံးခါတ်ကို စမ်းသပ်ကာ ရုပ်ခါတ် ၈ ရပ် ယာဘာန်ဆာတ်ဖြင့် စမ်းသပ်၍ ကြည့်နိုင်သော နည်းကိုလှန်သော သိမှုနည်းများသို့ ရောက်ခဲ့၏။

## နှလုံး

ယခုခေါ်ပြမည့် အခက်မှာတွင် အရေးအကြီးဆုံးဖြစ်သော အသက်ရှင် မှုခါတ်မှာ အာရုံပြန်မှုခါတ်ပင်ဖြစ်၏။ ထိုခါတ်ကို နှလုံး ( ဟဒယဝတ္ထုရုပ ) ဟု ခေါ်၏။ အရေးကြီးသော နှလုံးခါတ်၏ အာရုံပြန်မှုတို့မှာ ဤနှလုံးခါတ်ကို အမှီပြု၍ ဖြစ်ပေါ် လာကြ၏။ နှလုံးခါတ်သည် မဟာဘုတ်ခါတ်ကြီးလေးပါးမှ ပေါ်ဖွားလာသော ခါတ်ပွါး သာဖြစ်၏။ ထို့ကြောင့် ထိုခါတ်ကို အင်အား သို့မဟုတ် အရောင်အဝင်မှု၊ သို့မဟုတ် နှလုံးလှိုက်ခေါင်းများအတွင်းတွင် သွေးနှင့်အတူ ယှဉ်တွဲ၍နေသော အလင်းခါတ်ဟု မှတ်အပ်၏။ သွေးများသည် နှလုံးတွင်းမှ ထွက်ပျံ့ဝင်ရောက်လှုပ်နေကြသော်လည်း နှလုံးခါတ်၏ အဇ္ဈတ္တ အာရုံပြန်မှုဖြစ်သော နှလုံးခါတ်အာရုံပြန်မှုသည် မည်သည့် အခါ၌မဆို နှလုံးတွင်း၌သာ တည်နေ၏။ နှလုံးခါတ်သည် လူ၏ ကိုယ်ခန္ဓာတခုလုံးတွင် အရေးအကြီးဆုံးနှင့် တန်ဖိုးအကြီးဆုံးဖြစ်သော အပြန်ပြန်မှုအရောင်ဟင်မှုခါတ် ဖြစ်၏။ နှလုံးခါတ်၏ တာဝန်မှာ ကောင်းသော စိတ်လှုပ်ရှားမှုနှင့် မကောင်း သော စိတ်လှုပ်ရှားမှု နှစ်မျိုးလုံးကို နှလုံးခါတ်မှ ပို့ပေးရန်ဖြစ်၏။

နှလုံးတွင်းရှိ သွေးလှောင်ကန်များအတွင်း၌ စုဝေး၍နေသော နှလုံးခေါ်သည် နာမ်ခေါ်ဘည်ရာဖြစ်၏။ ဗဟိဝန်းကျင် သိမှုခေါ် ငါးခုလုံးသည် ထိုနေရာနှင့် ဆက်သွယ်ကြရ၏။ နှလုံး ခေါ်သည် ပဟိဝန်းကျင်သိမှုခေါ် ငါးခုမှ ပို့လိုက်သော အကြောင်းကြားချက်တို့ သွားကြရာဖြစ်၏။ အားကောင်းသော ပဟိဝန်းကျင်မှ ရောက်လာသည့် အမိက အာရုံပြန်မှုများသည် နှလုံးတွင်းရှိ အာရုံပြန်မှုခေါ်သို့ ရောက်အောင် ထိုးဝင်သွားကြ၏။ ထိုအခါတွင် နာမ်ခေါ် အာရုံလှုပ်ရှားမှု လှိုင်းတို့သည် ပေါ်လာကြ၏။ ပဟိဝန်းကျင်သိမှုခေါ်တို့မှ ဖြစ်ပေါ်လာသော သေးငယ်သော အာရုံပြန်မှုတို့သည် နှလုံး၏ အာရုံပြန်မှုသို့ မရောက်မီ ပျောက်ကွယ်သွားကြ၏။ နှလုံးမှဖြစ်ပေါ်သော အာရုံပြန်မှုခေါ်သည် သက်ရှိကိုယ်ခန္ဓာတခုလုံးတွင် ပြန့်နှံ့၍ တည်ရှိနေသော်လည်း နှလုံးလှောင်ကန်များအတွင်း၌သာ အင်အားကောင်း၏။

## အာရုံပြန်မှုတို့သည် အနည်းအတိုင်းဖြစ်ပေါ်ကြပုံ

ပဟိဝန်းကျင်သိမှု အာရုံပြန်ခေါ် ၅ မျိုးနှင့် နှလုံးမှ ဖြစ်ပေါ်သော အာရုံပြန်မှုခေါ်တို့သည် ကိုယ်ခန္ဓာတခုလုံး၌ အင်အားကောင်းစွာ ဖြစ်ပေါ်ကြသည် မဟုတ်။ မိမိတို့သက်ဆိုင်ရာ အင်္ဂါများ၌သာ အင်အားကောင်းကြ၏။ ကျန်ကိုယ်ခန္ဓာ အစိတ်အပိုင်းများတွင်မူကား ငုပ်လျှိုးကာသာ နေကြ၏။

အဆိုပါ ပဟိဝန်းကျင်သိမှုခေါ်များ၏ အင်အားသည် တဆင့်ပြီးတဆင့်သာ ဖြစ်ပေါ်လာ၏။ ရုပ်ခေါ်ရှိ သတ္တဝါတို့ သန္ဓေတည်ပြီးကာစ နောက်အဖွဲ့ဟု ဆိုအပ်သော ဘဝ၏ ပထမပိုင်းများတွင် ပဟိဝန်းကျင် သိမှုခေါ်တို့သည် မိမိတို့နှင့် သက်ဆိုင်ရာ အင်္ဂါများ၌ပင် ငုပ်လျှိုးကာ နေကြ၏။ နှလုံးနှင့်ပတ်သက်သော အာရုံပြန်မှုခေါ်သည်မူကား ပဋိသန္ဓေတည်လာသည်နှင့် တပြိုင်နက် အင်အားကောင်းလာပြီးလျှင်၊ ကိုယ်ခန္ဓာ၏ ဘဝဘ ပျောက်လုံးသေသည့်အချိန်ထိ အင်အားကောင်းလျက် ရှိ၏။

## အသက်ထက်ဆုံး ထကြွမှုရှိသော အင်အားများ

သက်ရှိ ကိုယ်ခန္ဓာအတွင်း၌ နှလုံးနှင့်သက်ဆိုင်သော အာရုံပြန်မှုခေါ်နှင့်တူသော အသက်ရှင်မှုခေါ် လေးခု ရှိ၏။ ထိုခေါ်တို့မှာ လင်္ဂခေါ် ၂ ခု၊ အသက်ရှင်မှုခေါ်တခုနှင့် အဟာရခေါ် တခုဖြစ်၏။ ထိုခေါ် လေးခုသည် ပဋိသန္ဓေ တည်သည်နှင့်တပြိုင်နက် ထကြွစွာရှိလာကြပြီးလျှင် သေသည့်အချိန်အထိ ထကြွစွာ ရှိ၏။

နှလုံးနှင့်ပတ်သက်သော အာရုံပြန်မှုဓါတ်သည် မိမိနှင့်သက်ဆိုင်သော နှလုံးအတွင်း၌သာ ထကြွရာရှိ၏။ ကျန်ကိုယ်ခန္ဓာ အစိတ်အပိုင်းများတွင်မူကား ငုတ်လျှိုးကာသာ နေ၏။ နှလုံးနှင့်သက်ဆိုင်သော အာရုံပြန်မှုစိတ်၏ ထကြွမှုသည် တခါတရံတက်၍ တခါတရံကျ၏။ အဘယ့်ကြောင့်ဆိုသော် ထိုဓါတ်သည် ပတ်ဝန်းကျင် သိမှုဓါတ်၏ နည်းတူ တခါတရံတွင် အလန်အင်အားကြီး၍ အလွန်လျှင်မြန်ပြီးလျှင် တခါတရံတွင် အင်အားလျော့၍ နှေးကန်၏။

သို့ရာတွင် လိင်ဓါတ်များ၊ အသက်ရှင်မှုဓါတ်များနှင့် အာဟာရဓါတ်များတွင်မူကား ထိုကဲ့သို့ ပြောင်းလဲခြင်းမျိုး မရှိ။ ဤဓါတ်များတွင် မိမိတို့အင်အားကို စုရုံးနိုင်ရန် အင်္ဂါအဖွဲ့အပိုင်းများ မရှိကြ။ ဤဓါတ်များ၏ အချိန်မှန်ကန်မှုနှင့် ပြင်းမှု ပြောင်းမှုတို့မှာ ရုပ်ဓါတ်ရှိသတ္တဝါတို့ ပဋိသန္ဓေယူသည့်အချိန်မှ သေသည့်အချိန်အထိ တသမတ်တည်းသာဖြစ်၏။ ဤဓါတ်တို့သည် ကိုယ်ခန္ဓာ တလျှောက်လုံး၌ ညီမျှစွာ ပျံ့နှံ့၍ နေကြ၏။

## အဖိုလိင်ဓါတ်နှင့် အမ လိင်ဓါတ်

လိင်ဓါတ်(ဘာဝရုပ်) နှစ်ခုမှာ (၁) အမလိင်(ဣတ္ထိဘာဝ) နှင့် (၂) အဖိုလိင် (ပုရိသဘာဝ) တို့ဖြစ်၏။ ထိုလိင်ဓါတ်နှစ်ခုလုံးသည် သတ္တဝါအားလုံး၌ ရှိ၏။ နည်းခြင်းများခြင်း၌သာ ခြားနားခြင်းရှိ၏။ သတ္တဝါတို့သည် မိမိတို့ ကိုယ်ခန္ဓာအတွင်း၌ရှိကြသော လိင်ဓါတ်နှစ်ခု၏ အချိုးအစား အနည်းအများအလိုက် အဖိုအမ ဖြစ်ကြ၏။ အဖိုလိင်ဓါတ် အချိုးအစားများစွာပါသော သတ္တဝါတို့သည် အဖိုဖြစ်ကြပြီးလျှင် အမလိင်ဓါတ် အချိုးအစားများစွာပါသော သတ္တဝါတို့သည် အမ ဖြစ်ကြ၏။

သတ္တဝါဖြစ်လာသော [illegible] ဓါတ်တိုင်း၌ [illegible] အဖိုဖြစ်ရန် ဓါတ်နှင့် အမဖြစ်ရန်ဓါတ်တို့ ပါလာ၏။ သို့ရာတွင် အဖိုဓါတ်နှင့် အမဓါတ်နှစ်ခုကို ချိန်စက်မှုမှာ အလွန်လျှင် ထိကျလှ၏။ အမဓါတ် အနည်းငယ်မျှသာ သော သတ္တဝါသည် လုံးဝအမ ဖြစ်လာပြီးလျှင်၊ အပြန်အလှန်အားဖြင့် အဖိုဓါတ်အနည်းငယ်မျှသာ သော သတ္တဝါသည် လုံးဝ အဖိုဖြစ်လာ၏။ အလေးသာသော လိင်ဓါတ်သည် မြောက်ပြားစွာ ပွားများပြီးလျှင် သတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ရှိရှိသမျှသော ရုပ်ကလာပ်တို့သို့ ပြန့်နှံ့၍သွား၏။ ကျန်လိင်ဓါတ်သည် ငုတ်လျှိုးကာနေ၏။

## လိင်ဓါတ်ကြီးပွားပုံ

လိင်ဓါတ်နှစ်ခုရှိသည့်အနက် တခုက ငုတ်လျှိုးနေသောအခါ တခုက လွှမ်းမိုး၍ လှုပ်ရှားလာပြီးလျှင် ထိုလှုပ်ရှားလာသော လိင်ဓါတ်သည် ကိုယ်ခန္ဓာတခုလုံးသို့ ပြန့်နှံ့သွားသည့်အကြောင်းကို အထက်တွင် ဖော်ပြခဲ့ပြီ။ လွှမ်းမိုးနေသော လိင်ဓါတ်သည် ကိုယ်တွင်း၌ အင်္ဂါအစိတ်အပိုင်းတို့ကို ကြီးပွားစေ တည့်တန့်စေ၏။ ပဋိသန္ဓေတည်သည့်အခါတွင် ဖြစ်ပေါ်လာသော ရုပ်ကလာပ်ထဲတွင် လိင်ဓါတ်နှစ်ခုလုံး ကြီးပွားရန်အကြောင်းများ ပါလာ၏။ သို့ရာတွင် နာမ်ဓါတ်အင်အားအလိုက် အစဉ်အဆိုင်းဖြစ်ပျက်လာသောအခါတွင် လိင်ဓါတ်တခုတည်းကသာ ကြီးပွား၍ လာပြီးလျှင် ကျန်လိင်ဓါတ်က ငုတ်လျှိုး၍သွား၏။

နာမ်ဓါတ်သည် ပဋိသန္ဓေ တည်ပြီးနောက်ကစ၍ ယှဉ်သော လိင်ဓါတ်များကို ဖြစ်ပေါ်စေပြီးလျှင် သေသောအခါကျမှသာ ရပ်နား၏။ ကိုယ်ခန္ဓာတခု အတွင်း၌ လိင်ဓါတ်တခုတည်းကသာ ကြီးမှူး၍ အခြားလိင်ဓါတ်က ငုတ်လျှိုးနေကြောင်း ကို သတိပြုကြရာ၏။ လိင်ဓါတ်တို့မှာ မဟာဘုတ်ဓါတ်ကြီး လေးပါးမှ တဆင့်ပွား၍လာ သော အရာများသာဖြစ်၏။ ထို့ကြောင့် လိင်ဓါတ်များကို အင်အားတခုအဖြစ်ဖြင့် နာမ်ဓါတ်ကသာလျှင် သိမြင်နိုင်၏။ လိင်ဓါတ်တို့သည် အခြားသော အသက်ရှင်မှု ဓါတ်အားလုံးနည်းတူ နာမ်ဓါတ်လှုပ်ရှားသော အလှုပ်ပြန်ဟုန်းအတိုင်းလှုပ်ရှား၏။

## အသက်ရှင်မှုဓါတ်

အကောင်အထည် အစဉ်မပျက်တည်နေမှုဓါတ (ဇီဝိတ ရုပ) သည် လိင်ဓါတ်နှစ်ခုနှင့်၎င်း၊ နှလုံးဓါတ်နှင့်၎င်း၊ အရေးကြီးပုံခြင်း တူ၏။ ဤဓါတ်သည် ပဋိသန္ဓေတည်သည့်အခါနောက်ကစ၍ အသက်ရှင်နေသမျှကာလပတ်လုံး ထကြွလှုပ်ရှားလျက် ရှိပြီးလျှင် သေသည့်အခါကျမှသာ ရပ်နား၏။ ဤဓါတ်သည် လိင်ဓါတ်များနည်းတူ ကိုယ် ခန္ဓာ တလျောက်လုံး၌ ပျံ့နှံ့ကာ တည်ပြီးလျှင် အမြဲတန်းထကြွ လှုပ်ရှားလျက်ရှိ၏။

အသက်ဓါတ်၏ အဓိကတာဝန်မှာ ကိုယ်ခန္ဓာ အစိတ်အပိုင်းအားလုံးအား မိမိတို့အမျိုးအစားအလိုက် အစဉ်မပျက် တည်နေနိုင်ခြင်းအကျိုးငှါ လိုအပ်သော အင်အားများကို ထောက်ပံ့ရန်ဖြစ်၏။ ဤနည်းဖြင့် ကိုယ်ခန္ဓာ အစိတ်အပိုင်းအားလုံး သည် ပုံသဏ္ဌာန် ပြောင်းလွဲခြင်းမှ ကင်းကြ၏။ ထို့ပြင် ဤဓါတ်သည် ကိုယ်ခန္ဓာ အစိတ် အပိုင်းအသီးသီးအတွင်း၌ ဓါတ်များကိုလည်း အမျိုးအမည် ပမာဏ အမြဲတန်းမှန်၍ နေစေ၏။ ဤနည်းဖြင့် သက်မဲ့ရုပ်ဓါတ်တို့သည် ဇီဝရုပ်နှင့် သဘာဝတူသော နီးဝပ် ရာဓါတ်များနှင့် တစုံတည်းဖြစ်အောင် ပေါင်းမပါသွားတတ်သော သဘောကိုလည်း အသက်ဓါတ်က တားဆီး၍ထား၏။

## ပြောင်းလဲမှု အမျိုးမျိုးသည် နာမ်ဓါတ်ကြောင့် ဖြစ်ပုံ

အသက်ဓါတ်၏ အဓိက တာဝန်မှာ ကိုယ်ခန္ဓာ အတွင်းရှိ ရုပ်ကလာပ် များကို သူ့အမျိုးဝါးနှင့်သူ နေကြ ပေရန် စောင့်ထိန်း ပေးဘို့ဖြစ် သော်လည်း အသက်ဓါတ်သည် ထိုတာဝန်ကို ကျေပွန်စွာထမ်း ဆောင်နိုင်ခြင်းမရှိ။ ဤသို့ဖြစ်ရ ခြင်းမှာ ဓါတ်အားလုံး၏ အချုပ်အချာဖြစ်သော နာမ်ဓါတ်၏ ပြုပြင်မှုကြောင့် ဖြစ်၏။ နာမ်ဓါတ်မှ လွှတ်လိုက်သော အင်အားများအလိုက် အသက်ဓါတ်သည် လှုပ်ရှား ခြင်းရှိ၏။ ထိုသို့ လှုပ်ရှားမှုသည် တခါတရံပို များ၏ တခါတရံပို နည်း၏။ သို့ရာ တွင် ထိုသို့ လှုပ်ရှားမှုများခြင်းနှင့်နည်းခြင်းတို့၏ ခြားနားချက်မှာ သေးငယ်လှ သဖြင့် တိုတောင်းသော အချိန်ကာလအတွင်း၌ ထိုခြားနားချက်ကို သိနိုင်ဘို့ ခဲ ယဉ်း၏။ အချိန်ကာလ ရှည်ကြာသောအခါမှသာ ထိုခြားနားချက်ကို ထင်ရှား စွာ သိမြင်နိုင်၏။

မိဘတို့မှ ပေါက်ဖွားလာသော ရုပ်ဓါတ်၌ သဏ္ဌဝါတို့ အဖို့တွင် အသက် ဓါတ်သည် မိဘ၏ အမွေကို သားသမီးတို့က ခံသော သဘောဖြင့် မိဘတို့၏ အသက် ဓါတ်မှ အစပြု၏။ သို့ရာတွင် မိဘတို့၏ နာမ်ဓါတ်များနှင့် သားသမီးတို့၏ နာမ် ဓါတ်များ၏ အင်အားမှာ တခုနှင့်တခု မတူကြခြင်း၊ သားသမီးတို့၏ ကိုယ်ခန္ဓာသည် ထိုသို့မတူခြင်းကို အမှီပြု၍ ဖြစ်ပေါ်လာရခြင်းနှင့် အသက်ဓါတ်၏ ပြောင်းလဲမှုသည် နှေးကန်စွာဖြစ်ပေါ်ခြင်းတို့ကြောင့် မိဘတို့နှင့် သားသမီးတို့၏ ကိုယ်ခန္ဓာ အစိတ် အပိုင်း အသီးသီးနှင့် ရုပ်ကလာပ်အသေးသံတို့သည် အတွင်းပါ ဓါတ်များ ရော အဆောက် အအုံဖွဲ့မှုပါ အလွန်ပင် တူကြပြီးလျှင် တိတိကျကျ ခြားနားခြင်းလည်း ရှိကြ၏။

## အာဟာရဓါတ်

ပဋိသန္ဓေ တည်သည့်အချိန်က စ၍ ဖြစ်ပေါ်လာသော အရင်း၏ အသက် ရှင်မှု ဓါတ်များအနက် နောက်ဆုံးဓါတ်မှာ အာဟာရဓါတ် (အဟာရ ရုပ) ဖြစ်၏။ ထိုဓါတ်သည် အခြားသော ဓါတ်များကဲ့သို့ပင် အရေးကြီး၏ ဤဓါတ်သည် မဟာဘုတ်ဓါတ် ကြီး လေးပါးမှ နာမ်ဓါတ်က ဖန်တီး လိုက်သော ဓါတ်ဖြစ်၏။ ကိုယ်ခန္ဓာအတွင်းသို့ ပြင်ပအရာဝတ္ထုမှ နောက်ထပ်ဓါတ်များကို သွင်းယူနိုင်ရန်အတွက် လိုအပ်သော အင်အား ကို အာဟာရဓါတ်က ပေး၏။ ဤနည်းဖြင့် ကိုယ်ခန္ဓာ တည်ဆောက်မှု၊ သက်လက်တည် နေမှုနှင့် မပျက်မစီးရှိစေမှုတို့အတွက် လိုအပ်သော အရာဝတ္ထုအသစ်များကို ရှာ

ဖွေ့စုဆောင်းရာတွင် အာဟာရဓါတ်က အထောက်အပံ့ပြု၏။ အာဟာရဓါတ်က ကိုယ်ခန္ဓာတွင်း၌ ကုန်သွားသော အင်အားများကို ထပ်၍ဖြည့်ပေးပြီးလျှင် နောက်ထပ်အင်အားများကိုလည်း စုဆောင်း၍ပေး၏။ ပြီးလျှင် လိုအပ်သော အရာဝတ္ထုများကို အမြဲတန်း မှန်မှန်ရနိုင်အောင်လည်း စောင့်ထိန်းပေး၏။ အာဟာရဓါတ်နှင့် အစာသည် မတူသည်ကိုလည်း သတိပြုအပ်၏။ အာဟာရဓါတ်သည် ကိုယ်ခန္ဓာအင်အားပြန်လည်ဖြည့်တင်းရန်အတွက် အစာမှ အာဟာရဓါတ်ကို ထုတ်ပေးသော အင်အားဖြစ်၏။

လိင်ဓါတ်နှစ်ခု၊ နှလုံးဓါတ်၊ အသက်ဓါတ် နှင့် အာဟာရဓါတ်တို့သည် အသက်ရှင်မှုအရင်းခံဓါတ်ကြီးများဖြစ်၏။ ဤဓါတ်ငါးမျိုးသည် ပဋိသန္ဓေတည်ချိန်ကစ၍ ပေါင်းစပ်ဖြစ်ပေါ်လာကြပြီးလျှင် အသက်ရှင်သမျှ ဆက်လက်၍ တည်နေကြပြီးလျှင် အသက်သေမှပင် ရပ်စဲကြ၏။

## လှုပ်ရှားမှုဓါတ်များ

အထက်တွင် သက်မဲ့ရုပ်ဓါတ် ၃ ခုနှင့်အသက်ရှိ သတ္တဝါများနှင့်ပတ်သက်သော ဓါတ် ၁၀ ခု စုစုပေါင်း ၂၃ ခုအကြောင်းကို ဖော်ပြခဲ့ပြီ။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတွင်း၌ ဤဓါတ် ၂၃ ခုသည် ပေါင်းစပ်လျက်နေကြ၏။ ကိုယ်ခန္ဓာသည် အသက်ဓါတ်စီးနင်းသော ယာဉ်ဖြစ်၏။ သို့ရာတွင် ဤယာဉ်အတွင်း၌ အဆိုပါဓါတ် ၂၃ ခုတည်းသာ ရှိပါမူ ဤယာဉ်သည် သစ်တုံးကြီးကဲ့သို့ လှုပ်ရှားခြင်းမရှိဘဲ ရပ်တည်နေရာ၏။ ထို့ကြောင့် လှုပ်ရှားမှုကို ပေး၍ လိုရာသို့ပို့ဆောင်နိုင်စေရန်အတွက် နောက်ထပ် အသက်ရှင်မှုဓါတ် ၅ ခုက ကူညီ၍ပေးရ၏။ ဤဓါတ် ၅ ခုကို ထည့်လိုက်သောအခါတွင် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာသည် ပြီးပြည့်စုံခြင်း အပြီးသို့ ရောက်၏။

ဤဓါတ် ၅ ခုအနက် နှစ်ခုမှာ လှုပ်ရှားမှုဓါတ် ( ဝိညတ္တိရူပ ) ဖြစ်၏။ ကျန်သုံးခုမှာ အခြေအနေပြုပြင်မှုဓါတ် ( ဝိကာရရူပ ) များဖြစ်၏။

လှုပ်ရှားမှုဓါတ်နှစ်ခုမှာ ကိုယ်ကာယလှုပ်ရှားမှုဓါတ် ( ကာယဝိညတ္တိ ) နှင့် အသံနှင့်ပတ်သက်သော လှုပ်ရှားမှုဓါတ် ( ဝစီဝိညတ္တိ ) ဖြစ်၏။ ကိုယ်ကာယလှုပ်ရှားမှုဓါတ်၏ အဓိက တာဝန်မှာ ကိုယ်ခန္ဓာတွင်း၌ သက်ဆိုင်ရာဓါတ်များကို သက်ဆိုင်ရာ အင်္ဂါအစိတ်အပိုင်းများဆီသို့ ပို့ပေးရန်ဖြစ်၏။ ဤနည်းဖြင့် ထိုဓါတ်က အဆိုပါအင်္ဂါ အစိတ်အပိုင်းတို့အား သက်ဆိုင်ရာတာဝန်များကို ဆောင်ရွက်စေ၏။ ထိုဓါတ်သည် ကိုယ်ခန္ဓာတွင်း၌ အခြားဓါတ်များကိုလည်း အုပ်ချုပ်၍

အခြေအနေ အသီးသီးအလိုက် ၎င်းဓါတ်များအား စုရုံးသင့်က စုရုံး ပေး၍၊ ရုတ်သိမ်းသင့်က ရုတ်သိမ်း ပေး၏။ လေဓါတ်၊ ရေဓါတ်၊ မီးဓါတ်၊ မြေဓါတ် စသည့်တို့ ကဲ့သို့သော ဓါတ်များ၏ အင်အားအနည်းအများကိုလည်း ထိုဓါတ်က ပင် ပြုပြင်၍ ပေး၏။ ဤနည်းဖြင့် ဓါတ်အမျိုးမျိုး၏ ပမာဏ အနည်းအများနှင့် အင်အားအပြင်း အပြော့ကို ပြောင်းလွှဲ၍ ပေးခြင်းဖြင့် ကိုယ်ကာယ၏ လှုပ်ရှားမှု အမျိုးမျိုးအား ထိုဓါတ်က ကူညီ ပေး၏။

## ကိုယ်ကာယ လှုပ်ရှားမှုနှင့် စကား ပြောမှု

ဥပမာ ဆိုသော် ကျွန်ုပ်တို့က ကျွန်ုပ်တို့၏ လက်ကို မြှောက်ချင်သော အခါတွင် နာမ်ဓါတ်က ကိုယ်ကာယ လှုပ်ရှားမှုဓါတ်များ၏ အလျှင်ကို ဖြစ်ပေါ် စေ၍ ထိုဓါတ်များ၏ အလျှင်က ကိုယ်ခန္ဓာ အစိတ်အပိုင်းအမျိုးမျိုး ရှိ အကြောဓါတ်များအား လှုပ်ရှားနိုင်အောင် ပြုပြင်၍ ပေးပြီးလျှင် ကျွန်ုပ်တို့ လက်အား အလိုရှိသည့်အတိုင်း ထားနိုင်စေရန် ထောက်မ၍ ပေး၏။ ဤနည်းဖြင့် ရုပ်ဓါတ်ရှိ သတ္တဝါအားလုံး အတွင်းရှိ လှုပ်ရှားမှုဓါတ်တို့သည် ကိုယ်ကာယ လှုပ်ရှားမှုဓါတ်၏ စီမံခြင်းကို ခံကြရ၏။ ကျွန်ုပ်တို့၏ လက်ကို အောက်သို့ပြန်၍ချလိုက်သော အခါတွင်လည်း အထက်ပါ နည်းအတိုင်း ပင်ဖြစ်၏။ သို့ရာတွင် အစဉ်မှာ ပြောင်းပြန်ဖြစ်၏။ ကျွန်ုပ်တို့၏ မြှောက်ထား သော လက်ကို အောက်သို့ ပြန်၍ချလိုသောအခါတွင် နာမ်ဓါတ်က မိမိ စေလွှတ်ထား ရင်းကိုယ်ကာယလှုပ်ရှားမှုဓါတ်ကို ပြန်၍ ရုတ်သိမ်းကာ မြှောက်ထားသောလက်ကို အောက်သို့ ပြန်ကျစေ၏။ ကျွန်ုပ်တို့ လမ်းလျှောက်လိုသောအခါတွင်လည်း ကိုယ်ကာယ လှုပ်ရှားမှုဓါတ်က ကိုယ်ခန္ဓာ အစိတ်အပိုင်းအသီးသီးကို လမ်းလျှောက်မှုဖြစ်စေရန် စီမံ ပေး၏။ ကျွန်ုပ်တို့သည် လမ်းလျှောက်ခြင်းကို ရပ်လိုသောအခါတွင်လည်း နာမ် ဓါတ်က ကိုယ်ကာယ လှုပ်ရှားမှုဓါတ်တို့အား လှုပ်ရှားခြင်းမှ ရပ်စဲ စေ၏။ ထို့ပြင် လိုအပ်သော အခါတွင် ဆက်လက်လမ်းလျှောက်နေမှုကို ဖျူးကနဲ ရပ်ဆိုင်း၍သွားစေ ရန် ကိုယ်ကာယလှုပ်ရှားမှုဓါတ်များ၏ အစဉ်ကို ပြောင်းပြန် ပြောင်း၍ ပေး၏။

ကိုယ်ကာယ လှုပ်ရှားမှုဓါတ်များ၏ ကူညီမှု၊ ညွှန်ကြားမှုကို မရဘဲနှင့် ကျွန်ုပ်တို့သည် မည်သည့်လှုပ်ရှားမှုကိုမျှ မပြုနိုင်။ နာမ်ဓါတ်သည် ကိုယ်ခန္ဓာ၏ ပဲ့ကိုင်ဖြစ်၏။ ထိုသို့ ပဲ့ကိုင်ရာတွင် နာမ်ဓါတ်က ကိုယ်ကာယ လှုပ်ရှားမှုဓါတ်ကို အသုံးပြု၏။ အကယ်စင်စစ်အားဖြင့် မဟာဘုတ်ဓါတ်ကြီး လေးပါးကသာ လှုပ်ရှားမှု များကို ပြုကြ၏။ သို့ရာတွင် နာမ်ဓါတ်၏ စေခိုင်းချက်ကို ရရှိပြီးသည့် နောက်အ ဖို့တွင် မဟာဘုတ်ဓါတ်ကြီး လေးပါး၏ အင်အားများကို တိုးလာအောင်၊ လျော့သွား အောင်လုပ်ပေးသောအရာမှာ ကိုယ်ကာယ လှုပ်ရှားမှုဓါတ်သာဖြစ်၏။

အသံကိုတိုးအောင်ကျယ်အောင် ပြုပြင်ပေးသောဓါတ်မှာ အသံနှင့် ပတ်သက်သော လှုပ်ရှားမှုဓါတ် ဖြစ်၏။ ကိုယ်ခန္ဓာအတွင်းရှိ ဓါတ်များ၏ အလျှင်ကို ပြုပြင်ပေးသော ကိုယ်ကာယ လှုပ်ရှားမှုဓါတ်ကဲ့သို့ပင် အသံနှင့် ပတ်သက်သော လှုပ်ရှားမှုဓါတ်သည် အတွင်းဝင်လေနှင့် အပြင်ထွက်လေကို ထိန်းသိမ်းပေး၏။ ထို့ပြင် လိုအပ်သော အသံများ ဖြစ်ပေါ်လာနိုင်စေရန်အတွက် လည်ချောင်းနှင့် ပါးစပ်တို့နှင့် ထိတွေ့သော ဝင်လေထွက်လေတို့၏ နှေးမှု၊ မြန်မှု၊ ပြင်းမှု၊ ပျော့မှုများကိုလည်း ထိုဓါတ်ကပင် အုပ်ထိန်း၍ပေး၏။

## အခြေအနေပြုပြင်မှုဓါတ်များနှင့် ကျန်းမာမှု

အဆုံးသတ်ဓါတ်သုံးခုမှာ အခြေအနေပြုပြင်မှုဓါတ်များဖြစ်၍ ညှိမ်သက်မှုဓါတ် (လဟုတာရူပ)၊ လွှတ်မြောက်မှုဓါတ် (မုဒုတာရူပ) နှင့် ခံယူမှုဓါတ် (ကမ္မညတာရူပ) ဟု ခေါ်၏။ ဤဓါတ်သုံးခုတို့၏ အဓိကတာဝန်မှာ ကိုယ်ခန္ဓာ၏ ဆောင်ရွက်မှုများအား သေသေသပ်သပ်ဖြစ်ပေရန်အတွက်နှင့် မသေမသပ်ဖြစ်စေရန် အတွက် လျောက်ပတ်သော အခြေအနေများကို ပန့်ပိုးပေးရန်ဖြစ်၏။ ညှိမ်သက်မှုဓါတ်သည် မိမိနှင့် သက်ဆိုင်ရာ ကိုယ်ခန္ဓာ အစိတ်အပိုင်းတို့ကို လေးလံ၍ ချည်နှောင်ထားသကဲ့သို့ ဖြစ်ပေ၏။ ဤနည်းဖြင့် အဆိုပါအစိတ်အပိုင်းတို့၏ မသေသပ်မှုကိုဖြစ်စေ၏။

လွှတ်မြောက်မှုဓါတ်သည် မိမိသက်ဆိုင်ရာ ကိုယ်ခန္ဓာ အစိတ်အပိုင်းများကို ပေါ့ပါး၍လွတ်လပ်စွာရှိပေသဖြင့် အဆိုပါကိုယ် အစိတ်အပိုင်းများကို လွယ်ကူစွာ လှုပ်ရှား၍ရနိုင်ပေ၏။ ခံယူမှုဓါတ်သည် အခြေအနေ ပြုပြင်မှုဓါတ်တို့၏ အင်အားကို အများဆုံးဖြစ်စေနိုင်သဖြင့် ထိုဓါတ်နှင့်သက်ဆိုင်သော ကိုယ်အင်္ဂါအစိတ်အပိုင်းတို့အား လေးကန်ထုံထိုင်းမှုကင်းခြင်းကို ဖြစ်စေနိုင်၏။ ကိုယ်ခန္ဓာအတွင်း၌ ညှိမ်သက်မှုဓါတ်နှင့် ခံယူမှုဓါတ်တို့ ထကြွနေခြင်းသည် ကျန်းမာမှု ချွတ်ယွင်းနေသော အခြင်းအရာပင်ဖြစ်၏။ အဆိုပါဓါတ်နှစ်ခုတို့က ကိုယ်ခန္ဓာ အသီးသီးအား မိမိတို့ သက်ဆိုင်ရာ တာဝန်များကို ကောင်းစွာ ဆောင်ရွက်နိုင်စေရန် ဟန့်တားကြ၏။ လွှတ်မြောက်မှုဓါတ် ထကြွလာ၍ နေခြင်းသည် ကျန်းမာမှုနှင့် ပြည့်စုံသည့်အခြင်းအရာဖြစ်၏။ ထိုဓါတ်များက လူတို့အင်အား ပြည့်ဖြိုးမှု ရှင်ပြစွာရှိအောင် လုပ်ပေးကြ၏။ ခံယူမှုဓါတ် ထကြွလာ၍ နေခြင်းသည် ချမ်းသာသည်လည်းမဟုတ်၊

မကျန်းမာသည့်လည်း မဟုတ်သော အခြင်းအရာကို ပြ၏။ ဤဓိသက်မှုဝါဒ်နှင့် လွတ်မြောက်မှုဝါဒ်များ၏ ထကြွမှုသည် ဤဝါဒ်၏ ထကြွမှုပေါ်၌ တည်၏။ ဤဝါဒ်သုံးခု တို့သည် ဃေဘုယျအားဖြင့် တခုနှင့်တခု သိုသွတ်၍ ဆောင်ရွက်ကြပြီးလျှင် လူတို့၏ ကျမ္မာမှုကို ထိန်းသိမ်း ပေးကြ၏။

## ပြန်၍ ဖေါ်ပြချက်

သက်ရှိသတ္တဝါတို့၏ ကိုယ်ခန္ဓာ အတွင်း၌ ရှိသော ဝါဒ် ၁၅ မျိုး၏ အင်္ဂါ အခြင်းအရာများကို ဖေါ်ပြခဲ့ပြီ ဖြစ်သဖြင့် သက်ရှိသက်မဲ့ စကြာဝဠာအတွင်း၌ ပါဝင်သော ဝါဒ်အားလုံးအကြောင်းသည် ပြည့်စုံ၍သွားပြီ။ ဤအခန်းနှင့် ပြီးခဲ့ သောအခန်းတွင် ဖေါ်ပြခဲ့သည့် အချက်များမှာ အမျိုးမျိုးသော ဝါဒ်တို့အကြောင်း ကို ကောင်းစွာသဘော ပေါက်စေခြင်းအကျိုးငှါဖြစ်ပေ၏။ ထို့ကြောင့် ကျွန်ုပ်တို့သည် ဝါဒ် ၂၀ ခုတို့၏ အဓိက ဂုဏ်များနှင့် ပတ်သက်၍ အတိုကောက် သိနားလည်ကြပြီ။ ဃေဘုယျအားဖြင့် အဆိုပါ ဝါဒ်များအကြောင်းကို မှတ်ကာ သဘောလောက်သာ ဖေါ်ပြခဲ့သည်ဟု ဆိုနိုင်မည်ဖြစ်၏။ သို့ရာတွင် ဖေါ်ပြပြီး သော အကြောင်းများ ကို ထိုက်လျောက်စွာ ဂရုစိုက်၍ လေ့လာကြသည်ဖြစ်ပါမူ ကျွန်ုပ်တို့ သိနားလည်မှု၏ ထုထည်သည် သေးငယ်သည်ဟု ဆိုနိုင်လိမ့်မည် မဟုတ်ပေ။

လူအားလုံးနှင့် အခြားစကြာဝဠာသားတို့မှာ ရုပ်ဝါဒ် ၂၀ ခု ပေါင်း စပ်၍ ဖြစ်ပေါ် နေခြင်းဖြစ်သည့် အချက်ကို ကျွန်ုပ်တို့သည် အထူးဂရုပြုအပ်၏။ အဆင့် အတန်းနိမ့်သော သတ္တဝါနှင့်တကွ အချို့သော လူတို့၏ ကိုယ်ခန္ဓာ အတွင်း၌ရှိသည့် အသက်ရှင်မှုဝါဒ် ၁၅ ခုအနက်မှ အချို့ဝါဒ်များနှင့် အထူးအားဖြင့် ပတ်ဝန်းကျင် သိမှုအာရုံပြန်မှုဝါဒ်တို့သည် မိမိတို့၏ တာဝန်များကို ထမ်းဆောင်နိုင်လောက် အောင် အင်အားမကောင်းကြ။ သို့ရာတွင် အဆိုပါဝါဒ်တို့ဖြစ်ပေါ်ရခြင်း၏အကြောင်းရင်း များဖြစ်သော အင်အားများသည်ကား နာမ်ဝါဒ်ကိုင်း နာမ်ဝါဒ်ကိုင်း၌ ရှိကြ ၏။ အဆိုပါ သတ္တဝါများ၏ ကိုယ်ခန္ဓာအတွင်း၌ ရှိကြသော အကြောင်းရင်းများမှာ မဲမှောင်သော ဖွဲ့လန်းမှု အငွေ့အကျက်များဖြင့် ဖုံးအုပ်ခြင်းခံ နေကြရသဖြင့် ကွယ်ပျောက်၍ နေကြ၏။ သို့ရာတွင် အချိန်ကာလ ရှည်ကြာသောအခါ ထိုသို့ ဖုံးအုပ် နေမှုများသည် ရပ်စဲ၍ သွားကြ၏။

ပဋိသန္ဓေ စ၍ ဘဉ်သည့်အချိန်၌ပင် အသက်ဓါတ်နှင့် လိင်ဓါတ်နှစ်ခုက စုပေါင်း၍ နာမ်ဓါတ်အား ကိုယ်ခန္ဓာ တည်ဆောက်ရန် ပုံစံကို ပေးအပ်ကြ၏။ အာဟာရဓါတ်က တည်ဆောက်ရန်၊ ပျက်သည်ကို ပြင်ဆင်ရန်၊ ကိုယ်ခန္ဓာကို အသပ်ဖြစ်ဝေရန်၊ လိုအပ်သော ရုပ်ဝတ္ထုတို့ကို အနီးပတ်ဝန်းကျင်မှ ထုတ်နှုတ်၍ ပေး၏။ နှလုံး၏ အာရုံပြန်မှုဓါတ်က ကိုယ်ခန္ဓာ အတွင်း၌ အေးမှု၊ ပူမှု အခြေအနေကို ပြုပြင်၍ ပေး၏။ ပတ်ဝန်းကျင်သိမှု အင်္ဂါငါးခုက ကိုယ်ခန္ဓာ၏ အဝင်ဝများကို ကြည့်၍ စောင့်ကြ၏။ ထို့နောက် အခြေအနေပြုပြင်မှုဓါတ်သုံးခုနှင့် ပျော်ရွှင်မှုဓါတ်နှစ်ခုတို့က ကိုယ်ခန္ဓာကို လိုရာသို့ ပဲ့ကိုင်ရန် စက်ခလုပ်ကို ပေးကြ၏။

## နိဂုံး

နာမ်ဓါတ်သည် အသက်ပဲ့ဓါတ် ၁၃ ခုကို အခြေပြု၍ မိမိအင်အားများကို အသုံးပြုကာ အသက်ရှင်မှု ၁၅ ခုကို ဖြစ်ပေါ်ပေပြီးလျှင် မိမိပိုင်နင်းရန် သက်ရှိ ရုပ်ခန္ဓာကို မိမိကိုယ်တိုင် တည်ဆောက်၏။ အသီးသီးသော နာမ်ဓါတ်တို့သည် အဆိုပါ ရုပ်ခန္ဓာမျိုးများကို စီးနင်းကာ သက်တမ်းရှိသလောက် ခရီးသွားကြ၏။

ယခု လေ့လာချက် ပြီးပြည့်စုံစေရန်အတွက် ရုပ်ဓါတ် ၂၈ ခုဖြစ်ပေါ်ပုံ၊ အရာဝတ္ထုတို့ဖြစ်ပေါ်ပုံ၊ ပဋိသန္ဓေ အတိအကျတည်ပုံ၊ ကြီးထွားလာပုံ အစရှိသည်တို့ကို စောင်စောင် ကျယ်ကျယ်ဝန်းဝန်း ဖော်ပြနိုင်လို၏။ သို့ရာတွင် ကျွန်ုပ်တို့ အလိုရှိသော သိမြင်မှုနယ်မြေများသို့ ရောက်နိုင်ရန်အတွက် နောက်ထပ်ခရီးဆက်ကြဖို့ လိုသေး၏။ ဤစကြဝဠာအတွင်း၌ အပြင်းအရာအားလုံးမှာ ရုပ်ဓါတ်နှင့်နာမ်ဓါတ်တို့ အစဉ်ဆက်၍ နေမှုဖြစ်သဖြင့် စကြဝဠာတခုလုံး မည်ကဲ့သို့ဖြစ်ပျက် နေသည်ကို သိနိုင်ရန်အတွက် နာမ်ဓါတ်သည် မည်ကဲ့သို့သော အရာဖြစ်သည့်အကြောင်းကိုထပ်၍ သိအောင် လေ့လာရန် လို၏။

ယခုအခါတွင် ကျွန်ုပ်တို့သည် ရုပ်ဓါတ်များအကြောင်းကို အထိုက်အလျောက် သိနားလာခဲ့ကြပြီဖြစ်သဖြင့် နာမ်ဓါတ်အကြောင်းကို ထိုက်လျောက်မှာ အသေးစိတ် သိနားလည်လာကြပြီး နောက် နာမ်ဓါတ်သည် မည်ကဲ့သို့ ပြုမူနေသည့်အကြောင်းကို သိနားလည်လာကြသောအခါတွင် အသက်ဓါတ်နှင့်တကွ စကြဝဠာ၏ ဖြစ်စဉ်ကို ထိကျစွာ သိနားလည်အောင် လေ့လာခြင်းသည် စိတ်ဝင်စားဘွယ်ရာလည်း ကောင်း၍ လွယ်လည်းလွယ်ကူသည့်အဖြစ်ကို တွေ့ကြရပေမည်။

ထို့ကြောင့် ကျွန်ုပ်တို့သည် ရုပ်ဝါဒ်များအကြောင်း ဖေါ်ပြမှုကို ဤတွင် ရပ်ဆိုင်းပြီးလျှင် နာဇီဝါဒ်နှင့် ပတ်သက်၍ သိဝရာအကြောင်းများကို အကျယ်တဝင့် ဖေါ်ပြပေတော့အံ့။ ထို့နောက်မှသာလျှင် ယခု ကျွန်ုပ်တို့ လေ့လာနေကြသော ပြဿနာတခုလုံးအကြောင်းကို နားလည်နိုင်သော အခြေနှင့် ပြည့်စုံလာကြလိမ့်မည်။ ဆိုလာခဲ့သော အခန်းနှစ်ခန်းကို အမှမ်းကုန်ပံနပ်ကျမှသာ၊ အဝွမ်းကုန် သတိကြီးစွာနှင့် လေ့လာရန် လို၏။

အခန်း ၄။

## နာဇီဝါဒ်၏ အခြေခံအရာများ

လူသည် အမြဲလှုပ်ရှားနေ၏။ စကြာဝဠာအတွင်း၌ရှိ အခြားသော သတ္တဝါအားလုံးသည်လည်း အမြဲလှုပ်ရှားနေ၏။ လူနှင့် အခြားသတ္တဝါတို့သည် မိမိတို့သက်ဆိုင်ရာ အလုပ်များကို လုပ်ကြပြီးလျှင် မိမိတို့ သက်ဆိုင်ရာ လိုအင်များ ပြည့်ဝစေရန် ကြိုးပမ်းနေကြ၏။ ထိုသို့ ကြိုးပမ်းနေချက်မှန်သမျှသည် လှုပ်ရှားမှုဖြစ်၏။ သစ်ရွက်ချောက်တို့သည် ကြွေ၍၊ သစ်ရွက်နုတို့သည် ထွက်ကြ၏။ သစ်မြစ်တို့သည် အစာ ရရန်အတွက်နှင့် ရေရရန်အတွက် ရှည်လျားနက်ရှိုင်းစွာ မြေကြီးအတွင်းသို့ ထိုးဝင်ကြ၏။ လေနှင့် နေရောင်ရရန်အလို့ငှါ သစ်ကိုင်းတို့သည် မြင့်မားကျယ်ဝန်းစွာ အပေါ်သို့ ပျံ့တက်ကြ၏။ ဤနည်းဖြင့် သစ်ပင်တို့သည် အမြဲလှုပ်ရှား၍ နေကြ၏။

### စကြာဝဠာတခုလုံးသည် လှုပ်ရှားမှုဖြင့် ပြည့်နေခြင်း

ကြယ်ရောင်နှင့် ဂြိုလ်ရောင်တို့သည် လှုပ်ရှားနေကြ၏။ လေနှင့် သမုဒ္ဒရာတို့သည် လှုပ်ရှားနေကြ၏။ တပြိုက်စီ တပြိုက်စီ ရွာကျသော မိုးရေတို့သည်လည်း လှုပ်ရှားမှုများဖြစ်၏။ နေရောင်တို့၊ မိုးရေတို့၊ လေတို့က၊ နိမ့်ရာသို့ ပို့၍နေသော သဲလုံးကလေးများနှင့် မြူမှုံများသည် ကျောက်ဆောင်များ နှင့် တောင်တန်းများကို ဖြည်းဖြည်းနှင့် မှန်မှန် လှုပ်ရှားနေစေ၏။ ကမ္ဘာ မြေကြီးသည်လည်း လှုပ်ရှားနေ၏။ နေတို့၊ လတို့၊ ကောင်းကင်တပြင်လုံး၌ရှိ ကြယ်အားလုံးတို့သည်လည်း အမြဲတန်း လှုပ်ရှားကာ နေကြ၏။ ဤနည်းဖြင့် ရုပ်ဝါဒ် စကြာဝဠာတခုလုံးသည်လည်း အရှိန်မှန်မှန်နှင့် လှုပ်ရှားနေ၏။

လှုပ်ရှားမှုအမျိုးမျိုးသည် စကြဝဠာ၏ တွေ့မြင်ရမြဲ အခြင်းအရာများဖြစ်၏။ လှုပ်ရှားမှုတို့သည် စကြဝဠာ၏ အစိတ်အပိုင်းဖြစ်၏။ လှုပ်ရှားမှုတို့သည်ပင်လျှင် စကြဝဠာဖြစ်၏။ ထို့ကြောင့် စကြဝဠာ၏ အကြောင်းကို နားလည်နိုင်ရန်အတွက် လှုပ်ရှားမှုမျိုးစုံအကြောင်းကို သေချာစွာ လေ့လာဘို့လို၏။ ယခုပင် လှုပ်ရှားမှုတို့အကြောင်းကို နားလည်အောင် လေ့လာကြကုန်အံ့။

## <u>နေဘက်ပွားဓါတ်များသည် လှုပ်ရှားမှုများမဟုတ်ခြင်း</u>

ရုပ်ဓါတ်သည် အစိုင်အခဲဖြစ်နေသောအခါတွင် ထိုရုပ်ဓါတ်ကို မြင်နိုင်၏။ အစိုင်အခဲဖြစ်နေသော ရုပ်ဓါတ်သည် လှုပ်ရှားနေသောအခါ ထိုသို့ လှုပ်ရှားနေခြင်းကို မြင်နိုင်၏။ ကျွန်ုပ်တို့သည် လှုပ်ရှားမှုအမျိုးမျိုးတို့၏ အမြန်နှုန်းကို တိုင်းထွာ၍ ကြည့်နိုင်ပြီးလျှင် ၎င်းတို့၏ အင်အားကိုလည်း တွက်ချက်ကြည့်နိုင်၏။ ကျွန်ုပ်တို့သည် အမျိုးမျိုးသော လှုပ်ရှားမှုများကို တွေ့ကြုံဘူးကြပြီးလျှင် ဤကျမ်းကို လေ့လာနေကြရင်းနှင့်ပင် အမျိုးမျိုးသော လှုပ်ရှားမှုများကို တွေ့ကြုံနေကြရသဖြင့် လှုပ်ရှားမှုများ၌ နေကြောင်းကို ထင်ရှားအောင် သက်သေသာဓက ပြရန်မလိုတော့။ ထို့ကြောင့် ယခုအခါတွင် အဆိုပါ လှုပ်ရှားမှုတို့ကို စစ်ဆေးကြည့်ရှုကြကုန်အံ့။

ပြီးခဲ့သော အခန်းတွင် အာရုံတည်ရာ အင်္ဂါများအကြောင်းကို စစ်ဆေးကြည့်ရှုရင်းနှင့် သက်ဆိုင်ရာ အာရုံတင်ရာ အင်္ဂါတို့၏ တာဝန်များကို သိခဲ့ကြရပြီ။ အဆင်းအာရုံပို့မှုဓါတ် ( ဝဏ္ဏ ဂေါစရ ရုပ် ) သည် အခြားမဟုတ်၊ မျက်စေ့ဆိုင်ရာ အာရုံပြန်မှုဓါတ် ( စက္ခုပသာဒ ရုပ် ) က တွေ့မြင်နိုင်သမျှ အရာအားလုံးဖြစ်၏။ အသံအာရုံပို့မှုဓါတ် ( သဒ္ဒ ဂေါစရ ရုပ် ) သည် အခြားမဟုတ်၊ နားနှင့်ဆိုင်သော အသံအာရုံပြန်မှုဓါတ် ( သဒ္ဒပသာဒ ရုပ် ) က သိနိုင်သမျှသော အရာအားလုံးဖြစ်၏။ အနံ့အာရုံပို့မှုဓါတ် ( ဂန္ဓ ဂေါစရ ရုပ် ) သည် အခြားမဟုတ်၊ နှာခေါင်းနှင့်ဆိုင်သော အနံ့အာရုံပြန်မှုဓါတ် ( ဃာနပသာဒ ရုပ် ) က သိနိုင်သော အရာအားလုံးဖြစ်၏။ အရသာအာရုံပို့မှုဓါတ် ( ရသ ဂေါစရ ရုပ် ) သည် အခြားမဟုတ်၊ လျှာနှင့်သက်ဆိုင်သော အရသာအာရုံပြန်မှုဓါတ် ( ဇိဝှါပသာဒ ရုပ် ) က သိနိုင်သမျှသော အရာအားလုံးဖြစ်၏။ အထိအတွေ့အာရုံပြန်မှုဓါတ် ( ဖဿ ဂေါစရ ရုပ် ) သည် အခြားမဟုတ်၊ ထိတွေ့ခြင်းနှင့်သက်ဆိုင်သော အာရုံပြန်မှုဓါတ် ( ကာယပသာဒ ရုပ် ) က သိနိုင်သမျှသော အရာအားလုံးဖြစ်၏။ အဆင်းအာရုံပို့မှုဓါတ်သည် လှုပ်ရှားမှုမဟုတ်။ အသံအာရုံပို့မှုဓါတ်သည်လည်း လှုပ်ရှားမှုမဟုတ်။ အနံ့အာရုံပို့မှုဓါတ်သည်လည်း လှုပ်ရှားမှုမဟုတ်။ အရသာအာရုံပို့မှုဓါတ်သည်လည်း လှုပ်ရှားမှုမဟုတ်။ အထိအတွေ့အာရုံပို့မှုဓါတ်သည်လည်း လှုပ်ရှားမှု မဟုတ်။

## နာမ်ဓါတ်က လှုပ်ရှားမှုအားလုံးကိုသိနိုင်ပုံ

ထို့ကြောင့် မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် အထိအတွေ့ အင်္ဂါ ငါးခုတို့သည် လှုပ်ရှားမှုကို မသိနိုင်။ သို့ရာတွင် ထိုအင်္ဂါငါးခုတို့၏ အကူအညီဖြင့် နာမ်ဓါတ်က လှုပ်ရှားမှုအမျိုးမျိုးကို သိနိုင်၏။ လှုပ်ရှားမှုများကို နာမ်ဓါတ်တခု တည်းကသာ သိနိုင်၏။ လှုပ်ရှားမှု မှန်သမျှကို နာမ်ဓါတ်က သိနိုင်၏။ အာရုံ တည်ရာ အင်္ဂါတို့ကက လှုပ်ရှားမှုများကို သိမြင်နိုင်ရန်အတွက် နာမ်ဓါတ်ကို အကူ အညီ ပေးရုံသာ ပေးကြ၏။ နှလုံးသည် နာမ်ဓါတ်၏ တည်ရာဖြစ် ကြောင်းကို အထက် တွင် သိခဲ့ကြရပြီဖြစ်သဖြင့် နှလုံးသည် လှုပ်ရှားမှုများကို သိသော ကိုယ်ခန္ဓာ အစိတ် အပိုင်းဖြစ်သည်ဟု ဆိုနိုင်၏။ သို့ရာတွင် လှုပ်ရှားမှုကို နှလုံးမှတပါး အခြားကိုယ် အင်္ဂါ အစိတ်အပိုင်းများကလည်း သိနိုင်၏။ ထိုသို့ ဖြစ်ရခြင်းမှာ နာမ်ဓါတ်သည် ကိုယ်ခန္ဓာ တလျှောက်လုံး၌ ပြန့်နှံ့ပွာ တည်နေခြင်း ကြောင့် ဖြစ်၏။

ကျွန်ုပ်တို့သည် လမ်းဘေးတွင် ထိုင်၍ စောင့်နေကြမည်ဆိုလျှင် ယာဉ် တခုလှုပ်ရှားနေသည်ကို မြင်နိုင်၏။ ထိုယာဉ်သည် အရပ်တမျက်နှာမှ ပေါ်လာ၍ ကျွန်ုပ်တို့ဆီသို့ ရွေ့ရှားလာပြီးလျှင်၊ ကျွန်ုပ်တို့ကို လွန်၍ အခြားအရပ်မျက်နှာဘက်တွင် ပျောက်ကွယ်သွား၏။ ဤကဲ့သို့ လှုပ်ရှားမှုတို့ တခုပြီးတခု ဆက်၍ဖြစ်ခြင်းကို မြင်ရ သဖြင့် ကျွန်ုပ်တို့၏ နာမ်ဓါတ်တွင် ထိုယာဉ်သည် လှုပ်ရှားနေသည်ဆိုသော အာရုံ သည် ဖြစ်ပေါ်လာ၏။

ထိုကဲ့သို့ ယာဉ်လှုပ်ရှားနေမှုအာရုံဖြစ်ပေါ်လာရန်အတွက် ရုပ်ဓါတ် အင်္ဂါနှင်ခုနှင့် နာမ်ဓါတ် ပေါင်းအင်္ဂါ သုံးခုက ပူးပေါင်းဆောင်ရွက်ကြ၏။ လမ်းပေါ်တွင် ခရီးအနီးအဝေးအမျိုးမျိုးမှ ထိုယာဉ်ပေါ်လာခြင်း၊ ပျောက်ကွယ် သွားခြင်းတို့ကို မျက်စေ့ကွင်း၌ အဆင်းအာရုံပို့မှုဓါတ်က နာမ်ဓါတ်ဆီသို့ အဆင်းကို ပို့ပေး၏။ ထိုအခါတွင် နာမ်ဓါတ်က လမ်းပေါ်တွင် ထိုယာဉ်ပေါ်လာပုံကို တွက်ချက်၍ ထိုယာဉ်သည် လှုပ်ရှားနေသည်ဟု သိ၏။ ထိုနည်းအတူပင် နားအကွင်း၌ အသံအာရုံ ပို့မှုဓါတ်က အသံ၏ ပြင်းပုံ ပြေ့ပုံ၊ မည်သည့်အရပ်ဌာနမှ လာပုံတို့ကို နာမ်ဓါတ် ဆီသို့ ပို့ပေး၍၊ နာမ်ဓါတ်က အသံ၏ ပြင်းပုံ ပြေ့ပုံ၊ မည်သည့်အရပ်ဌာနမှလာပုံ များကို တွက်ချက်ပြီးလျှင် ထိုယာဉ်သည် လှုပ်ရှားနေသည်ဟု သိ၏။

## အာရုံသိမှုအင်္ဂါများက နာမ်ဓါတ်ကို ကူညီပုံ

မျက်စေ့က ယါဉ်၏ လှုပ်ရှားနေမှုကို မြင်ခြင်းမဟုတ်။ လမ်းပေါ်၌ ထိုယါဉ်လှုပ်ရှားနေမှုနှင့်ပတ်သက်သော အဆင်းများ၏ အစဉ်ကိုသာ မြင်ခြင်းဖြစ်ပြီးလျှင် နာမ်ဓါတ်သို့ ထိုယါဉ်လှုပ်ရှားနေမှုအာရုံကို ပို့ပေး၏။ ထိုနည်းအတိုင်းပင် နားက လှုပ်ရှားမှုကို မကြား၊ အသံကိုသာကြား၏။ အခြားအာရုံတည်ရာ အင်္ဂါတို့သည်လည်း သူတို့အလိုအလျောက် လှုပ်ရှားမှုများကို သိနိုင်သည် မဟုတ်။ နာမ်ဓါတ်ကသာ ထိုအင်္ဂါတို့၏ အကူအညီဖြင့် သိနိုင်၏။

ဤနည်းဖြင့် လှုပ်ရှားမှု စကြာဝဠာကို သိမြင်နိုင်သော အင်္ဂါမှာ နာမ်ဓါတ်သာဖြစ်၏။ စကြာဝဠာကိုယ်တိုင်သည် လှုပ်ရှားမှုချည်းဖြစ်၏။ ဤအချက်ကို နားလည်နိုင်ရန်အတွက် ရုပ်ကလာပ်သဘောကို သေချာစွာ စစ်ဆေးကြည့်ရှုအပ်၏။

## ရုပ်ဓါတ်နှင့် လှုပ်ရှားမှု

ကျွန်ုပ်တို့သည် တနည်းတလမ်းဖြင့် စကြာဝဠာတခုလုံးကို ရုပ်ဓါတ်နှင့် လှုပ်ရှားမှုအဖြစ်သို့ ခွဲခြမ်း၍ ကြည့်အပ်၏။ ရုပ်ဓါတ်စကြာဝဠာသည် မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် အထိအတွေ့ဖြင့် သိနိုင်သော အရာဖြစ်၏။ ထိုအထဲသို့ အဆင်းနှင့် ပုံသဏ္ဍာန် စသည်တို့ကို ထည့်အပ်၏။ အချုပ်တွင် စကြာဝဠာထဲတွင် စကြာဝဠာတွင်း၌ ရုပ်ဓါတ်အကုန်လုံးပါ၏။ စကြာဝဠာ၏ အခြား အစိတ်အပိုင်းမှာ လှုပ်ရှားမှုဖြစ်၏။ ဤ အစိတ်အပိုင်းကို နာမ်ဓါတ်ကသာလျှင် သိနိုင်၏။

စကြာဝဠာ၏ ရုပ်ဓါတ်အစိတ်အပိုင်းတွင် ရုပ်ကလာပ်များပါ၏။ (သက်မဲ့ရုပ်ဓါတ်များနှင့်ဆိုင်သော) ဒုတိယအခန်းတွင် ရုပ်ကလာပ်များအကြောင်းကိုဆိုရာ၌ ရုပ်ကလာပ်အသီးသီးအတွင်း၌ရှိသော မဟာဘုတ်ဓါတ်တို့ ကွဲပြား၍ အင်အားများဖြင့် ပေါ်ကြောင်းကို ဖော်ပြခဲ့ပြီ။ ထိုအင်အားတို့သည် လှုပ်ရှားမှုများဖြစ်ကြ၏။ ရုပ်ကလာပ်တခုအတွင်း၌ အကယ် ဖြစ်ပျက်နေသည့်အတိုင်း စကြာဝဠာအတွင်း၌ ရုပ်ကလာပ်အကုန်လုံး၌လည်း ဖြစ်ပျက်နေကြ၏။ ဤနည်းဖြင့် စကြာဝဠာအတွင်း၌ ရုပ်ကလာပ်အကုန်လုံး သို့မဟုတ် ရုပ်ဓါတ်စကြာဝဠာ တခုလုံးမှာ လှုပ်ရှားမှုဖြစ်သည်ကို သိအပ်၏။

တမျိုးပြန်၍ စစ်ဆေးကြည့်မည်ဆိုလျှင် ရုပ်ကလာပ်များအတွင်း၌ လှုပ်ရှားမှုများရှိသည်ကို တွေ့ရမည်ဖြစ်၏။ ထို့ကြောင့် ရုပ်ကလာပ်စကြာဝဠာမှာ လှုပ်ရှားမှုစကြာဝဠာဖြစ်ကြောင်းမှာ ထင်ရှား၏။ စကြာဝဠာကို မည်သည့်ဘက်က ပင်လှည့်၍ စစ်ကြည့်စစ်ကြည့်၊ အဖြေတခုတည်းသာရ၏။ ထိုအဖြေမှာ ရုပ်ဓါတ်စကြာဝဠာသည် လှုပ်ရှားမှုများ၏ အစုအပေါင်းဖြစ်ခြင်းပင်ဖြစ်၏။ ဤနည်းဖြင့် အဆုံးသတ် စစ်ဆေး၍ကြည့်သောအခါ ရုပ်ဓါတ်စကြာဝဠာနှင့် လှုပ်ရှားမှုစကြာဝဠာနှစ်ခုလုံးမှာ လှုပ်ရှားမှုစကြာဝဠာသာလျှင် ဖြစ်ကြောင်းကို တွေ့ရ၏။

## နာမ်ဓါတ်သည် လှုပ်ရှားမှုဖြစ်ခြင်း

နာမ်ဓါတ်အသီးသီးတို့သည် လှုပ်ရှားမှုစကြာဝဠာအတွင်း၌ လှည့်လည်နေကြသော လှုပ်ရှားမှုများဖြစ်၏။ အပိုင်းအခြားမရှိသော လှုပ်ရှားမှုစကြာဝဠာအတွင်း၌ နာမ်ဓါတ်တို့၏ လှုပ်ရှားမှုများသည် နေထွက်ဘုရင်များဖြစ်ကြ၏။ အဘယ့်ကြောင့်ဆိုသော် လှုပ်ရှားမှုများပင်လျှင် ဖြစ်ကြသော ရုပ်ဓါတ်အားလုံးသည် နာမ်ဓါတ်တို့၏ အုပ်ချုပ်မှုကို မလွန်ဆန်နိုင်ကြခြင်းကြောင့်ဖြစ်၏။

လှုပ်ရှားမှုကို လှုပ်ရှားမှုကသာ သိနိုင်၏။ နာမ်ဓါတ်သည် လှုပ်ရှားမှုဖြစ်သောကြောင့် အခြားလှုပ်ရှားမှုများကို သိနိုင်၏။ နာမ်ဓါတ်သည် မိမိကိုယ်တိုင်၏ လှုပ်ရှားမှုကိုပင် သိနိုင်၏။ သို့ရာတွင် အခြားလှုပ်ရှားမှုများကို သိနိုင်စွမ်းရှိသော လှုပ်ရှားမှုသည် အခြားသော လှုပ်ရှားမှုများထက် အင်အားကြီးရမည်ဖြစ်၏။ ကံကောင်းထောက်မသဖြင့် လူတို့၏ နာမ်ဓါတ်မှာ လှုပ်ရှားမှုတကာထက် အင်အားကောင်းသဖြင့် စကြာဝဠာအတွင်း၌ရှိသော ခပ်သိမ်းသော လှုပ်ရှားမှုတို့ကို သိနိုင်စွမ်းရှိ၏။

## နာမ်ဓါတ်သည် မသိသည့်အခါတွင်မျှ အခိုင်အခဲ ဖြစ်မသွားခြင်း

လှုပ်ရှားမှုတို့၏ အခြင်းအရာများကို ကောင်းစွာသဘောပေါက်ကြဘို့ လို၏။ နာမ်ဓါတ်ကလည်း လှုပ်ရှားမှုဖြစ်၍ အခြားသော ရုပ်ဓါတ်တို့ကလည်း လှုပ်ရှားမှုများဖြစ်ကြသဖြင့် လှုပ်ရှားမှုထက် မဆန်းပြားသော အရာမရှိ။ သို့ရာတွင် လှုပ်ရှားမှုထက် နားလည်နိုင်ဘို့ ခက်သော အရာလည်းမရှိ။

နာမ်ဓါတ်တို့သည် ရုပ်ဓါတ်တို့ကဲ့သို့ အစိုင်အခဲ မဖြစ်ကြ။ ရုပ်ဓါတ်တို့သည် ရုပ်ကလာပ်များဖြစ်အောင် အချင်းချင်း ပေါင်းစပ်ကြသကဲ့သို့ နာမ်ဓါတ်တို့သည် အချင်းချင်း ပေါင်းစပ်ခြင်း မပြုကြ။ နာမ်ဓါတ်တို့သည် ရုပ်ဓါတ်များကိုသာ စုစည်း၍ ပေးကြသော်လည်း ထိုရုပ်ဓါတ်တို့နှင့် မည်သည့်အခါတွင်မျှ အစိုင်အခဲအဖြစ်သို့ ရောက်အောင် ပေါင်းစပ်ခြင်း မပြုကြ။ ဤနည်းဖြင့် နာမ်ဓါတ်တို့သည် မည်သည့် အခြေအနေ၊ မည်သည့် အချိန်ကာလ၌မဆို မိမိတို့၏ တသီးပုဂ္ဂလ လွတ်လပ်စွာ နေမြဲ လှုပ်ရှားမှုအဖြစ်ကို မစွန့်လွှတ်ကြ။ ပတ်ဝန်းကျင်သိမှု အင်္ဂါအစိတ်အပိုင်းတို့သည် လှုပ်ရှားမှုများကို မသိနိုင်သဖြင့် မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် အထိအတွေ့ တို့သည် နာမ်ဓါတ်ရှိနေသည့်အဖြစ်ကို မည်သည့်အခါတွင်မျှ မသိမြင်နိုင်ကြ။

## <u>နာမ်ဓါတ်များကို အမည်ပေးခြင်း</u>

ထို့ကြောင့် အစိုင်အခဲဖြစ်နေသော ရုပ်ဓါတ်တို့ကို ပေါင်း၍ ကြည့်ခြင်းဖြင့်သာ နာမ်ဓါတ်တို့ရှိကြောင်းကို သိနိုင်၏။ သို့ရာတွင် ထိုသို့ သိနိုင်ဘို့ပင်လည်း မလွယ်ကူသေး။ အဘယ်ကြောင့်ဆိုသော် အမြင်အားဖြင့် သက်မဲ့ရုပ်အပိုင်းအခဲများဟု ထင်ရသော ရုပ်ဓါတ်များအတွင်း၌ ကိရိယာတန်ဆာပလာများ၏ အကူအညီဖြင့်ပင် အာရုံသိမှုအင်္ဂါအစိတ်အပိုင်းများမှတဆင့် သိနိုင်ရန် ခဲယဉ်းလောက်အောင် သေးငယ်သော ရုပ်ဓါတ်အစိုင်အခဲကလေးများကိုသာ ဆွဲငင်ထားနိုင်စွမ်းရှိသော၊ အားအင်သေးငယ်သော နာမ်ဓါတ်များရှိချင်ရှိနေနိုင်သော ကြောင့်ဖြစ်၏။ သို့ရာတွင် အင်အားကြီးသော နာမ်ဓါတ်များရှိနေခြင်းကို မူကား သိနိုင်ရန် လွယ်ကူ၏။ အဘယ့်ကြောင့်ဆိုသော် အကယ်၍ ထိုနာမ်ဓါတ်များသည် ရုပ်ဓါတ်များကို ဆောင်၍ လှည့်လည် နေကြသည်ဖြစ်မူ၊ မှန်ဘန်းအားဖြင့် ထိုနာမ်ဓါတ်တို့နှင့် ယှဉ်တွဲလျက်ရှိသော ရုပ်ဓါတ်အစိုင်အခဲတို့သည် မြင်နိုင်လောက်အောင် ကြီးမားသဖြင့် အာရုံဘည်မှုအင်္ဂါအစိတ်အပိုင်းတို့က သိနိုင်ကြသောကြောင့်ဖြစ်၏။ ထိုမှတပါး အခြားခဲယဉ်းမှုများလည်း ရှိသေး၏။ အချို့နာမ်ဓါတ်တို့မှာ တည်နေရန် ရုပ်ဓါတ်လုံးဝရှိကြမည်မဟုတ်။ တနည်းအားဖြင့် ထိုနာမ်ဓါတ်တို့နှင့် ယှဉ်တွဲနေသော ရုပ်ဓါတ်တို့သည် သေးငယ်လှသဖြင့် အာရုံဘည်ရာ အင်္ဂါအစိတ်အပိုင်းများက မသိနိုင်ကြ။

ယေဘုယျအားဖြင့် ကျွန်ုပ်တို့ သိကြသည်သာဖြစ်သော နာမ်ဓါတ်တို့သည် ကား အသက်ရှိသည်ဟု ခေါ်ပြောကြသည့် ရုပ်ဓါတ် အရာဝတ္ထုများဖြစ်၏။ လှုပ်ရှားမှုကို ကြည့်သောနည်းမှတပါး အသက်ရှိခြင်း မရှိခြင်းအကြောင်းကို အခြားနည်းဖြင့် မသိနိုင်။ ကျွန်ုပ်တို့သည် သက်မဲ့ရုပ်ဝတ္ထုတို့၏ လှုပ်ရှားမှုကို တွေ့ဘူးကြ၏။ သက်မဲ့ရုပ်ဝတ္ထုတို့၏ လှုပ်ရှားမှုကို ဆန့်ကျင်သော လှုပ်ရှားမှုရှိသော အရာဝတ္ထုများသည် သက်ရှိရုပ်ဝတ္ထုများဖြစ်သည်ဟု ထင်မှတ်နိုင်၏။ ဤသို့ထင်နိုင်ခြင်းမှာ အကြမ်းသဘောမျှသာဖြစ်သော်လည်း ၊ သင့်လျော်သောနည်း ဖြစ်၏။

## နာမ်ဓါတ်သည် ရုပ်ဓါတ်ထက် အင်အားကြီးခြင်း

တခုစီ တခုစီ သောနာမ်ဓါတ်တို့၏ လှုပ်ရှားမှုသည် တခုစီတခုစီ သော ရုပ်ဓါတ်တို့၏ လှုပ်ရှားမှုထက် အင်အားကြီး၏။ ကျွန်ုပ်တို့ အမြဲ တွေ့၍ နေရသော အချို့သော နာမ်ဓါတ်တို့သည် အင်အားကြီးလှသဖြင့် ရုပ်ဓါတ်များစွာကို လွှမ်းမိုးနိုင်၏။ သို့ရာတွင် ယေဘုယျအားဖြင့် နာမ်ဓါတ်အသီးသီးတို့သည် ရုပ်ခန္ဓာများနှင့် ပေါင်းစပ်မိသောအခါတွင် မိမိတို့ အုပ်ထိန်းသမျှသော ရုပ်ဓါတ်တို့ကို သိမ်းကြုံး၍ ထားကြ၏။ ထို့ကြောင့် ရုပ်ခန္ဓာနှင့် ပေါင်းစပ်မိသော နာမ်ဓါတ်အသီးသီးတို့ သည် သာမန်ရုပ်ဓါတ်တို့၏ လှုပ်ရှားမှုသဘောကို မလိုက်နာဘဲ မိမိတို့နှင့် သက်ဆိုင် သော ရုပ်ဓါတ် အထုအထည်များကို လှုပ်ရှားစေနိုင်၏။

အသက်ရှိ မရှိကို စမ်းသပ်ကြည့်ရန် အကောင်းဆုံးနည်းမှာ အာရုံ ဘည်ရာ အင်္ဂါအစိတ်အပိုင်းများ၌ အာရုံပြန်မှုဓါတ် ရှိမရှိကို ကြည့်ရှုခြင်းဖြစ်၏။ ဘ်ရုံဆွာန်များ၌ အသက်ရှိသည်ဟု ဆိုရခြင်းမှာ အထက်ပါ စမ်းသပ်နည်းနှစ်နည်း နှင့် စမ်းသပ်ကြည့်နိုင်သောကြောင့် ဖြစ်၏။ ထို့ပြင် သူတို့၏ ကိုယ်ခန္ဓာအတွင်း၌ အာရုံဘည်ရာ အင်္ဂါ အစိတ်အပိုင်း တို့သည် လူတို့တွင်ရှိသော အာရုံဘည်ရာ အင်္ဂါ အစိတ်အပိုင်းများနှင့် ပုံသဏ္ဍာန် ရော ပြုမူဆောင်ရွက်ပုံပါ တူကြခြင်းကြောင့် လည်း ဖြစ်၏။

## နာမ်ဓါတ်၌ ရုပ်ဓါတ်၏ ဂုဏ်များ မရှိခြင်း

အဆိုပါ စမ်းသပ်ကြည့်ရှုနည်းတို့မှာ အသက်ရှိမရှိ စမ်းသပ်ကြည့် ရန်အတွက် မလုံလောက်။ အဘယ့်ကြောင့်ဆိုသော် အသက်ဓါတ်သည် ပုံသဏ္ဍာန်အမျိုးမျိုး နှင့်နေရာတကာတွင် ရှိနိုင်သောကြောင့်ဖြစ်၏။ နာမ်ဓါတ်ရှိသည့် နေရာတိုင်းတွင်

သက်ရှိသတ္တဝါ ရှိ၏။ ဤ သဘောတရားသည် မှန်ကန်သော သဘောတရားပင် ဖြစ်၏။ သို့ရာတွင် ကျွန်ုပ်တို့အဖို့ အသုံးမကျ။ အဘယ့်ကြောင့်ဆိုသော် နဝမ်ဂြိုဟ်၏ ပိုင်နက်အတွင်းသို့ သိမြင်နိုင်လောက်သော အဆင်းနှင့် ပုံသဏ္ဌာန်ကို ပို့နိုင်လောက်အောင် အစိုင်အခဲကြီးမှသာ နဝမ်ဂြိုဟ်ကို သိမြင်နိုင်သောကြောင့်ဖြစ်၏။ အသက်ဂြိုဟ်သည် အကောင်အထည် ပုံသဏ္ဌာန်အတွင်း၌ မဟုတ်ဘဲ အခြားနည်းနှင့်လည်း တည်နေနိုင်သည်ကိုလည်း သတိပြုအပ်၏။ သို့ရာတွင် ယခုအခြေတွင် အဆုံးပါအကောင်အထည်နှင့်မဟုတ်သော အသက်ဂြိုဟ်အကြောင်းကို စဉ်းစားဘို့မလိုသေး။ အဘယ့်ကြောင့်ဆိုသော် ထိုအကြောင်းကို ထည့်မစဉ်းစားဘဲနှင့် ယခု ဆွေးနွေးနေဆဲ အကြောင်းကို ဆက်၍ ဆွေးနွေးနိုင်သောကြောင့်ဖြစ်၏။

တနည်းအားဖြင့် နဝမ်ဂြိုဟ်သည် လှုပ်ရှားမှုဖြစ်သည်ဟု ဆို၍ မှန်သော်လည်း၊ တနည်းအားဖြင့် နဝမ်ဂြိုဟ်သည် မမြင်ရသော အလင်းရောင်ဟု ဆိုနိုင်၏။ အဘယ့်ကြောင့်ဆိုသော် လှုပ်ရှားမှုသည် ပကတိအားဖြင့် ဖော်ပြရန် ခက်သောကြောင့် ဖြစ်၏။ သို့ရာတွင် နဝမ်ဂြိုဟ်ကို အလင်းရောင်ဟု ခေါ်ခြင်းသည် အလွန်မှား၏။ အဘယ့်ကြောင့်ဆိုသော် အလင်းရောင်တွင် အဆင်း၊ ပုံသဏ္ဌာန်နှင့် အပူစသည်တို့ရှိသော်လည်း နဝမ်ဂြိုဟ်တွင် အဆုံးပါ အခြင်းအရာများ အလျှင်းမရှိသောကြောင့် ဖြစ်၏။ ထို့ကြောင့် အဆုံးပါ ရုပ်ဂြိုဟ်အခြင်းအရာများ မပါသော အလင်းရောင် ရှိသည်ဟု စိတ်ကူးပြီးလျှင် နဝမ်ဂြိုဟ်သည် အဆုံးပါ အလင်းရောင်ဖြစ်သည်ဟု သဘောထားကာ ဆက်လက် လေ့လာကြအံ့။

## နဝမ်ဂြိုဟ်၏ အမြန်နှုန်း

အခန်း ၂ တွင် သက်မဲ့ မဟာဘုတ်ဂြိုဟ်များအကြောင်းကို ဖော်ပြခဲ့စဉ်က အလျှင်သုံးခုသည် အလှည့်ကျ ဖြစ်ပေါ်၍ ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်းများကို ဖြစ်စေကြခြင်းဟု ဆိုအပ်သော ဂြိုဟ်တို့၏ ထပ်တလဲလဲ ဖြစ်ပေါ်မှုအကြောင်းကို သိခဲ့ကြပြီ။ နဝမ်ဂြိုဟ်တို့အတွင်း၌လည်း ထိုနည်းအတိုင်းပင် ဖြစ်ပျက်၍နေ၏။ သို့ရာတွင် နဝမ်ဂြိုဟ်တို့၏ ဖြစ်စဉ်မှာ ပို၍ရှုပ်ထွေး၏။ လျှပ်စစ်တပျက်အတွင်း၌ နဝမ်ဂြိုဟ်တို့၏ လှုပ်ရှားသော အကြိမ်ပေါင်းမှာ ၃၀၀၀၀၀၀၀၀၀၀၀၀ ဖြစ်၍ ရုပ်ဂြိုဟ်တို့၏ လှုပ်ရှားမှုထက် ၁၇ ဆမြန်၏။ အချိန်ကာလ တခုလုံးနှင့်ဝလိုက်သော အဆုံးပါ အချိန်ကာလကလေးမှာ အလွန်သေးငယ်သော အချိန်ကာလသာဖြစ်သော်လည်း အလျှင်သုံးခုအတွင်း၌ အလှည့်ကျဖြစ်ပေါ်သော နဝမ်ဂြိုဟ်၏ တခါလှုပ် တခါလှုပ် အချိန်ကာလသည် အတော်ပင်ရှည်လျားသော အချိန်ကာလဖြစ်၏။

ဖြစ်ခြင်းအချိန်မှ ပျက်ခြင်းအချိန်အထိ နာမ်ငါတ်၏ လှုပ်ရှားမှုများ အနက် တကြိမ်လှုပ်ရှားခြင်း တကြိမ်လှုပ်ရှားခြင်းတွင် ဟိုင်း ၁၇ ခုပါဝင်၏။ ထိုဟိုင်း ၁၇ ခုတို့ဖြစ်ပုံကို နားလည်ဘို့လို၏။ ထိုသို့ နားလည်နိုင်ရန်အတွက် ရှေးဦးစွာ အဆိုပါ ဟိုင်းများကို ဖြစ်ပေါ်စေသည့် အင်အားအမျိုးမျိုးအကြောင်းကို လေ့လာဘို့လို၏။

## ယေဘုယျ နာမ်ငါတ် အလျင်များ

အသီးသီး သော နာမ်ငါတ်တို့အတွင်း၌ နာမ်ငါတ်တခါလှုပ် တခါလှုပ်တွင် ဟိုင်း ၁၇ ကို ဖြစ်စေတတ်သော အလျင်ကြီး ၇ ခုသည် အမြဲတန်းရှိ၏။ ၎င်းအလျင်ကြီးတို့၏ ဘာဝန်မှာ တခု၏ ဘာဝန်နှင့် တခု၏ ဘာဝန်သည် မတူကြ။ ထိုအလျင်ကြီးတို့သည် မိမိတို့ ဘာဝန်အသီးသီးကို ဆောင်ရွက်ကြရင်းနှင့် ကျန်အလျင်ကြီးတို့ဖြင့် နီးကပ်စွာ ရောရှက်ကြ၏။ ထိုအလျင်ကြီးတို့သည် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း စက်ဝန်းအတွင်း၌ အတူတကွ လှည့်လည်ကြ၏။ ထို့ကြောင့် ထိုအလျင်ကြီးတို့မှ ဖြစ်ပေါ်လာသော အင်အားသည် တနည်းအားဖြင့် မဟာဘုတ်ငါတ်ကြီး လေးပါးအတွင်း၌ ရှိသော ရုပ်ငါတ်အင်အားသည် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း စက်ဝန်းအတွင်း၌ လှည့်လည်ကြသည့်နည်းအတိုင်း လှည့်လည်ကြ၏။

အဆိုပါ အလျင်ကြီး ခုနှစ်ခုတို့သည် ထပ်တလဲလဲ ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်းတို့၏ သဘောကို မလွန်ဆန်သော်လည်း မိမိတို့ သက်ဆိုင်ရာ နာမ်ငါတ်အဖို့ ထိုနာမ်ငါတ်တခုလုံး၏ ဂုဏ်၊ အင်အားနှင့် ဘာဝန်ကို ပြဋ္ဌာန်း ပေးသည့် အင်အားကို ဖြစ်ပေါ်စေ၏။

ထိုအလျင်ကြီး ခုနှစ်ခုမှ ဖြစ်ပေါ်လာသော အင်အားများအကြောင်းကို ဝပ်ဆေးကြည့်ရှုခြင်း မပြုမီ ထိုအလျင်ကြီး ခုနှစ်ခုတို့၏ အခြင်းအရာများနှင့် ပြုမှုဆောင်ရွက်ပုံတို့ကို အထိုက်အလျောက် နားလည်အောင် လေ့လာကြကုန်အံ့ ။

ထိုအလျင်များသည် နာမ်ငါတ်အသီးသီး၌ ရှိကြပြီးလျှင် ထိုနာမ်ငါတ်တို့ လှုပ်တိုင်းလှုပ်တိုင်းတွင် ပါဝင်နေကြသဖြင့် ထိုအလျင်များကို တပေါင်းတည်းစု၍ နာမ်ငါတ်၏ ယေဘုယျအလျင်များ ( သဗ္ဗစိတ္တသာဓာရဏ ) ဟု ခေါ်၏။ ထိုအလျင်များကို မိမိတို့ ဘာဝန်နှင့် ဆီလျော်သော အမည်များ ပေးထား၏။ ၎င်းအမည်တို့မှာ

(၁) ဝုဝဉ်းကြည့်ရှုမှုအလျင် (ဖဿ)

(၂) အခြေအနေ ပေးမှုအလျင် (ဝေဒနာ)

(၃) ခြားနားမှုအလျင် (သညာ)

(၄) ကြံရွယ်မှုအလျင် (စေတနာ)

(၅) ဆုံးဖြတ်မှုအလျင် (ဧကဂ္ဂတာ)

(၆) အသက်ရှင်မှုအလျှင် (ဇီဝိတိန္ဒြိယ)

(၇) မှတ်သားမှုအလျှင် (မနသိကာရ)

တို့ဖြစ်၏။

## ယေဘုယျ အလျှင်တို့၏ တာဝန်များ

စုစည်းကြည့်ရှုမှု အလျှင်၏ အဓိက တာဝန်မှာ နာမ်ဓါတ်၏ အင်အား အားလုံးကို စုစည်း ပေးရန်နှင့် နာမ်ဓါတ်သွားရာလမ်းကို ပြဋ္ဌာန်း ပေးရန် ဖြစ်၏။ အခြေအနေပေးမှုအလျှင်က ဗိုက်ငါတ် တကြိမ်တကြိမ် မိလှုပ်ရှားတိုင်း၊ လှုပ်ရှားတိုင်း ဝေဒနာသုံးမျိုးဆီသို့ ပို့ပေး၏။ ထို ဝေဒနာ သုံးမျိုးမှာ သာယာမှုဝေဒနာ (သုခ)၊ မသာယာမှုဝေဒနာ (ဒုက္ခ)၊ ပဝ်ကြား ဝေဒနာ (ဥပေက္ခာ)တို့ ဖြစ်၏။

ခြားနားမှုအလျှင်က အလျှင်ခုနှစ်ခုအား တခုနှင့်တခု မတူအောင် လုပ်ပေး၏။ ဤနည်းဖြင့် အလျှင်တို့သည် တခုနှင့်တခု လုံးလုံးခွဲခြား၍ မရအောင် မရှိနိုင်ကြတော့။ ဤအလျှင်၏ ကျေးဇူးကြောင့် နာမ်ဓါတ်များကို တခုနှင့်တခု ခွဲခြား၍ သိနိုင်၏။

ကြံရွယ်မှုအလျှင်သည် နာမ်ဓါတ်တို့အား အပြဲဟန်းသတိရှိစေ၏။ ထိုအလျှင်သည် နာမ်ဓါတ်တခုလုံးတွင်ပြန့်နှံ့၍ နေပြီးလျှင် နာမ်ဓါတ်အား အလွန်နူးညံ့သိမ်မွေ့စေပြီးလျှင် အာရုံပြန်မှုဓါတ်များကို အလွယ်တကူ ခံယူနိုင်ပေ၏။ ဆုံးဖြတ်မှုအလျှင်ကမူ နာမ်ဓါတ်အတွင်း၌ ဂဏှာမငြိမ်မှု အမျိုးမျိုးကို ပယ်ရှား၍ နာမ်ဓါတ်အား လျှောက်ပတ်သော အခြေအနေ၌ တည်စေ၏။

အသက်ရှင်မှုအလျှင်၌ အဓိက တာဝန်ကြီးသုံးခုရှိ၏ ။ ၎င်းတို့မှာ

(၁) နာမ်ဓါတ်၏ ထပ်တလဲလဲ လှုပ်ရှားမှုများအား ဆက်လက်တည်ရှိနေစေရန် ကူညီပေးခြင်း ။

(၂) နာမ်ဓါတ်၏ ဘဏ္ဍာတိုက်သဖွယ် ပြုမူပေးခြင်းနှင့်

(၃) နာမ်ဓါတ်၏ အင်အားများကို မပိုမလို လွှတ်ပေးခြင်း။

တို့ဖြစ်၏။

နောက်လာမည့် အခန်းများကို နားလည်နိုင်ရန်အတွက် အသက်ရှင်မှုအလျှင်အကြောင်းကို နားလည်ထားဘို့ အထူးအရေးကြီး၏။

## နာမ်ဓါတ်စက်ဝန်းလည်ပုံ

အထက်ပါအလျှင်အားလုံးသည် နာမ်ဓါတ်၏ အတွင်း၌ တခုနှင့်တခု နိုင်မြဲ၍ သမဗွာ ရေဝဝပ် နေကြသဖြင့် ၎င်းအလျှင်အားလုံးကို နာမ်ဓါတ်တခုလုံး၌ တွေ့နိုင်၏။ နာမ်ဓါတ်လှိုင်းများသည် ထိုအလျှင်အားလုံး စုပေါင်းထားသော အင်အားများမှ ဖြစ်ပေါ်လာကြ၏။ စုစည်းကြည့်ရှုအလျှင်နှင့် အခြေအနေပေးမှု အလျှင်တို့က နာမ်ဓါတ်များ သွားရာလမ်းကို ပြင်ဆင်၍ ပေးကြ၏။ ခြားနားမှု အလျှင်က နာမ်ဓါတ်တို့အား တသီးပုဂ္ဂလ ခြားနားစွာ နေနိုင်စေရန် လုပ်ပေး၏။ ဆုံးဖြတ်မှုအလျှင်က နာမ်ဓါတ်တို့အား စည်းလုံးစွာ နေနိုင်ကြရန် အခြေကို ဖန်တီးပေး၏။ အသက်ရှင်မှုအလျှင်က နာမ်ဓါတ်တို့အား ဆက်လက်တည် နေနိုင်ရန် လိုသော အင်အားကို ပေးပြီးလျှင် နာမ်ဓါတ်တို့မှ လျောက်ပတ်သော အင်အားကို ဖြစ်ပေါ်စေ၏။ မှတ်သားမှုအလျှင်က သက်ရှိသတ္တဝါတို့၏ သက်တန်းတလျှောက်၌ တွေ့ကြုံရသော အမှတ်သညာအမျိုးမျိုးကို ရေတွက်ခြင်း၊ ပေါင်းစပ်ခြင်း၊ ထုတ်နှုတ်ခြင်းများကို ပြုလုပ်ပေး၏။

နာမ်ဓါတ်အတွင်း၌ လှုပ်ရှားမှုဖြစ်ပေါ်ပုံနှင့် မဟာဘုတ်ဓါတ်ကြီးလေးပါးအတွင်း၌ လှုပ်ရှားမှုဖြစ်ပေါ်ပုံတို့သည် တူ၏။ နာမ်ဓါတ်အတွင်း၌ လှုပ်ရှားမှု ဖြစ်ပေါ်စေနိုင်ရန်အတွက် နာမ်ဓါတ်တို့၏ ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း အင်အားများသည် အသက်ရှင်မှုအလျှင်အတွင်း၌ ပေါ်လာကြ၏။ အသီးသီးသော နာမ်ဓါတ်အင်အားတို့သည် စပ်ကြား၌ ရပ်နားခြင်း မရှိဘဲဆက်လက်ဖြစ်ပေါ် နေလိုသော သဘောရှိကြ၏။ သို့ရာတွင် ထပ်တလဲလဲဖြစ်ပေါ်မှုတို့က ယင်းကဲ့သို့ ဆက်လက်ဖြစ်ပေါ် နေလိုသော သဘောကို ဟန့်တားကြ၏။

အသက်ရှင်မှုအလျှင်တွင်း၌ ထပ်တလဲလဲ ဖြစ်မှုအင်အားတို့က နာမ်ဓါတ်တို့အား ဖြစ်၊ တည်၊ ပျက် စက်ဝန်းအတွင်း၌ လည်၍နေစေ၏။ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်းပင် ထိုသို့ လည်၍နေခြင်းသည် အလွန်လျင်မြန်၍ လျှပ်စစ်တပျက်အတွင်း၌ အကြိမ်ပေါင်း ၁၀၀၀၀၀၀၀၀၀၀၀၀၀ ဖြစ်၏။ ထိုသို့ တပတ်တပတ် လည်သည့်အခါတိုင်းတွင် နာမ်ဓါတ်၏ ယေဘုယျအလျှင် ၆ ခုနှင့် ကျန်အသက်ရှင်မှု အလျှင်၏အင်အား နှစ်ခုတို့က ခုခံတားမြစ်ရန် အားထုတ်ကြ၏။ ဤနည်းဖြင့် နာမ်ဓါတ်လှိုင်းများသည် ဖြစ်ပေါ်လာ၏။ တပတ်လည်သည့်အခါတိုင်း၊ တပတ်လည်သည့် အခါတိုင်း လှိုင်း ၁၇ ခုသည် မှန်မှန်ဖြစ်ပေါ်လာကြ၏။ အသက်ရှင်မှုအလျှင်အတွင်း

၌ ဖြစ်ပေါ်လျက်ရှိသော ဖြစ်၊ တည်၊ ပျက် စက်ဝန်းသည် အမြဲပင် ဆက်လက်၍ လည်နေသဖြင့် ကျန်နာမ်ဓါတ်၏ ယေဘုယျအလျင်အတွင်း၌ အင်အားတို့သည် မိမိတို့၏ အင်အားကုန်ခမ်းမသွားစေရန်အတွက် အမြဲသတိကြီးစွာဖြင့် နေကြ၏။ နာမ်ဓါတ်၏ လှိုင်း ၁၇ ခုတို့ အမြဲလှုပ်ရှား၍ နေနိုင်ခြင်းမှာ အဆိုပါ အင်အားများက အမြဲ ဖြစ်၊ တည်၊ ပျက် စက်ဝန်းအတွင်း၌ အခက်ဆုံးသောအချိန်မှာ ပျက်ခြင်းနှင့် ဖြစ်ခြင်းတို့၏ စပ်ကြားအချိန်ဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် ပျက်ခြင်းမှဖြစ်ခြင်းသို့ ကူးသည့်အချိန်တွင် အင်အား အားလုံးတို့သည် အကြင်းမဲ့ ငုတ်၍ သွားကြသော အချိန်ဖြစ်သော ကြောင့်ဖြစ်၏။ ထိုအချိန်သည် နာမ်ဓါတ်အဖို့ အင်အားကုန်ထုတ်ရသော အချိန် ဖြစ်၏။ ထိုသို့ဖြစ်ခြင်းကြောင့် နာမ်ဓါတ်ကို ပျက်ချိန်ခနသို့ မရောက်မီနှင့် ကပ်၍ဖြစ်ပေါ်သော လှိုင်းအနည်းငယ်နှင့်၊ ဖြစ်ချိန်ခနသို့ ရောက်ပြီးနောက် ကပ်၍ဖြစ်ပေါ်လာသော လှိုင်းသုံးလှိုင်းခန့်တို့သည် ခိုင်မာ၍ ဝုရုံးစွာ ရှိကြ၏။ သို့ရာတွင် စပ်ကြားချိန်များတွင် ဖြစ်ပေါ်ကြသော လှိုင်းတို့မှာ လွတ်လွတ်လပ်လပ် ရှိကြ၏။ ဤနည်းဖြင့် ထိုလှိုင်းတို့သည် လှုပ်ရှားလွယ်ကြ၏။

<u>နာမ်ဓါတ်၏ လှုပ်ရှားမှုအဆင့်များ</u>

ဤအခြင်းအရာကို အခြေပြု၍ ဗုဒ္ဓက နာမ်ဓါတ်၏ လှုပ်ရှားမှုခရီးကို သုံးပိုင်းပိုင်းထား၏။ ဖြစ်ခြင်းနောက်၌ ကပ်၍ ဖြစ်ပေါ်လာသော လှိုင်းသုံးခု၏ အချိန်ကာလသည် **အဦး**ယာမ် ( ဥပ္ပါဒ ) ဖြစ်၏။ ထို့နောက် ဖြစ်ပေါ်သော လှိုင်း ၁၂ ခု၏ အချိန်ကာလသည် အလည်ယာမ် ( ဌီတိ ) ဖြစ်၏။ နောက်ဆုံးလှိုင်း နှစ်ခုမှာ အဆုံးယာမ် ( ဘင်္ဂ ) ဖြစ်၏။ အဆိုပါ ကာလအပိုင်းအခြား ယာမ်သုံးခု၏ အမြန်နှုန်း၊ ရှေ့နောက် အစဉ်နှင့် အဆိုပါ ကာလအပိုင်းအခြားတို့ ပျောက်ကွယ်ပုံတို့သည် စကြာဝဠာတခုလုံးအတွင်း၌ တပုံစံတည်း ဖြစ်၏။ ဤကာလအပိုင်းအခြားတို့သည် စကြာဝဠာအတွင်း၌ ကာလအပိုင်းအခြားတို့အနက် အသေးငယ်ဆုံး အပိုင်းအခြားများ ဖြစ်သည့်အကြောင်းကို စစ်ဆေးကြည့်ရှုကြသည့်အခါတွင် တွေ့ကြမည်သာ ဖြစ်၏။

နာမ်ဓါတ်၏ လှုပ်ရှားပုံ၊ ယေဘုယျအလျင် ခုနှစ်ခုတို့ လှုပ်ရှားပုံနှင့် ထိုအလျင်ခုနှစ်ခုတို့၏ လှိုင်း ၁၇ ခုတို့ လှုပ်ရှားပုံများကို ရှင်းလင်းစွာ သိသာနိုင်ရန်အတွက် ပုံစံလွယ်လွယ်ဖြင့် ဖော်ပြအပ်၏။ ထို့ကြောင့် ဤကျမ်းကို ဘတ်ရှုကြသူတို့၏ အကျိုးငှါ အောက်ပါ ပုံစံကို ဖော်ပြလိုက်၏။

---

ကာလ အပိုင်းအခြားမရှိသော အတိတ်

ဖြစ်ခြင်းခန ——————

| | | | | |
|---|---|---|---|---|
| လှိုင်း | ၁ | --- --- | ( )))))) ) | |
| ။ | ၂ | --- --- | ( )))))) ) | အဦး ယာမ် |
| ။ | ၃ | --- --- | ( )))))) ) | |
| ။ | ၄ | --- --- | ( )))))) ) | |
| ။ | ၅ | --- --- | ( )))))) ) | |
| ။ | ၆ | --- --- | ( )))))) ) | |
| ။ | ၇ | --- --- | ( )))))) ) | |
| ။ | ၈ | --- --- | ( )))))) ) | —— ပစ္စုပ္ပန် |
| ။ | ၉ | --- --- | ( )))))) ) | (တည်ခြင်းခန) |
| ။ | ၁၀ | --- --- | ( )))))) ) | |
| ။ | ၁၁ | --- --- | ( )))))) ) | |
| ။ | ၁၂ | --- --- | ( )))))) ) | |
| ။ | ၁၃ | --- --- | ( )))))) ) | |
| ။ | ၁၄ | --- --- | ( )))))) ) | |
| ။ | ၁၅ | --- --- | ( )))))) ) | |
| ။ | ၁၆ | --- --- | ( )))))) ) | |
| ။ | ၁၇ | --- --- | ( )))))) ) | အဆုံး ယာမ် |

ပျက်ခြင်းခန ——————

ကာလ အပိုင်းအခြားမရှိသော အနာဂတ်

---

သင်္ချာအားဖြင့်ဆိုသော် နာမ်ဓါတ်တခါလှုပ်မှု လှိုင်းတခုသည် လျှပ်စစ်တပျက်အချိန်ကာလ၏ ၁/၅၁၀၀၀၀၀၀၀၀၀၀၀၀ ဖြစ်၏။ တနည်းဆိုသော် ၁/၃၀၀၀၀၀၀၀၀၀၀၀၀ ÷ ၁၇ ဖြစ်၏။ လှိုင်း ၃ လှိုင်းမျှသာရှိသော အဦးယာမ်သည် လျှပ်စစ်တပျက်အချိန်ကာလ၏ ၁/၁၇၀၀၀၀၀၀၀၀၀၀၀၀ ဖြစ်၍ အလယ်ယာမ်သည် လှိုင်း၁၂လှိုင်းရှိသဖြင့် ၁/၄၂၅၀၀၀၀၀၀၀၀၀၀ ဖြစ်ပြီးလျှင် အဆုံးယာမ်သည် လှိုင်းနှစ်ခုသာရှိသဖြင့် ၁/၂၅၅၀၀၀၀၀၀၀၀၀၀၀ ဖြစ်၏။

## အသက်ရှင်မှုအလျင်၏ ထပ်တလဲလဲ အခင်းအသားများ

မဟာဘုတ်ခါတ်ကြီး လေးပါး အတွင်း၌ ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း အလျင်တို့သည် အဆိုပါ ဓါတ်ကြီး လေးပါးကို အဋ္ဌိန်မှန်စွာဖြင့် အမြဲတန်းလှုပ်ရှားကာ နေစေသည့်နည်းတူ နာမ်ဓါတ်အတွင်း၌ ဖြစ်၊ တည်၊ ပျက် အခင်းအသားများမှ ဖြစ်ပေါ်လာသော အခင်းအသားတို့က နာမ်ဓါတ်၏ လှုပ်ရှားမှုများကို ဖြစ်ပေါ်စေ၏။ နာမ်ဓါတ်အတွင်း၌လည်း အဆိုပါ အခင်းအသားသုံးခုသည် အလှည့်ကျဖြစ်ပေါ်မှု တခု၏ တာဝန်ကို တခုက ဆက်ခံကာ ဆောင်ရွက်ကြ၏။ ဖြစ်ခြင်းအခင်းအသား အဆုံးသတ်သည် နှင့် တပြိုင်နက် တည်ခြင်းအခင်းအသားက ဆက်၍ ဆောင်ရွက်ပြီးလျှင်၊ တည်ခြင်းအခင်းအသား ပြီးဆုံးသည်နှင့်တပြိုင်နက် ပျက်ခြင်းအခင်းအသားက တာဝန်ကို ခံယူ၏။ ပျက်ခြင်းအခင်းအသား၏ တာဝန်ပြီးဆုံးသည်နှင့်တပြိုင်နက် ဖြစ်ခြင်းအခင်းအသားသည် သွက်သည် သွက်လက်မှု ပေါ်လာပြီးလျှင် နာမ်ဓါတ်လှုပ်ရှားမှုအသစ်ကို ဂိုင်ပဝွာ ဖြစ်ပေါ်စေ၏။ ဤနည်းဖြင့် ထပ်တလဲလဲ လှုပ်ရှားမှုသည် ဆက်လက်ဖြစ်ပေါ်နေ၏။

နာမ်ဓါတ်လှုပ်တိုင်းလှုပ်တိုင်း ယေဘုယျအလျင် ၇ ခုက မိမိတို့၏ ပင်ကိုယ်အစွမ်းသတ္တိများကို ဖြစ်ပေါ်စေကြ၏။ အသက်ရှင်မှုအလျင်က မိမိသက်ဆိုင်ရာ ဖြစ်၊ တည်၊ ပျက် အခင်းအသားများကို ဖြစ်ပေါ်နေစေဒိုက်တွင် အခြားအလျင်တို့ကလည်း မိမိတို့ အသီးသီး အခင်းအသားရှိကြသလောက် နာမ်ဓါတ်ကို ပြုပြင်ကြ၏။ နာမ်ဓါတ်လှုပ်ရှားမှုများဖြစ်ပေါ်နေဒိုက်တွင် ယေဘုယျအလျင် ခုနှစ်ခုက နာမ်ဓါတ်၏ အခင်းအသားဝုပ္ပ ပေါင်းနှင့် ညီမျှသော အခြင်းအရာများနှင့် အခင်းအသားများကို ဖြစ်ပေါ်ဖြဲ မှန်မှန်ဖြစ်ပေါ်နေစေကြ၏။

## နာမ်ဓါတ်၏ အလျင်သည် ရပ်နားခြင်းမရှိပုံ

အဆိုပါ ယေဘုယျအလျင် ခုနှစ်ခုနှင့် နာမ်ဓါတ်တခါလှုပ် တခါလှုပ်၌ ဖြစ်ပေါ်လာသော ဂိုဏ်း ၁၇ ခုတို့သည် သဗ္ဗဓါတ်တိုင်း၏ နာမ်ဓါတ်အတွင်း၌ ရှိ၏။ အဆိုပါ အလျင်ခုနှစ်ခုနှင့် ဂိုဏ်း ၁၇ ခုတို့သည် သဗ္ဗဓါတ်တိုင်း၏ နာမ်ဓါတ်အတွင်း၌ ကာလအပိုင်းအခြားမရှိသော အတိတ်တွင်လည်း ရှိခဲ့ကြ၏။ ယခုပစ္စုပ္ပန်၌လည်း ရှိဆဲဖြစ်ပြီးလျှင် နောင်အနာဂတ်တွင်လည်း ရှိကြလိမ့်မည်ဖြစ်၏။ သို့ရာတွင် ၎င်းတို့၏ အခင်းအသားနည်းခြင်း များခြင်းမှာ လူသာ ယောက်နှင့်တ ယောက် မတူကြ။ လူသာ ယောက်၏ အဖို့ပင်လျှင် အချိန်ကာလအလျောက် ခြားနားခြင်းရှိ၏။

ကျွန်ုပ်တို့သည် စကြာဝဠာအတွင်း၌ အချိန်ကာလ အပိုင်းအခြားကို ရေတွက်ကြသောအခါတွင် အဖြစ်အပျက်တခုခုကို အခြေထား၍ ထိုအဖြစ်အပျက်နှင့်မည်မျှနီးသည် ဝေးသည်ဟု ရေတွက်ကြ၏။ နာမ်ဓါတ်၏ လှုပ်ရှားမှုတခုဖြစ် ပေါ်ခြင်းသည် အဖြစ်တခုဖြစ်၏။ ထိုလှုပ်ရှားမှု ပျက်ခြင်းသည် ထိုလှုပ်ရှားမှုဖြစ် ပေါ်ခြင်းနှင့် တွဲ၍ လိုက်ပါလာသော အဖြစ်ဖြစ်၏။ ထို့ကြောင့် နာမ်ဓါတ်လှုပ်ရှားမှုတခုဖြစ်ပေါ်ခြင်းနှင့် ထိုလှုပ်ရှားမှုပျက်ခြင်းစပ်ကြားရှိ အချိန်ကာလသည် အပိုင်းအခြားရှိသော အချိန်ကာလတခု ဖြစ်၏။ ဤအချိန်ကာလသည် စကြာဝဠာအတွင်း၌ အတိုဆုံးသော အချိန်ကာလ ဖြစ်၏။ ဤအချိန်ကာလထက် ရှည်လျားသော အချိန်ကာလတို့မှာ ဤအချိန်ကာလကို အခြားကိန်းတို့ဖြင့် မြှောက်၍ရသော ရလာဒ်များသာဖြစ်၏။

## အချိန်ကာလ ပိုင်းခြားပုံ

နာမ်ဓါတ်လှုပ်ရှားမှုတခု၏ အချိန်ကာလတွင် ယာမ်သုံးယာမ်ရှိ၏။ ၎င်းတို့မှာ အဦးယာမ်၊ အလည်ယာမ်နှင့် အဆုံးယာမ် တို့ဖြစ်၏။ ဤ အဦးယာမ်၊ အလယ်ယာမ်နှင့် အဆုံးယာမ် သုံးခုတို့မှာ အသက်ရှင်မှုနှင့် ပတ်သက်၍ အတိုဆုံး အချိန်ကာလ သုံးဆင့် ဖြစ်ပြီးလျှင် စကြာဝဠာအတွင်း၌ အတိုဆုံးကာလအပိုင်းအခြားဖြစ်၏။ ခပ်သိမ်းသော အချိန်ကာလအပိုင်းအခြားတို့သည် အပိုင်းအခြားသတ်မှတ်၍မရနိုင်လောက်အောင် ကျဉ်းကြုံနေသော အချိန်ကာလဟု ဆိုအပ်သည့် ပစ္စုပ္ပန်ကာလကို အခြေပြုကာ ကျယ်ပြန့်သွားကြ၏။ ထိုသို့ ကျယ်ပြန့်သွားသော အချိန်ကာလတို့သည် အပိုင်းအခြား သတ်မှတ်၍မရနိုင်လောက်အောင် ကျယ်ပြန့်သော အချိန်ကာလများဟု ဆိုအပ်သော အတိတ်နှင့် အနာဂတ်ဖက်များသို့ ကျယ်ပြန့်သွားကြ၏။ အပိုင်းအခြားရှိသောအချိန်ကာလတို့သည် အချိန်ကာလ၏ အပိုင်းအခြားမရှိမှုမှ ဖြစ်ပေါ်လာကြပြီးလျှင် တိုသောအချိန်ကာလအပိုင်းအခြားတို့မှ ရှည်သောအချိန်ကာလအပိုင်းအခြားတို့ဖြစ်ပေါ်လာကြ၏။

နာမ်ဓါတ်တခါလှုပ်ဟု ဆိုအပ်သော၊ အတိုဆုံးဖြစ်သော၊ အပိုင်းအခြားရှိသော အချိန်ကာလကို အခြေပြု၍ သက်တန်းများဖြစ်လာ၏။ သက်တန်းများကို အခြေပြု၍ သမိုင်းအချိန်ကာလတို့ ဖြစ်ပေါ်လာ၏။ သမိုင်းအချိန်ကာလတို့ကို အခြေပြု၍ ကမ္ဘာ အချိန်ကာလများ ဖြစ်ပေါ်လာ၏။ ကမ္ဘာ အချိန်ကာလများကို အခြေပြု၍ စကြာဝဠာ အချိန်ကာလ(ကပ္ပ)ဖြစ်ပေါ်လာ၏။

ယာမတို့သည်လည်း ထိုအတိုင်းပင်ဖြစ်၏။ နာမ်ဝါတ်လှုပ်ရှားမှုတခု ဖြစ်သော အဦးယာမ၊ အလယ်ယာမ၊ အဆုံးယာမဟု ဆိုအပ်သော အတိုဆုံးယာမကို အခြေပြု၍ ခပ်သိမ်းသော သတ္တဝါတို့၏ သူငယ်ရွယ်၊ လူပျိုရွယ်၊ သူအိုရွယ် ဟု ဆိုအပ်သော အရွယ်သုံးခုသည် ဖြစ်ပေါ်လာ၏။ ဤနည်းဖြင့် အချိန်ကာလအပိုင်းအခြားများကို ပွား၍ ယူသောအခါတွင် စကြာဝဠာတခုလုံး၌ အတိုဆုံးအချိန်ကာလ အပိုင်းအခြားနှင့် အရှည်ဆုံးကာလ အပိုင်းအခြားများကိုရ၏။

စကြာဝဠာတခုလုံး၏ အသက်အရွယ်နှင့် ဘည်နေမှုကိုလည်း နာမ်ဝါတ်တခါလှုပ်ဖြစ်သော အဦးယာမ၊ အလယ်ယာမ၊ အဆုံးယာမတို့ကို အခြေပြု၍ ပြဒွန်းကြ၏။ နာမ်ဝါတ်၏ အင်အားများက ရုပ်ဝါတ်စကြာဝဠာကြီးအား မည်ကဲ့သို့ ပြုပြင်ပေးနေသည့်အကြောင်းကို ထိုအကြောင်းနှင့်စပ်လျဉ်းသည့် ( ရုပ်ဝါတ်၌သတ္တဝါ ပဋိသန္ဓေဘည်နေပုံ ) ကို ဆိုရာပြမ်သော အခန်း ၆ သို့ ရောက်သည့်အခါတွင် ဖော်ပြအံ့ ။

## အခြေခံ အချိန်ကာလ ခုဏ်န်းများ*

နာမ်ဝါတ်ရာသီ ( စိတ္တက္ခဏ ) သည် ဗုဒ္ဓက မိမိ၏ ဘွက်ချက်မှုများအတွက် အခြေပြုသော အချိန်ကာလနှင့် သက်ဆိုင်သော ခုဏ်န်းဖြစ်၏။ ထို့ကြောင့် ဗုဒ္ဓ၏ ဘွက်ချက်မှု ဇယားများတွင် နာမ်ဝါတ်ရာသီကို အချိန်ကာလနှင့် သက်ဆိုင်သော ခုဏ်န်းဟူ၍သာ ယူဆ၏။

ဘွက်ချက်မှုများကို လွယ်ကူစေခြင်းအကျိုး ငှါ ဗုဒ္ဓ၏ ဘွက်ချက်မှုဇယားတွင် နာမ်ဝါတ်ရာသီ သို့မဟုတ် နာမ်ဝါတ်တခဏ ( စိတ္တက္ခဏ ) သည် နာမ်ဝါတ်တခါလှုပ်ရှားသောအချိန်၏ သုံးပုံတပုံ အတိအကျဖြစ်သည်ဟု ယူဆ၏။ တနည်းဆိုသော် လျှပ်စစ်တဖျက် အချိန်၏ ၁/၉၀၀၀၀၀၀၀၀၀၀၀၀ ဖြစ်၏။ ဤအချိန်ကာလ ခုဏ်န်းအရ ရုပ်ဝါတ်တို့၏ လှုပ်ရှားမှုဇယားကို အောက်ပါအတိုင်း ရ၏။

နာမ်ဝါတ် ၃ ရာသီသည် နာမ်ဝါတ်တခါလှုပ်ရှားခြင်းနှင့်ညီမျှ၏။
နာမ်ဝါတ် ၁၇ ခါလှုပ်ရှားခြင်းသည် ရုပ်ဝါတ်တခါလှုပ်ရှားခြင်း နှင့်ညီမျှ၏။

---

* ခုဏ်န်းဆိုသည်မှာ ခု၊ ဆယ်၊ ရာ၊ ထောင်၊ သောင်း၊ သိန်း၊ သန်း စသော ဂဏန်းများအနက် အနိမ့်ဆုံး သို့မဟုတ် အသေးဆုံးအငယ်ဆုံး ဂဏန်းဖြစ်သည်။ ။ ဘာသာပြန်သူ

၎င်းအချိန်တွက်မှု ဇယားထက် ပို၍ မှန်ကန်၊ ပို၍တိကျ၊ ပို၍ သေချာသော ဇယားဟူ၍ မရှိ။ လူအများ အသုံးပြုလျက်ရှိသော အချိန်တွက်မှုဇယားများမှာ မိမိတို့၏ စိတ်အလိုအရ ပိုင်းခြားထားသော အချိန်ကာလများကို အခြေပြုထားသော ဇယားများသာဖြစ်၏။ လျှပ်စစ်တပျက်အချိန်မှာ စကြာဝဠာနှင့် ပတ်သက်၍ ဟောပြောရာတွင် ဗုဒ္ဓက လက်ခံထားသော လူတို့၏ အလိုအားဖြင့် ပိုင်းခြားထားသော အချိန်ကာလဖြစ်၏။ ထိုအချိန်ကာလကို ဗုဒ္ဓက လက်ခံထားခြင်းမှာ အခြားကြောင့်မဟုတ်၊ ထိုအခါက ဗုဒ္ဓ၏ ပရိသတ်များက တကယ်တိုတောင်း၍ အကယ်တိကျသော အချိန်ကာလအပိုင်းအခြားကို သဘောမပေါက်နိုင်ကြသေးသောကြောင့်ဖြစ်၏။ ထို့ကြောင့် လျှပ်စစ်ပျက်ခြင်းတို့မှာ ခရီးအနီးအဝေး၊ အင်အားအပြင်းအပြော့အလိုက် တခုနှင့်တခု မတူကြဟု စောဒက တက်နိုင်၏။ "လျှပ်စစ်တပျက်" ဟု ဆိုသော စကားဖြင့် ယေဘုယျ လူသားတို့အဖို့ အတိုဆုံးအချိန်ဟူ၍သာ ဗုဒ္ဓက ဆိုလို၏။

## အမြဲမှန်သော ပြက္ခဒိန် မရှိ

လကို အခြေထား၍ တွက်သော ပြက္ခဒိန်တို့သည်လည်း မမှန်ကြ။ လကို အခြေထား၍ တွက်သော နှစ်တို့သည် အခါခပ်သိမ်းတနှစ်နှင့် တနှစ် အရှည်အတို မတူကြ။ ကျွန်ုပ်တို့ ကမ္ဘာ မြေကြီး ပေါ်တွင်ရှိသော လကို အခြေထား၍တွက်သော နှစ်နှင့် အခြားဂြိုဟ်များ ပေါ်တွင် ရှိသော လကို အခြေထား၍ တွက်သော နှစ်တို့သည် တခုနှင့်တခု မတူကြ။

နောင်အနှစ် နှစ်သန်းကြာသောအခါတွင် ကမ္ဘာမြေကြီး ပေါ်တွင် ဖြစ်ပေါ်မည့် လကို အခြေထား၍ တွက်သော နှစ်သည် ယခုမျက်မှောက်ကမ္ဘာ ပေါ်တွင် ရှိနေသော လကို အခြေထား၍ တွက်သော နှစ်နှင့် အရှည်အတိုတွင် များစွာ ကွာခြားနေကြမည်သာဖြစ်၏။ ဤနည်းဖြင့် လကို အခြေထား၍တွက်သော နှစ်တို့သည် တခေတ်နှင့်တခေတ်၊ တဂြိုဟ်နှင့်တဂြိုဟ်ခြားနားခြင်း ရှိကြလိမ့်မည်သာဖြစ်၏။ ထိုနည်းတူစွာပင် သတ္တဝါတို့သက်တမ်းသည်လည်း တခေတ်နှင့်တခေတ်၊ တဂြိုဟ်နှင့် တဂြိုဟ် တူကြလိမ့်မည်မဟုတ်။ ထို့ကြောင့် သက်တမ်းတခုအတွင်းရှိ ဖြစ်ပျက်မှုတခုနှင့် တခုစပ်ကြားအချိန်တို့သည်လည်း ခြားနားကြမည်သာဖြစ်၏။

## အမြဲမှန်သော အခြားအရာတခုထိုးသာရှိခြင်း

နာမ်ဓါတ်တို့၏ လှုပ်ရှားမှုများနှင့် ရုပ်ဓါတ်တို့၏ လှုပ်ရှားမှုများ၏ အချိန်သည် မည်သည့်ခေတ်၊ မည်သည့်ဂြိုဟ်၌မဆို အင်မတိ အင်မတန်မှန်ကြ၏။ ထို့ကြောင့် စကြာဝဠာတွင်းရှိ အခြင်းအရာအားလုံးကို တိုင်းထွာရာတွင် အသုံးပြု

ရန်အတွက် မိတ်ချရသော ပေတံတို့မှာ နာဗ်ခေါက်၏ လှုပ်ရှားမှုများနှင့် ရုပ်ခေါက်၏ လှုပ်ရှားမှုများသာဖြစ်၏။ စကြာဝဠာသည် လှုပ်ရှားမှု အဘိပြီးသော အခြင်းအရာသာဖြစ် ကြောင်းကို၎င်း၊ စကြာဝဠာအတွင်း၌ နာဗ်ခေါက်သည် အလျှင်မြန်ဆုံး၊ အမှန်ဆုံးလှုပ်ရှားမှုဖြစ် ကြောင်းကို၎င်း၊ သိခဲ့ကြပြီ။ ထို့ကြောင့် စကြာဝဠာကို တိုင်းထွာရန်အတွက် နာဗ်ခေါက်ထက်သိမ်မွေ့၍ နာဗ်ခေါက်ထက် သေချာသော အရာသည် မရှိနိုင်။

အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ နာဗ်ခေါက်လှုပ်ရှားမှုသည် အဆင့်အတန်း နိမ့်သော သတ္တဝါတို့၏ နာဗ်ခေါက်လှုပ်ရှားမှုထက် မြန်သည်ဟု အထင်မမှားအပ်။ သတ္တဝါတိုင်း၏ နာဗ်ခေါက်လှုပ်ရှားမှုအမြန်နှုန်းမှာ အတူတူပင်ဖြစ်၏။ အမြန်နှုန်းခြင်းခြားနားဟန် ပေါ်၍နေခြင်းမှာ အသီးသီးသော နာဗ်ခေါက်တို့ အမှမ်းသတ္တိခြင်း ခြားနားကြသော ကြောင့်ဖြစ်၏။ နာဗ်ခေါက်တို့၏ အင်အားမှာ တခုနှင့်တခု မတူကြ။ ထို့ကြောင့် နာဗ်ခေါက် လှုပ်ရှားမှုအရှိန်နှင့် နာဗ်ခေါက် တခါလှုပ်ရှားခြင်း တခါလှုပ်ရှားခြင်းတို့တွင် ပါဝင်သော လှိုင်း ၁၇ ခုတို့၏ အရှိန်သည် တခုနှင့်တခု မတူကြ။ သို့ရာတွင် လှိုင်း ၁၇ ခုတို့၏ လှုပ်ရှားမှုနှင့် အချိန်မှန်ကန်မှု အမြန်နှုန်းတို့မှာ မည်သည့်အခါတွင်မျှ ပြောင်းလွဲခြင်းမရှိ။

ထို့ကြောင့် နာဗ်ခေါက်တို့၏ လှုပ်ရှားမှု အမြန်နှုန်းအပေါ်တွင် လူ၏ နာဗ်ခေါက်နှင့် တိရစ္ဆာန်၏ နာဗ်ခေါက်တို့သည် ခြားနားခြင်းမရှိ။ သို့ရာတွင် လူ၏ နာဗ်ခေါက်လှိုင်းအရှိန်နှင့် တိရစ္ဆာန်၏ နာဗ်ခေါက်လှိုင်းအရှိန်တို့မှာ များစွာ ခြားနား၏။ တိရစ္ဆာန်များ အပေါ်တွင် နာဗ်ခေါက်လှိုင်းရှိန်တို့မှာ တိရစ္ဆာန် ဘဝတွင် တည်နေနိုင်ရုံ လောက်သာ အားရှိ၏။ သို့ရာတွင် လူတို့၏ နာဗ်ခေါက်လှိုင်းရှိန်မှာ လူ့ဘဝနှင့် လူ့ကိစ္စများကို ဆောင်ရွက်နိုင်လောက် အောင်အားရှိ၏။ ထိုအချက်သည် လူနှင့်တိရစ္ဆာန်တို့၏ တခုတည်းသော ခြားနားချက်ဖြစ်၏။

## ပဋိသန္ဓေတည်ချိန် နာဗ်ခေါက်အင်အား

နာဗ်ခေါက် တခါတခါ လှုပ်ရှားသည့်အချိန်တွင် ယေဘုယျအလျှင် ရ ခု ကြောင့် ဖြစ်ပေါ်သော လှိုင်း ၁၇ ခုတို့သည် သတ္တဝါအမျိုးမျိုးတို့ ပဋိသန္ဓေတည်ချိန်တွင် ပထမဖြစ်ပေါ်သော လှိုင်း၏ အရှိန်အတိုင်းသာလျှင် ဆက်၍ လှုပ်ရှားကြ၏။ ဤနည်းဖြင့် လူတို့ပဋိသန္ဓေစ၍ တည်ချိန်တွင် ပထမဖြစ်ပေါ်သော နာဗ်

ဓါတ်လှုပ်ရှားမှုမှ ဖြစ်ပေါ်သော ပထမ လှိုင်း၏ အင်အားသည် တသက်တာ အတွင်း၌ လုပ်ကိစ္စများကို ဆက်လက် ဆောင်ရွက်နိုင် လောက် အောင် ကြီး၏။ ဤကဲ့သို့ ပဋိသန္ဓေယူ သော နာမ်ဓါတ်တို့သည် ရုပ်ဓါတ် သန္တာန်အသီးသီး၌ ကိန်းဝပ်နေသမျှ ကာလပတ်လုံး ပဋိသန္ဓေအင်အားသည် ဆက်လက်၍ တည်နေပြီးလျှင် ထိုအင်အားမှ ဖြစ်ပေါ်လာသော လှိုင်းတို့သည် ပဋိသန္ဓေတည်ချိန် အင်အားအတိုင်း ဆက်လက်၍ ဖြစ်ပေါ်ကြ၏။

သတ္တဝါအသီးသီးတို့၏ ကိုယ်ခန္ဓာအတွင်းရှိ နာမ်ဓါတ် ပထမ လှုပ်ရှား ရာမှ ဖြစ်ပေါ်လာသော ပထမ လှိုင်း၏ အင်အားသည် ပြီးဆုံးခဲ့သော ဘဝတွင် သက်ဆိုင်ရာ နာမ်ဓါတ် နောက်ဆုံးအကြိမ် လှုပ်ရှားမှုမှ နောက်ဆုံးအကြိမ်ဖြစ်ပေါ် သောလှိုင်းတွင် ပါလာသော စွဲလမ်းချက်များ စုစုပေါင်း၏ အင်အားအလိုက်ဖြစ်၏။ ထို့ကြောင့် တနည်းအားဖြင့်ဆိုသော် သက်ရှိ ကိုယ်ခန္ဓာ တခုအတွင်း၌ နာမ်ဓါတ် ပထမ အကြိမ်လှုပ်ရှားရာမှ ဖြစ်ပေါ်လာသော ပထမ လှိုင်း၏ အင်အားသည် ပြီးဆုံးခဲ့သော ဘဝတွင် နောက်ဆုံးအကြိမ်ဖြစ်ပေါ် သော နာမ်ဓါတ်လှုပ်ရှားမှုမှ ဖြစ်ပေါ်လာသော နောက်ဆုံးလှိုင်း၏ အင်အားနှင့်ညီမျှ၏။ သို့ရာတွင် ရုပ်ဓါတ် သတ္တဝါ အသီးသီး၏ ကိုယ်ခန္ဓာအတွင်းရှိ နာမ်ဓါတ်၏ ပထမ လှုပ်ရှားမှုမှ ဖြစ်ပေါ် လာသော ပထမ လှိုင်းသည် ပဋိသန္ဓေတည်ဦး ရုပ်ကလာပ်အတွင်း၌ ဘဝသစ်ကို ဖြစ်စေနိုင်လောက် အောင် ကြီးသော အင်အားရှိပြီးလျှင် ထိုလှိုင်းသည်ပင် ဘဝ သစ်သို့ ရောက်နေသော နာမ်ဓါတ်၏ လှုပ်ရှားမှုကို အင်အားမပျက် ဆက်လက်၍ လှုပ်ရှားနေစေနိုင်သဖြင့် ထိုလှိုင်းကို အသက်လှိုင်း (ဘဝင်) ဟု နာမည်ပေး ထား၏။

## အသက်ရှင်မှုလှိုင်းများသည် ရပ်နားခြင်းမရှိ

ယေဘုယျ အလျင် ၇ ခုမှ ဖြစ်ပေါ်လာသော လှိုင်း ၁၇ တို့သည် တူညီသော အင်အား ရှိကြ၏။ အဘယ့်ကြောင့်ဆိုသော် ထိုလှိုင်းတို့သည် သတ္တဝါအသီးသီး တို့၏ နာမ်ဓါတ်မှ ပထမ ဖြစ်ပေါ်လာသော လှုပ်ရှားမှုမှ ဖြစ်ပေါ်လာသော ပထမ လှိုင်းနှင့် အင်အားချင်းညီမျှသော ကြောင့်ဖြစ်၏။ သို့ရာတွင် အဆိုပါအသက် ရှင်မှုလှိုင်းတို့၏ အင်အားမှာ သတ္တဝါ အသီးသီးတို့အား ထင်ရှားမှုမရှိဘဲ အသက်ရှင် နေ စေနိုင်လောက်ရုံသာ ရှိသဖြင့် သတ္တဝါတို့ ကိုယ်တိုင်ကပင် ထိုအသက်ရှင်မှုလှိုင်းများ ရှိနေကြသည့်အဖြစ်ကို မသိနိုင်ကြ။ အသက်ရှင်မှုလှိုင်းတို့သည် ပဋိသန္ဓေတည်ချိန်ကစ၍ နာမ်ဓါတ်လှုပ်ရှားတိုင်းလှုပ်ရှားတိုင်း ရပ်နားခြင်းမရှိဘဲ ဖြစ်ပေါ် နေကြပြီးလျှင် သတ္တဝါတို့ သေသည့်အချိန်ကျမှ ရပ်နားကြ၏။

ဤနည်းဖြင့် ကျွန်ုပ်တို့သည် သက်ရှိ သတ္တဝါဖြစ်မှုနှုန်းကို မိမိတို့ဟာ မိမိတို့ မသိနိုင်ကြသေး သော အချိန်များနှင့်တကွ ခပ်သိမ်း သော အချိန်များတွင် အသက်ရှင်မှု လှိုင်းတို့သည် ပေါ် ပေါက်ခဲ့ပြီး၊ ပေါ် ပေါက် နေဆဲဖြစ်သည်ကို သတိပြုအပ်၏။ ထိုအသက် ရှင်မှုလှိုင်းတို့သည် ကျွန်ုပ်တို့ အိပ်ပျော် နေစဉ် သို့မဟုတ် သတိ မေ့၍ လဲကျနေစဉ် အခါများတွင်၎င်း၊ ကျွန်ုပ်တို့ နိုးကြား၍ သွားလာလှုပ်ရှား နေကြစဉ် အခါများ တွင်၎င်း၊ အမြဲတန်း ဖြစ်ပေါ် နေကြ၏။ အဆိုပါ လှိုင်းတို့သည် အခါခပ်သိမ်းအချိန် မှန်မှန်၊ ပမာဏ မှန်မှန်ဖြင့် ရှိနေကြသည့်အဖြစ်ကို သတိပြုဖို့ အရေးကြီး၏။

## အချိန်နှင့် ဟင်းလင်းပြင်ဓါတ်အတွင်း နာမ်ဓါတ်၏ ခရီးစဉ်

နောက်ထပ် နားလည်ရန်လိုသော နာမ်ဓါတ်၏ အခြင်းအရာမှာ ထိုနာမ်ဓါတ်၏ တည်နေရာ အတိအကျပင်ဖြစ်၏။ ဤအချက်နှင့် ပတ်သက်၍ နာမ်ဓါတ်လှိုင်းများသည် နေပုံနှင့် ရုပ်ဓါတ်လှိုင်းများသည် နေပုံသို့သည် မတူကြသည့် အကြောင်းကို သဘော ပေါက်ကြဖို့လို၏။ နာမ်ဓါတ်လှိုင်းတို့သည် ရုပ်ဓါတ်လှိုင်းများ ကဲ့သို့ပင် အချိန်နှင့် ဟင်းလင်းပြင်ဓါတ်အတွင်း၌ လှည့်လည် နေကြ၏။ သို့ရာတွင် နာမ်ဓါတ်သည် ဟင်းလင်းပြင်ဓါတ်အတွင်း၌ လှည့်လည်သည့်အခါတွင် ထိုသို့လှည့်လည်ခြင်း နှင့်ပတ်သက်၍ ပတ်ဝန်းကျင်သိမှုအာရုံတို့က သိမြင်နိုင်မည့်လမ်း ကြောင်းများကို ချန်၍ မထားခဲ့ကြ။ အချိန် (ကာလ) အတွင်း၌ နာမ်ဓါတ်လှည့်လည်ပုံမှာ မဟာဘုတ် ဓါတ်များ လှည့်လည်ပုံနှင့် တူ၏။ မည်သည့်အချိန် ကာလ၌မဆို အလွန့်အလွန် သေးငယ် လှသော နာမ်ဓါတ်လှုပ်ရှားမှုလှိုင်း၏ အစိတ်အပိုင်းက လေးဘုသာလျှင် တည်ရှိ၏။ ထိုအစိတ်အပိုင်းက လေးသည် တိကျသော "ပစ္စုပ္ပန်" အချိန်၏ အမှန်းတကက်တွင် မရပ်မနား နေရာ ပြောင်းလွှဲကာ နေ၏။ "ပစ္စုပ္ပန်" အချိန်သည် အမြဲတန်း အပိုင်းအခြားမရှိသော ကျဉ်းကြုံ၍ နေသော အချိန်ဖြစ်၏။

နာမ်ဓါတ်သည် ဟင်းလင်းပြင်ဓါတ်အတွင်း၌ ပြိုင်နက်တည်း လှည့်လည် ၏။ ထိုနည်းတူစွာပင် နာမ်ဓါတ်လှုပ်ရှားမှုလှိုင်းအသီးသီးတို့သည် လည်းပြိုင်နက်တည်း လှည့်လည်ကြ၏။ နာမ်ဓါတ်လှုပ်ရှားမှုလှိုင်းတခုသည် အထိပ်သို့ ရောက်သောအခါ တွင် ထိုလှိုင်းသည် နာမ်ဓါတ်အစုဝိုင်ဝိရာ ကိုယ်ခန္ဓာတခုလုံးအတွင်း၌ အထိပ်သို့ ရောက်၏။ ထိုနည်းတူပင် အသီးသီး သော နာမ်ဓါတ်လှိုင်းတို့သည် အထိပ်မှ အောက် သို့ သက်ကြသောအခါတွင်လည်း ထိုလှိုင်းတို့သည် ကိုယ်ခန္ဓာတခုလုံးအတွင်း၌ အောက် သို့ သက်ကြ၏။

## ရုပ်ဝါဒ၌ သတ္တဝါအတွင်း၌ နာမ်ဝါဒ နေသည့် နေရာ

ရုပ်ဝါဒ၌ သတ္တဝါတို့အတွင်း၌ နာမ်ဝါဒကို ပိုင်ဆိုင်သော ဟင်းလင်းပြင်ဝါဒ အကျယ်အဝန်းမှာ သတ္တဝါအသီးသီးတို့၏ ကိုယ်ခန္ဓာ အကျယ်အဝန်းနှင့် ညီမျှ၏။ ထို့ကြောင့် ကျွန်ုပ်တို့ လူသားများအဖို့ဆိုလျှင် နာမ်ဝါဒသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာ၏ နယ်နိမိတ်အတွင်း၌သာ တည်ရှိ၏။ သို့ရာတွင် ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်း၌မူ နာမ်ဝါဒ မရောက်ပေါက်သော နေရာဟူ၍ အလျှင်းမရှိ။ ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်းရှိ သက်ရှိရုပ်ကလာပ်မှန်သမျှအတွင်း၌ နာမ်ဝါဒသည် ပြည့်လျက်ရှိ၏။ လှုံလျက်ရှိ၏။ ဒိုးယိုပေါက် ဝင်လျက်ရှိ၏။ တင်းကြပ်စွာ သွင်းလျက်ရှိ၏။ ဤကဲ့သို့ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်း၌ တည်ရှိသော နာမ်ဝါဒ လှုပ်ရှားသောအခါတွင် ဃေတုယျအလျင် ခုနှစ်ခုက လှိုင်းများကို ဖြစ်ပေါ်စေကြ၏။ နာမ်ဝါဒသည် တပြိုင်နက်တည်း လှုပ်ရှားလျက် နေသဖြင့် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတခုလုံးကလည်း လိုက်၍ လှုပ်ရှားနေ၏။

ဤနည်းဖြင့် နာမ်ဝါဒလှုပ်ရှားမှုတို့၏ ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်းတို့သည်၎င်း၊ ဃေတုယျနာမ်ဝါဒအလျင် ခုနှစ်ခုသည်၎င်း၊ ထိုအလျင်တို့မှ ဖြစ်ပေါ်လာသော လှိုင်း ၁၇ ခုတို့သည်၎င်း၊ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်း၌သာလျှင် ဖြစ်ပေါ်ကြ၏။ နာမ်ဝါဒ ကြောင့် ဖြစ်ပေါ်သမျှသော လှုပ်ရှားမှုမှန်သမျှသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာ အစိတ်အပိုင်း အကုန်လုံးသို့ တပြိုင်နက်တည်း ရောက်ကြ၏။ ထိုသို့ ရောက်ခြင်း၏ အကျိုးကြောင့် ပြီးခဲ့သည့်အခန်းတွင် ဖော်ပြခဲ့သည့်အတိုင်း ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာ များအတွင်း၌ အသက်ရှင်မှုဝါဒတို့ ပေါ်လာကြခြင်းဖြစ်၏။

## အာရုံခံစားမှုမရှိသော အသက်ရှင်မှု

အသက်ရှင်မှုလှိုင်းများသည်၎င်း၊ အသက်ရှင်မှုဝါဒများသည်၎င်း၊ မိမိတို့ဟာ မိမိတို့ ပကတိအရှိအားဖြင့် ကျွန်ုပ်တို့ အိပ်ပျော်နေသည့်အခါတွင် ဖြစ်တတ်သော၊ ငုတ်လျှိုး နေသော အသက်ရှင်မှုဝါဒကို ထိန်းသိမ်းထားနိုင်ခြင်းမှတပါး အခြားမည်သည့်တာဝန်များကိုမျှ မဆောင်ရွက်ကြ။ ထိုကဲ့သို့ ငုတ်လျှိုးနေသော အသက်ရှင်မှုဝါဒတို့တွင် သိမြင်နိုင်သော အာရုံခံမှုများကို မတွေ့ရ။ အသက်ရှင်မှုဝါဒ ဆိုသည်မှာ ထိုကဲ့သို့သာလျှင်ဖြစ်ပါမူ ကျွန်ုပ်တို့သည် မည်သည့်အခါတွင်မျှ ကျွန်ုပ်တို့ အကယ်အသက်ရှင်၍ နေသည့်အဖြစ်ကို သိနိုင်ကြလိမ့်မည် မဟုတ်။

အထက်တွင် ဖော်ပြခဲ့သော ငုတ်လျှိုးနေသော အသက်ရှင်မှုအမျိုးမျိုးတွင် အသက်ရှင်မှုဓါတ်သည် အပြည့်အဝ ရှိနေသော်လည်း ကျွန်ုပ်တို့ စကြာဝဠာသား ရုပ်ရှိသတ္တဝါတို့ အလိုရှိကြ နားလည်ကြသော အသက်ရှင်မှုမျိုးမှာ အာရုံခံစားမှုများရှိသော အာရုံသိမှုအင်္ဂါများရှိသော အသက်ရှင်မှုမျိုးသာဖြစ်၏။

## အာရုံခံစားမှုတို့ဖြစ်ပေါ်ပုံ

အာရုံသိမှုအင်္ဂါတို့သည် မိမိတို့ဟာ မိမိတို့ ပကတိအားဖြင့် အာရုံများကို ခံစားနိုင်ကြသည်မဟုတ်။ ၎င်းတို့သည် နာမ်ဓါတ်၏ အကူအညီကို ရကြမှသာလျှင် အာရုံကို ခံစားနိုင်ကြ၏။ ဥဒါဟရုဏ်ဆိုသော် အကယ်၍ ကျွန်ုပ်တို့၏ နာမ်ဓါတ်က အကူအညီမပေးလျှင် အာရုံသိမှုအင်္ဂါတို့သည် ဘာကိုမျှ မလုပ်နိုင်ကြ။ သို့ရာတွင် နာမ်ဓါတ်က အသက်ရှင်မှုလှိုင်းများ ဖြစ်ပေါ်နိုင်လောက်သော အင်အားဖြင့် လှုပ်ရှားမှုကို ပြုသည်နှင့် တပြိုင်နက် အာရုံသိမှုအင်္ဂါတို့သည် မိမိတို့သက်ဆိုင်ရာ တာဝန်တို့ကို ဆောင်ရွက်နိုင်စွမ်းရှိလာကြ၏။ ထို့ကြောင့် နာမ်ဓါတ်သည် အာရုံသိမှုအင်္ဂါတို့အား လိုအပ်သော အကူအညီပေးရန် အကြောင်းပေါ်လာသည်နှင့် တပြိုင်နက် နောက်ထပ်အင်အားများကို ထုတ်ပြီးလျှင် အင်အားကောင်းသော လှိုင်းများကို ဖြစ်ပေါ်စေ၏။ အဆိုပါ နောက်ထပ်အင်အားများနှင့် လှိုင်းများ၏ အခြင်းအရာများနှင့် ပြုမူပုံတို့ကို ခွဲခြမ်းစိတ်ဖြာ၍ ကြည့်သောအခါမှသာလျှင် ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်း၌ အာရုံခံစားမှု အသီးသီးတို့သည် မည်သည့်အကြောင်းကြောင့် မည်ကဲ့သို့ ပေါ်လာကြသည်ကို သိနိုင်၏။

ယေဘုယျအလျင် ခုနှစ်ခုတို့သည် သတ္တဝါတို့အား ငုတ်လျှိုးနေသော အသက်ရှင်မှုဓါတ်ကို ထိန်းသိမ်းပေးတတ်သော အသက်ရှင်မှုလှိုင်းများဖြစ်ပေါ်စေနိုင်ရုံ လောက်သာ အင်အားရှိသော်လည်း၊ ကိုယ်ခန္ဓာ ဟခုပုံးကို အမြဲစောင့်ရှောက် ကြည့်ရှုနေ၏။ ယေဘုယျအလျင် ခုနှစ်ခုတို့သည် ကိုယ်ခန္ဓာ ဟခုပုံး၌ ပျံ့နှံ့၍ နေကြပြီးလျှင် ပကတိအားဖြင့် အလွန်လျှင် သိမ်မွေ့နူးညံ့၏။ ထိုအလျင်တို့သည် အာရုံသိမှု အင်္ဂါများအတွင်း၌ အထူးပင် သိမ်မွေ့နူးညံ့၏။ အာရုံသိမှု အင်္ဂါများတွင် အသက်ရှင်မှုဓါတ်များကို ဆုံရာဖြစ်သော အခန်းတွင် ဖော်ပြခဲ့သည့် အတိုင်းပင် အလွန့်အလွန်သိမ်မွေ့နူးညံ့သော အာရုံပြန်မှုဓါတ်များရှိကြသဖြင့် သက်ဆိုင်ရာ အာရုံသိမှုအင်္ဂါတို့၏ အာရုံပို့မှုဓါတ်များသည် ထိုအာရုံပြန်မှုဓါတ်များပေါ်သို့ ကျရောက်သောအခါတွင် အဆိုပါ အာရုံသိမှုအင်္ဂါများအတွင်း၌ရှိသော ယေဘုယျအလျင်တို့သည် သိမ်မွေ့နူးညံ့၍ လာကြပြီးလျှင် ပို၍ ထထကြွကြွ ရှိလာကြ၏။

## ယေဘုယျ အလျှင်တို့ ပိုး၍ ထထကြွကြွရှိလာပုံ

အထက်တွင် ဖေါ်ပြသကဲ့သို့ ပိုး၍ ထထကြွကြွရှိလာကြသောအခါတွင် ယေဘုယျ အလျှင်တို့က နောက်ထပ်အလျှင် ခြောက်ခုကို မိမိတို့သက်ဆိုင်ရာ အာရုံသိမှုအင်္ဂါများ အတွင်းသို့ အတင်းအကြပ် သွတ်သွင်း၍ ပေးကြ၏။ စင်စစ်ဆိုသော် အဆိုပါ နောက်ထပ်အလျှင် ခြောက်ခုသည် ယေဘုယျအလျှင် ခုနစ်ခုမှ တဆင့်ပွားလာသော အလျှင်များသာဖြစ်ကြ၏။ ထိုအလျှင် ခြောက်ခု၏ အကူအညီနှင့် ထိုအလျှင် ခြောက်ခုက ဖြည့်၍ ပေးသော အင်အားကြောင့် သက်ဆိုင်ရာ အာရုံသိမှုအင်္ဂါများအတွင်း၌ နာမ်ဓါတ်လှိုင်းအင်အားသည် တိုး၍လာ၏။ ထိုသို့ လှိုင်းအင်အား တိုး၍လာခြင်းမှာ သက်ဆိုင်ရာ အင်္ဂါအတွင်း၌သာလျှင် ဖြစ်ပြီးလျှင် ကိုယ်ခန္ဓာ၏ အခြားအစိတ်အပိုင်းများ၌မူကား ထိုလှိုင်းတို့သည် ငုတ်လျှိုးမြဲ ငုတ်လျှိုး၍သာ နေကြသည်ကို အထူးဂရုပြု၍ မှတ်အပ်၏။

အဆိုပါလှိုင်းတို့ အင်အားတိုးတက်လာခြင်းသည် နာမ်ဓါတ်တခါလှုပ်အတွင်း၌ ဖြစ်ပေါ်သမျှသော လှိုင်းများဆီသို့မရောက်ကြ။ ထိုလှိုင်းတို့၏ အင်အားသည် တဆင့်ချင်း တဆင့်ချင်း တိုးတက်လာပြီးလျှင် တမဟုတ်ချင်း ပြန်၍ကျသွားကြ၏။ ထိုလှိုင်းများ အနက် နာမ်ဓါတ်လှုပ်ရှားမှုနေရာနှင့် နီးစပ်သော လှိုင်းအနည်းငယ်ကသာလျှင် အာရုံပြန်မှုကို ခံယူနိုင်လောက်အောင် အင်အား ကောင်းကြ၏။ နာမ်ဓါတ်တခါလှုပ်အတွင်း၌ အာရုံသိမှုအာရုံဆီသို့ ရောက်သွားကြသော လှိုင်း ၁၇ ခုတို့သည် တခုနှင့်တခု အင်အားဖြစ်ပေါ်ပုံခြင်း မတူကြ။ အချို့မှာ အင်အားဖြစ်ပေါ်ခါစ အခြေအနေ၌ ရှိ၍ အချို့မှာ အင်အားအများဆုံး အခြေအနေ၌ ရှိကြပြီးလျှင်၊ နောက်ဆုံးလှိုင်းနှစ်လှိုင်းမှာ အင်အားဆုတ်ယုတ်လာသည့် အခြေအနေ၌ ရှိကြ၏။

## ထိတွေ့မှုလှိုင်းတို့ တဆင့်တဆင့် ဖြစ်ပေါ်လာပုံ

လှိုင်း ၁၇ ခုအနက်မှ ပထမ လှိုင်း၏ အင်အားသည် အသက်ရှင်မှုလှိုင်း၏ အင်အားနှင့် ညီမျှ၏။ ဒုတိယ လှိုင်းကစ၍ အင်အားတိုး၍လာ၏။ ဒုတိယ လှိုင်းက အသက်ရှင်မှုလှိုင်းကို လှုပ်ရှား ပေး၏။ ထို့ကြောင့် ထိုလှိုင်းကို လှုပ်ရှားပေးမှုလှိုင်း (ဘဝင်္ဂစလန) ဟု ခေါ်၏။ တတိယ လှိုင်းက လှိုင်း၏ မှန်တန်း အစဉ်ကို အကယ်စ၍ သွေဖီစေ၏။ ထို့ကြောင့် ထိုလှိုင်းကို သွေဖီစေမှုလှိုင်း (ဘဝင်္ဂုပစ္ဆေဒ) ဟု ခေါ်၏။ အဆိုပါ လှိုင်းသုံးခုက အောက်ပါ လှိုင်းများအား အဓိက လှုပ်ရှားမှုကို ဖြစ်စေ၏။

စတုတ္ထလှိုင်း ---- အဝဇ္ဇန (သွင်ငင်မှုလှိုင်း)။

ပဉ္စမလှိုင်း ---- ဝိညာဏ (သိမှုလှိုင်း)။

ဆဋ္ဌမလှိုင်း ---- သမ္ပတိဆန (ပြဋ္ဌာန်းမှုလှိုင်း)။

သတ္တမလှိုင်း ---- သန္တီရန (ဆုံးဖြတ်မှုလှိုင်း)။

အဋ္ဌမလှိုင်း ---- ဝေါထပန (ထိတွေ့မှုလှိုင်း)။

စတုတ္ထလှိုင်းက အာရုံပြန်မှုဓါတ်ကို သွင်ငင်၍ နာမ်ဓါတ် အရာဝတ္ထုဆီသို့ လှည့်ပေးပြီးလျှင် အာရုံပို့မှုဓါတ်ကို ခံယူရန် မိမိ၏ အဖုံးကို ဖွင့်ပေး၏။ ပဉ္စမဖြစ်သော သိမှုလှိုင်း(ဝိညာဏ)သို့ ရောက်သောအခါ နာမ်ဓါတ်သည် အာရုံပို့မှုဓါတ်ရှိသည်ကို စ၍သိလာ၏။ ထို့နောက် ဆဋ္ဌမဖြစ်သော ပြဋ္ဌာန်းမှုလှိုင်း(သမ္ပတိဆန)နှင့် သတ္တမဖြစ်သော ဆုံးဖြတ်မှုလှိုင်း(သန္တီရန)တို့က နောက်မှလိုက်လာကြ၏။ အဋ္ဌမဖြစ်သော ထိတွေ့မှုလှိုင်း(ဝေါထပန)သို့ရောက်သောအခါ နာမ်ဓါတ်က ရှိနေသော အာရုံပို့မှုဓါတ်မှ အာရုံပြန်မှုဓါတ်ကို ခံယူ၏။

## ထပ်တလဲလဲပေါ် နာမ်ဓါတ်လှိုင်းများနှင့် နောက်ဆုတ် နာမ်ဓါတ်လှိုင်းများ

အဋ္ဌမဖြစ်သော ထိတွေ့မှုလှိုင်းဖြင့် အမြဲသော နာမ်ဓါတ်ဆီသို့ ရောက်လာသော အာရုံပြန်မှုဓါတ်တို့သည် ထိုလှိုင်း၏ နောက်မှ လိုက်ပါလာသော လှိုင်းခုနှစ်လှိုင်းတွင်လည်း ဖြစ်ပေါ်ကြ၏။ အဘယ့်ကြောင့်ဆိုသော် ထိုလှိုင်းတို့က ထိတွေ့မှုလှိုင်းနှင့် အင်အားချင်းညီမျှသော လှိုင်းတို့ကို နောက်ထပ်ဖြစ်ပေါ်စေကြသောကြောင့်ဖြစ်၏။ ထိုလှိုင်းတို့ကို လွယ်ကူပြောင်း အကျိုးငှါ ထပ်တလဲလဲ လှိုင်းများ (ဇဝန)ဟု ခေါ်၏။ သို့ရာတွင် ထိုလှိုင်းတို့မှာ ထိတွေ့မှုလှိုင်းများသာလျှင် ဖြစ်ကြ၏။ ၁၅ ကြိမ်မြောက်လှိုင်းသည် ယပ်ဖြပ်လှိုင်းဖြစ်၏။ ထိုလှိုင်းပြီးဆုံးသည့်အချိန်တွင် နာမ်ဓါတ်လှုပ်ရှားမှု၏ဘဝသည် ကုန်ဆုံးခြင်းသို့ ရောက်၏။ ထို့ကြောင့် ၁၆ ကြိမ်မြောက်လှိုင်းသို့ ရောက်သောအခါ ထိုလှိုင်း၏ ထပ်ဖြစ်အာရုံပြန်မှုအင်အားသည် အလွန်ပြော့လျော့လာ၏။ ဤနည်းဖြင့် ၁၆ ကြိမ်မြောက်လှိုင်းသည် ကျသင်းစ ပြု၏။ ထိုကျသင်းမှု အရှိန်သည် ၁၇ ကြိမ်မြောက်လှိုင်းသို့ထိအောင် ဆက်လက်၍သွားပြီးလျှင် နောက်ဆုံးတွင် နာမ်ဓါတ်၏ လှုပ်ရှားမှုသည် ပြတ်၍သွား၏။ ထို့နောက် နာမ်ဓါတ်၏ လှုပ်ရှားမှုသည် အသစ်တဖန် ပေါ်လာပြီးလျှင် လှိုင်းသစ်များကို ဖြစ်ပေါ်စေပြန်၏။

## ထပ်ဖြည့်အလျှင်များ

အာရုံသိမှု အင်္ဂါများတွင် အာရုံပြန်မှုလှိုင်းများဖြစ်ပေါ်ခြင်းမှာ ယေဘုယျအလျှင်ခုနှမ်ခု၏ အင်အားကို ဘိုးတက်အောင် ကူညီပေးရန် ပေါ်လာသော ဖြည့်စွက်မှုအလျှင် ခြောက်ခုတို့ကြောင့်ဖြစ်၏။ ဤအလျှင် ခြောက်ခုတို့ ပေါ်လာခြင်းအကြောင်းမှာ ယေဘုယျအလျှင်တို့အား အင်အားထပ်၍ ဖြည့်စွက်ပေးရန် ဖြစ်ပြီးလျှင် ထိုအလျှင် ခြောက်ခုမပ္ပါခဲ့လျှင် အာရုံသိမှုအင်္ဂါများ၌ အာရုံပြန်မှုလှိုင်းများဖြစ်ပေါ်နိုင်မည် မဟုတ်သဖြင့် ထိုအလျှင်ခြောက်ခုတို့၏ တာဝန်များကိုလည်း သတ်မှတ်ထား၏။

ဖြည့်စွက်မှုအလျှင်ခြောက်ခု (ပကိန္နက)တို့သည် ယေဘုယျအလျှင် ခုနှစ်ခုနှင့် ရောယှက်ကြပြီးလျှင် မိမိတို့နှင့် သက်ဆိုင်ရာ အာရုံသိမှုအင်္ဂါများတွင် အင်အားများကို ဖြည့်စွက်၍ ပေးကြ၏။ ဤနည်းဖြင့် သက်ဆိုင်ရာ အင်္ဂါ၌ နာမ်ဓါတ်အား အာရုံပြန်မှုဓါတ်များကို ခံယူနိုင်ရန် ကူညီပေးကြ၏။ အဆိုပါ ဖြည့်စွက်မှုအလျှင် အသီးသီးတို့တွင် ယေဘုယျအလျှင်များမှကဲ့သို့ပင် မိမိတို့နှင့် သက်ဆိုင်ရာ အထူးတာဝန်များ ရှိကြ၏။ ထိုတာဝန်များ၏ သဘောအကျဉ်းချုပ်မှာ အောက်ပါအတိုင်း ဖြစ်၏။

(၁) ကြံစီမှုအလျှင်ငယ် (ဝိတက္က) က နာမ်ဓါတ်အား ရှိနေသော အာရုံပို့မှုဓါတ်များကို သိနိုင်စေရန် လှုံ့ဆော်ပေး၏။

(၂) စစ်ဆေးမှုအလျှင်ငယ် (ဝိစာရ) က နာမ်ဓါတ်အား ရှိနေသော အာရုံပို့မှုဓါတ်များကို စုံစမ်းကြည့်ရန် လှုံ့ဆော်ပေး၏။

(၃) ပြဌာန်းမှုအလျှင်ငယ် (အဓိမောက္ခ) က နာမ်ဓါတ်အား အာရုံပို့မှုဓါတ်များကို စစ်ဆေးရာတွင် မပျက်ကွက်စေရန် လှုံ့ဆော်ပေး၏။

(၄) ကြိုးပမ်းမှုအလျှင်ငယ် (ဝိရိယ) က နာမ်ဓါတ်အား အာရုံပို့မှုဓါတ်များကို စစ်ဆေးရန်အတွက် လိုအပ်သော အင်အားစုဆောင်းနိုင်စေရန် လှုံ့ဆော်ပေး၏။

(၅) ချမ်းသာမှုအလျှင်ငယ် (ပီတိ) က နာမ်ဓါတ်အားဆက်လက် ပြဌာန်းမှုနှင့်အားထုတ်မှုများအတွက် အလိုရှိသော အချက်များကို ထောက်ပံ့၏။ ဤနည်းဖြင့် နာမ်ဓါတ်အား နောက်ထပ်ဖြည့်စွက်မှုအလျှင်များဖြစ်ပေါ်စေနိုင်ရန် အားသွန်မှုကိုဖြစ်စေ၏။

(၆) သဘောတူမှုအလျှင်ငယ် (ဆန္ဒ) က နာစီပါတ်အား
အရှိန်လွှတ်မှုပါတ်များမှ ဖြစ်ပေါ်လာသော အရှိန်ပြန်မှု
များကို လက်ခံဝေရန် လှုံ့ဆော်ပေး၏။

အဆိုပါ အလျှင်ငယ် ခြောက်ခု၏ တာဝန်များမှာ နာစီပါတ်လှုပ်ရှားသည့်အခါတွင် ဖြစ်ပေါ်သော အင်အားကြီးသည့် ပထမလှိုင်း ခြောက်ခုနှင့်တူသည်ကို မှတ်သားအပ်၏။ ထိုအလျှင် ခြောက်ခုတို့သည် အထက်တွင် ဖော်ပြခဲ့သော အစဉ်အတိုင်း ဖြစ်ပေါ်ကြ၏။ ထိုအလျှင်များ၏ လှုပ်ရှားထကြွမှုကြောင့် အင်အားကြီးသော အာရုံပြန်မှုပါတ်တို့သည် အစဉ်အတိုင်းဖြစ်ပေါ်လာကြ၏။ ထိုအလျှင်တို့သည် ထိတွေ့မှုလှိုင်းနှင့် တွေ့ကြသည်နှင့်တပြိုင်နက် မိမိတို့၏ အင်အားကို အပြီးကုန်လွှတ်ပေးကြ၏။ ထိုသို့လွှတ်ပေးလိုက်သော အင်အားတို့သည် ထပ်ဆင့်လှိုင်းအားလုံးသို့ ရောက်အောင် ဆက်လက်၍ သွားကြ၏။ ထိုအလျှင်တို့သည် နောက်ဆုံးလှိုင်းနှစ်ခုသို့ ရောက်သောအခါ ကျဆင်းကြပြီးလျှင် နာစီပါတ်လှုပ်ရှားမှုနှင့် အတူတကွ ပျောက်ကွယ်သွားကြ၏။

<u>နာစီပါတ်တခါလှုပ်အတွင်းရှိ အာရုံပြန်မှုလှိုင်းများ</u>

ဤအကြောင်းအရာကို ပိုမိုပြည့်စုံစွာ သိနိုင်စေခြင်းအကျိုးငှါ နာစီပါတ်၏ ငုတ်လျှိုးနေသော လှုပ်ရှားမှုပုံကို ကြမ်းချ၍ ပြပေအံ့။ သို့ရာတွင် အောက်ပါပုံစံတွင် ဖော်ပြမည့် နာစီပါတ်လှုပ်ရှားမှုလှိုင်းများနှင့် နာစီပါတ်အလျှင်တို့မှာ အမှတ်သညာများ သက်သက်သာဖြစ်သည်ကို ကောင်းစွာနားလည်အပ်၏။ ထိုအမှတ်သညာများကို အထက်ပါ အထင်အမြင်မှားမှုများမှ ကင်းရှင်းစွာ လေ့လာအပ်၏။

---

ကာလအပိုင်းအခြားမရှိသော အတိတ်

မွေးချိန် ——————

၁။ အသက်ရှင်မှုလှိုင်း ( ) ) ) ) ) ) )

၂။ လှုပ်ရှားမှုလှိုင်း ( ) ) ) ) ) ) ) — အဦးယာမ်

၃။ သွေးဖိမှုလှိုင်း ( ) ) ) ) ) ) )

၄။ ဆွဲငင်မှုလှိုင်း ( ) ) ) ) ) ) ) ) )

၅။ သိမှုလှိုင်း ( ) ) ) ) ) ) ) ) ) ) )

၆။ ပြဋ္ဌာန်းမှုလှိုင်း ( ) ) ) ) ) ) ) ) ) ) ) )

၇။ ဆုံးဖြတ်မှုလှိုင်း ( ) ) ) ) ) ) ) ) ) ) ) )

၈။ ထိတွေ့မှုလှိုင်း ( ) ) ) ) ) ) ) ) ) ) ) ) ) ) — ပစ္စုပ္ပန်

၉။ ထပ်ဆင့်လှိုင်း ( ) ) ) ) ) ) ) ) ) ) ) ) ) ) — (ဘည်ခြင်းခဏ)

၁၀။ ၄င်း ( ) ) ) ) ) ) ) ) ) ) ) ) ) )

၁၁။ ၄င်း ( ) ) ) ) ) ) ) ) ) ) ) ) ) ) — အလယ်ယာမ်

၁၂။ ၄င်း ( ) ) ) ) ) ) ) ) ) ) ) ) ) )

၁၃။ ၄င်း ( ) ) ) ) ) ) ) ) ) ) ) ) ) )

၁၄။ ၄င်း ( ) ) ) ) ) ) ) ) ) ) ) ) ) )

၁၅။ ၄င်း ( ) ) ) ) ) ) ) ) ) ) ) ) ) )

၁၆။ နောက်ဆုတ်လှိုင်း ( ) ) ) ) ) ) ) ) — အဆုံးယာမ်

၁၇။ ၄င်း ( ) ) ) ) ) ) )

သေချိန် ——————

ကာလအပိုင်းအခြားမရှိသော အနာဂတ်

---

အသက်ရှင်မှုဖြစ်ပုံ၊ အာရုံဖြင့်ပုံနှင့် ကြိုဝိမှုဖြစ်ပုံများကို နားလည်နိုင်ရန်အတွက် နာမ်ဓါတ်လှုပ်ရှားတိုင်း လှုပ်ရှားတိုင်းဖြစ်ပေါ်သော လှိုင်း ၁၇ ခုတို့၏ အစိတ အခြင်းအရာများကို သဘောပေါက်ဖို့လို၏။ ကိုယ်ခန္ဓာဘို့အတွင်း၌ အသက်ရှင်မှုဖြစ်ပေါ်ရန်အတွက် နာမ်ဓါတ်လှုပ်ရှားမှုမှ ဖြစ်ပေါ်လာသော အသက်ရှင်မှုလှိုင်းများဖြင့် လုံလောက်သည်ကို အထူးသဖြင့် မှတ်အပ်၏။ သို့ရာတွင်

အာရုံများနှင့် ကြံစီမှုများဖြင့် ပေါ်လာနိုင်ပေရန်အတွက်ကား အင်အား ကောင်းသော အာရုံပြန်မှုလှိုင်းများ ဖြင့် ပေါ်စေဘို့ လို၏။

## မဝင်ကြယ်မှုများနှင့် ဝင်ကြယ်မှုများ

နာမ်ပါတ်အတွင်း၌ မဝင်ကြယ်သော ပွဲလမ်းချက်များနှင့် ဝင်ကြယ်သော ပွဲလမ်းချက်များ ရော၍နေ၏။ အဆိုပါ ပွဲလမ်းချက်တို့၏ အမျိုးအစားမှာ အမျိုးမျိုးရှိပြီးလျှင် ၎င်းတို့က နာမ်ပါတ်ကို နှပ်နည်းနှင့်လမ်း ထိန်းကိုက်ပေကြ၏။ မဝင်ကြယ်သော ပွဲလမ်းချက်တို့သည် နာမ်၏ အရောင်ကို မှိန်စေ၏။ ဝင်ကြယ်သော ပွဲလမ်းချက်တို့က နာမ်ပါတ်၏ အရောင်ကို ထွန်းလင်းတောက်ပစေ၏။

သတ္တဝါအားလုံး၏ နာမ်ပါတ်များထဲတွင် မဝင်ကြယ်သော ပွဲလမ်းချက်များရော၊ ဝင်ကြယ်သော ပွဲလမ်းချက်များပါရှိကြ၏။ ယေဘုယျလူသားတို့၏ နာမ်ပါတ်များအတွင်း၌ရှိသော မဝင်ကြယ်သော ပွဲလမ်းချက်တို့က အသက်ရှင်မှုလှိုင်း အားလုံးကို ဖုံးအုပ်ထားကြသဖြင့် နာမ်ပါတ်တို့၏ ထွန်းလင်းတောက်ပခြင်းအားလုံး တို့သည် ပျောက်ကွယ်၍ နေကြ၏။

ယေဘုယျအားဖြင့် နာမ်ပါတ်တို့အတွင်း၌ ဝင်ကြယ်မှုများကို မဝင်ကြယ်မှုများက ဖုံးအုပ်၍ နေကြ၏။ ထို့ကြောင့် လူသားတို့၏ နာမ်ပါတ်အတွင်း၌ ရှိလေသမျှသော ဝင်ကြယ်မှုတို့သည် မဝင်ကြယ်မှု မှောင်ရိပ်များ ဖုံးအုပ်ခြင်းခံရကာ နာမ်ပါတ်၏ အလည်ခေါင်တွင် ဖုံးကွယ်၍ နေကြ၏။ မဝင်ကြယ်မှု မှောင်ရိပ်များသည် ဝင်ကြယ်သော နာမ်ပါတ်၏ ထကြွမှုကို ပိတ်ပင်ထားကြ၏။ အာရုံပြန်မှု လှိုင်းတို့က မဝင်ကြယ်မှုတို့ကို ယာယီအားဖြင့် ပယ်ရှားပေး၏။ ဤနည်းဖြင့် နာမ်ပါတ်၏ အလည်သားသည် အပေါ်ယံသို့ ဘာဏဘာဝ ပေါက်ပြူလာနိုင်၏။

## မဝင်ကြယ်မှုတို့၏ အကျိုးသက်များ

မဝင်ကြယ်မှုပမာဏ အကြီးအသေးမှာ သတ္တဝါတခုနှင့်တခု မတူကြ။ တိရိစ္ဆာန်ကဲ့သို့သော အောက်တန်းစားသတ္တဝါများ၏ မဝင်ကြယ်မှု အထုအထည်မှာ ကြီးမား၍ ယေဘုယျ လူသားတို့၏ မဝင်ကြယ်မှု အထုအထည်မှာ အလွန်ပင် သေးငယ်၏။ လူတို့၏ နာမ်ပါတ်တွင် မဝင်ကြယ်မှုက နည်း၍ ဝင်ကြယ်မှုက များ၏။

ထို့ကြောင့် နာမ်ပါတ်လှိုင်းတို့က နာမ်ပါတ်၏ အတွင်းသားကို လွယ်ကူစွာနှင့် လျှင်မြန်စွာ ထုတ်ဖော် ပေးနိုင်၏။ အောက်တန်းစားသတ္တဝါတို့အဖို့တွင် ထိုကဲ့သို့ ထုတ်ဖော် ပေးနိုင်ရန် နှေးကန်၍ခဲယဉ်း၏။ အဘယ့်ကြောင့်ဆိုသော် ထိုသတ္တဝါတို့၏ နာမ်ဓါတ်အတွင်းသားက ဖေါက်ထွင်းသွားရမည့် မစင်ကြယ်မှုမှောင်ရိပ်တို့မှာ ထူထပ်လှသဖြင့် အလွယ်တကူနှင့် ဖေါက်ထွင်းရန် ခဲယဉ်းသောကြောင့် ဖြစ်၏။

လူသားတို့၏ နာမ်ဓါတ်အတွင်း၌ရှိသော မစင်ကြယ်မှုအမှောင်ရိပ်ထုထည်တို့သည်ပင် ခြားနားခြင်းရှိ၏။ သို့ရာတွင် အကြီးဆုံးထုထည်နှင့် အသေးဆုံးထုထည်တို့၏ ခြားနားခြင်းမှာ သေးငယ်လှသဖြင့် ခြားနားခြင်း အလျှင်းမရှိဟု ဆိုနိုင်လောက်အောင်ပင် ဖြစ်၏။

သတိရှိသူနှင့် မိုက်မဲသူ၊ ပညာရှိသူနှင့် ပညာမရှိသူ၊ ပညာချွန်သူနှင့် တွေဝေသူတို့ ရှိသည်ဟု ဆိုကိုင်ခွင့်ရှိသည်ဖြင့်ပါမူ ထိုသူတို့ ၁ယောက်နှင့်၁ယောက် ခြားနားကြခြင်းမှာ ၎င်းတို့၏ နာမ်ဓါတ်အတွင်း၌ မစင်ကြယ်မှုမှောင်ရိပ်နည်းခြင်းများခြင်း ကြောင့်ဖြစ်၏။ သတိရှိသူ၊ ပညာရှိသူ၊ ပညာချွန်သူတို့၏ နာမ်ဓါတ်တွင် မစင်ကြယ်မှုအနည်းငယ်သာ ရှိ၏။ ထို့ကြောင့် ထိုသူတို့၏ မစင်ကြယ်မှုကို လျှင်မြန်စွာ ပျောက်ကွယ်၍သွားစေသဖြင့် ထိုသူတို့ နာမ်ဓါတ်၏ အတွင်းသားသည် လွယ်ကူစွာနှင့် ပေါ်ထွက်လာနိုင်၏။ သို့ရာတွင် မိုက်မဲသူ၊ ပညာမရှိသူ၊ တွေဝေသူတို့ နာမ်ဓါတ်၏အတွင်းသားမှာ ထူထပ်သော မစင်ကြယ်မှုအလွှာများဖြင့် ဖုံးအုပ်၍ နေ၏။ ထို့ကြောင့် ထိုမစင်ကြယ်မှုအလွှာများကို လွယ်လင့်တကူနှင့် ဖယ်ရှားပစ်၍ မရနိုင်သဖြင့် ထိုသူတို့ နာမ်ဓါတ်၏ အတွင်းသားသည် လျှင်မြန်စွာ ပေါ်ထွက်လာနိုင်ခွင်းမရှိ။

အရုပ်ကားတချပ်ကို လူနှစ်ယောက်ကြည့်ကြမည်ဆိုလျှင် တယောက်သောသူက ကျန်တယောက်သောသူထက် ထိုအရုပ်ကား၏ အစိတ်အပိုင်းတခုကို ပို၍မြင်လိမ့်မည်ဖြစ်၏။ ထိုနည်းတူစွာပင် စာအုပ်တအုပ်ကို လူနှစ်ယောက် ဖတ်ကြရာတွင် တယောက်သောသူက ကျန်တယောက်သောသူထက် ပို၍ နားလည်လိမ့်မည်ဖြစ်၏။ ထိုကဲ့သို့ တယောက်နှင့်တယောက် ခြားနားမှုရှိခြင်းမှာ မစင်ကြယ်မှုမှောင်ရိပ် အရှ~~ထင်း~~ချင်း မတူကြခြင်း ကြောင့်ဖြစ်၏။

## စင်ကြယ်သော နာမ်ဓါတ်ကို မစင်ကြယ်မှုများက ဖုံးအုပ်ထားခြင်း

နာမ်ဓါတ်သုတ်သင်ရှင်းမှုမှ ဖြစ်ပေါ်လာသော အသက်ရှင်မှုလှိုင်းများအတွင်း၌ မစင်ကြယ်မှု မှောင်ရိပ်တို့သည် အပေါ်ယံသို့ ပု၍ လာကြ၏။ ထို့ကြောင့် စင်ကြယ်သော နာမ်ဓါတ်သည် မစင်ကြယ်သော မှောင်ရိပ်အတွင်း၌ ဖုံးကွယ်နေ၏။ စင်ကြယ်သော နာမ်ဓါတ်သည်သာလျှင် အာရုံပြန်မှုများကို ခံယူနိုင်စွမ်းရှိ၏။ စင်ကြယ်သော နာမ်ဓါတ်သည် မစင်ကြယ်မှုများဖြင့် ဖုံးကွယ်၍နေသောအခါတွင် အာရုံသိမှုအင်္ဂါတို့သည် အလုပ်ပလုပ်နိုင်ကြ။ အာရုံသိမှုအင်္ဂါတို့၏ အထောက်အပံ့ကို မရသည်ဖြစ်မူ နာမ်ဓါတ်သည် ကြီစိုးမှု၊ အာရုံခံစားမှု စသည်တို့ကို အလျင်းဖြစ်ပေနိုင်လိမ့်မည်မဟုတ်။

သို့ရာတွင် ယေဘုယျနာမ်ဓါတ်အလျင် အမျှင်ကလေးများသည် အသက်ရှင်မှုလှိုင်းများကို ဖြစ်ပေါ်စေသည့်ပြင် အာရုံသိမှုအင်္ဂါများဆီသို့လည်း အမြဲ ဘန်းသွားလျက် ရှိကြ၏။ ထိုအမျှင်ကလေးများသည် အလွန်လျင်မြန်သိမ်မွေ့နူးညံ့လှသဖြင့် ဖြည့်ဖွက်လှိုင်းခြောက်ခုကိုလည်း ယိုယွင်းစေနိုင်၏။ ပြီးလျှင် သိသာနိုင်လောက်သော အာရုံပို့မှုဓါတ်တခုခုရှိသည်ကို တွေ့သည်နှင့်တပြိုင်နက် နောက်ထပ် အင်အားများကိုလည်း ဖြစ်ပေါ်စေကြ၏။

### အတွင်းနာမ်ဓါတ်ကို ထုတ်ဖေါ်မှု

နောက်ထပ် အလျင်ခြောက်ခု၏ ဘာဝနာမှာ မစင်ကြယ်မှု စုဝေး၍ နေရာ အတွင်းနာမ်ဓါတ်ကို ဖုံးအုပ်၍ နေသော မစင်ကြယ်မှုမှောင်ရိပ်များကို ဖယ်ရှားပေးရန်ဖြစ်၏။ အသီးသီးသော အလျင်တို့က မိမိတို့ သက်ဆိုင်ရာ အစဉ်အတိုင်း မစင်ကြယ်မှု မှောင်ရိပ်တို့ကို ဖယ်ရှား၍ ပေးပြီးလျှင် စင်ကြယ်သော လှိုင်းတို့ကို ဖြစ်ပေါ်စေ၏။ အဆိုပါ အလျင်ခြောက်ခုတို့သည် တခုပြီးတခု အလှည့်ကျ နာမ်ဓါတ်ကို ဖုံးအုပ်နေသော မစင်ကြယ်မှု အပေအနတို့ကို ဖယ်ရှားပေးကြပြီးလျှင် ထိတွေ့မှုအဆင့်သို့ ရောက်သောအခါတွင် အင်အားကြီးမားသော အတွင်းနာမ်ဓါတ်သည် ပေါ်ထွက်လာ၏။ ထပ်ဆင့် လှိုင်းခုနှစ်ခုဖြစ်ပေါ် နေသမျှ ကာလပတ်လုံး နာမ်ဓါတ်သည် ထွက်ပေါ်၍ နေ၏။ ဤနည်းဖြင့်အတွင်းနာမ်ဓါတ်သည် သေးငယ်သော အမျှင်ကလေးရှစ်ခုကြောင့် မိမိ၏ မျက်မှောက်တွင်ရှိသော အာရုံပို့မှုဓါတ်ကို ထင်စေ၏။

နာမ်ဓါတ်လှုပ်ရှားပြီးဆုံးခါနီး အဆုံးယာမ်သို့ ရောက်သောအခါတွင် ထပ်ပြည့်အလျှင် ခြောက်ခု၏ အင်အားသည် ပြိုပျက်၍သွား၏။ ထိုအခါတွင် လှိုင်းတို့သည် နောက်သို့ ဆုတ်ကြ၍ မဝင်ကြယ်မှု မှောင်ရိပ်တို့သည် ပြန်လာကြပြီးလျှင် အတွင်း နာမ်ဓါတ်ကို အကြွင်းမဲ့ ဖုံးအုပ်ကြပြန်၏။

## အမျိုးတူ အာရုံပြန်မှုများ ဆက်ကာဆက်ကာဖြစ်ခြင်း

နာမ်ဓါတ်တခါလှုပ်ရှားချိန်သည် တွက်ချက်၍ မရနိုင်လောက်အောင် သေးငယ်ကြောင်းကို ဖော်ပြခဲ့ပြီ။ အာရုံပို့မှု ရှိနေကြောင်းတို့ သိနိုင်ရန် အတွင်း နာမ်ဓါတ်ထွက် ပေါ်လာသော အချိန်ကလေး ရှည်ခဲ့သည့် အလွန်လျှင် သေးငယ်လှသဖြင့် လူသားတို့၏ နာမ်ဓါတ်ကပင်လျှင် သိနိုင်စွမ်းမရှိ။ သို့ရာတွင် နာမ်ဓါတ်အတွင်း၌ အာရုံပြန်မှုဓါတ်တို့ကို သိနိုင်ရန် အကူအညီ ပေးနေသော သဘောတရားသည် ရှိ၏။

နာမ်ဓါတ်၏ လှုပ်ရှားမှုက အာရုံပြန်မှုလှိုင်းများကို ဖြစ်ပေါ်စေသည်နှင့်တပြိုင်နက် ထိုလှုပ်ရှားမှုကို နာမ်ဓါတ်က ရှည်လျားသော လှုပ်ရှားမှုအလျှင်ဖြင့် နောက်မှ နေ၍လိုက်ပါသော သဘောရှိ၏။ ထိုလှိုင်းတို့အတွင်း၌အမျိုးတူ ဖြစ်သော အာရုံပြန်မှုလှိုင်းတို့သည် ဖြစ်ပေါ်ကြ၏။ ဤကဲ့သို့ နာမ်ဓါတ်လှုပ်ရှားမှု အာရုံပြန်လှိုင်းများ တသိတသန်းကြီး ဖြစ်ပေါ်ခြင်းသည် လူတို့၏ ကြံစည်မှု သို့မဟုတ် အာရုံခံစားမှုတို့ မပြီးဆုံးမချင်း ဆက်လက်ဟန်ရှိ၏။ ဤကဲ့သို့ ဖြစ်ပေါ်သော အာရုံပြန်မှုလှိုင်းတို့မှာ များပြောင်လှပြီးလျှင်ထိုလှိုင်းတို့ဖြစ်ပေါ်လာသော အရှိန်သည် လျှင်မြန်လှသဖြင့် ထိုလှိုင်းတို့ တခုနှင့်တခု ဝင်ကြားတွင် ပြတ်၍ပြတ်၍ နေသော အချိန်ကိုပင် မသိနိုင်လောက်အောင် ဖြစ်၏။ ကျွန်ုပ်တို့၏ အာရုံသိမှု အင်္ဂါများ အတွင်း၌ အာရုံများဖြစ်ပေါ်ပုံ အစဉ်မပြတ်မှုမှာ ရုပ်ရှင်ဓါတ်ကားပေါ်တွင် ဓါတ်ကောင်တို့သည် အကယ်ပင် အစဉ်မပြတ် ဆက်၍ဖြစ်ပေါ်နေသည်ဟု ထင်ရမှုနှင့် တူ၏။

## နာမ်ဓါတ်သည် အာရုံပြန်မှု၏ နယ်ပယ်ဖြစ်ခြင်း

နာမ်ဓါတ်၏ အခြင်းအရာများအနက် အကြီးဆုံးဖြစ်သော အခြင်းအရာမှာ ထိုနာမ်ဓါတ်၏ အပေါ်ယံမျက်နှာပြင်က ထွန်းလင်းတောက်ပခြင်းဖြစ်၏။ ထိုသို့ ထွန်းလင်းတောက်ပခြင်းကို မဝင်ကြယ်မှုမှောင်ရိပ်တို့က မှေးမှိန်စေ၍

စင်ကြယ်မှု အသအနက လေးများက ပြောင်လက်စေ၏။ လူသားတို့ကဲ့သို့သော သတ္တဝါများအဖို့တွင် အတွင်းနာမ်ဓါတ်၏ ထွန်းလင်းတောက်ပမှု တခုတည်းနှင့်ပင် အာရုံပြွန်မှုများကို သွေ့ငင်ယူနိုင်၏။ အဆိုပါ နာမ်ဓါတ်၏ ထွန်းလင်းတောက်ပြောင်မှုသည် အမျိုးမျိုးသော မစင်ကြယ်မှုများကို ဖေါက်ထွင်း၍ အပေါ်ယံမျက်နှာပြင်သို့ မည်ကဲ့သို့ ထွက်ပေါ်လာသည့်အကြောင်းကို ကောင်းစွာနားလည်ဘို့လို၏။

အာရုံပြွန်မှုကို ဖြစ်စေတတ်သော အရာအားလုံး၏ ထူးခြားသော ဘာဝန်မှာ အာရုံပြွန်မှုအရာဝတ္ထုတို့ကို မိမိတို့ဆီသို့ သွေ့ငင်ယူခြင်းဖြစ်၏။ ဥဒါဟရုဏ်ဆိုသော် အရာဝတ္ထုတခုကို မှန်ရှေ့တွင်ပြသောအခါ ထိုအရာဝတ္ထု၏ ပုံသဏ္ဍာန်သည် မှန်ထဲသို့ရောက်သွား၍ မှန်ကိုယ်တိုင်မှာကား ရွေ့လျားခြင်းမရှိဘဲ ငြိမ်သက်စွာ နေမြဲနေ၏။ နာမ်ဓါတ်သည် အဓိကအားဖြင့် အာရုံပြွန်မှု၏ ကိုယ်စလှယ်သာ ဖြစ်သဖြင့် မှန်နှင့်တူ၏။ နာမ်ဓါတ်က အာရုံပြွန်မှုကို ဖြစ်စေသောအခါတွင် ထိုအာရုံပြွန်မှု ကိုယ်တိုင်သည် နာမ်ဓါတ်ထဲသို့ စိမ့်ဝင်သွား၏။ နာမ်ဓါတ်သည် ထိုအာရုံပြွန်မှုကို ခံယူရန်အတွက် သက်ဆိုင်ရာအရာဝတ္ထုဆီသို့ မသွား ။

<u>နာမ်ဓါတ်က အာရုံပြွန်မှုများကို ခံယူခြင်း</u>

စကား ဥပမာအားဖြင့် ကျွန်ုပ်တို့သည် ဂိုင်ဘရာဇွာဝေးသော အရာဝတ္ထုကို တွေးကြည့်သည်ဆိုလျှင် ကျွန်ုပ်တို့သည် ထိုအရာဝတ္ထုမှ နာမ်ဓါတ်အတွင်းသို့ ရောက်လာသော အာရုံပြွန်မှုကိုသာ သိရ၏။ ထိုအာရုံပြွန်မှုကို ခံယူထိတွေ့နိုင်ရန်အတွက် ကျွန်ုပ်တို့၏ နာမ်ဓါတ်က ဂိုင်ဘရာဇာရီးသို့သွားခြင်းဖြစ်သည်ဟု မယူဆအပ် ။

ကျွန်ုပ်တို့က အရာဝတ္ထုတခုကို ကြည့်သောအခါတွင် ထိုသို့ကြည့်သည့်အခိုက်တွင် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ခဝိသံဂ်ိးသော နာမ်ဓါတ်လှုပ်ရှားမှုများသည် ၄င်း၊ ထပ်ဖြည့်လှိုင်း ခြောက်ခုသည် ၄င်း၊ စဉ်ဖြစ်ပေါ်လာကြသဖြင့် ကျွန်ုပ်တို့၏ အာရုံသိမှု အင်္ဂါများတွင် ထိတွေ့မှုလှိုင်းများနှင့် ထပ်ဖြည့်လှိုင်းတို့သည် စဉ်ဖြစ်ပေါ်လာကြ၏။ ထိတွေ့မှုလှိုင်းများနှင့် ထပ်ဖြည့်လှိုင်းများက အတွင်းဘက်ရှိ အာရုံပြွန်မှု နာမ်ဓါတ်ကို ထွက်ပေါ်လာစေ၏။ ထိုအခါတွင် နာမ်ဓါတ်က ထိုအရာဝတ္ထုမှဖြစ်ပေါ်လာသော အာရုံပြွန်မှုအခြောက်အများကို ရှာယူ၏။ ထိတွေ့မှုလှိုင်းအသီးသီး

နှင့် ထပ်ဖြည့်လှိုင်း အသီးသီး၏ ကျေးဇူးကြောင့် ပေါ်ထွက်လာသော အာရုံပြန်မှု အတွင်းနာမ်ပါဝါသည် မိမိထွက်ပေါ်လာတိုင်း ထွက်ပေါ်လာတိုင်းတို့အာရာဝဏ၏ ပုံသဏ္ဌာန်ကို နာမ်ပါဝါဆီသို့ ပို့ပို့ပေး၏။ ဥပမာအားဖြင့် ပါဟ်ပိုရိုက်ကိရိယာ (ကင်မရာ)ကို ဖွင့်လိုက်သည့်အခါတိုင်း ဖွင့်လိုက်သည့်အခါတိုင်း ရုပ်ပုံတခုတခု ထင်လာသည်နှင့်တူ၏။

## အာရုံတို့သည် ပြိုင်တူ မဖြစ်ပေါ်ခြင်း

အထိအတွေ့လှိုင်းတို့သည် ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းတခုခု၌ ဖြစ်ချင်က ဖြစ်ပေါ်နိုင်သော်လည်း နာမ်ပါဝါသည် အာရုံသိမှု အင်္ဂါနှစ်ခုတွင် အာရုံလှိုင်းများကို ပြိုင်တူမဖြစ်ပေါ်စေနိုင်။ နာမ်ပါဝါသည် တကြိမ်လျှင် အာရုံပြန်မှုတခုကို သာလျှင် ဖြစ်ပေါ်ခွင့်ပြု၏။ ထို့ကြောင့် အထိအတွေ့လှိုင်းတို့သည် တကြိမ်လျှင် ကိုယ်ခန္ဓာ အစိတ်အပိုင်းတခု၌သာ ဖြစ်ပေါ်နိုင်၏။ အထိအတွေ့လှိုင်းများ မဖြစ်ပေါ်သည့် နေရာများတွင် အသက်ရှင်မှုလှိုင်းတို့သည် မိမိတို့ အမြဲလှုပ်ရှားနေမြဲ လှုပ်ရှား နေကြ၏။

ဥပမာဆိုသော် မျက်စေ့၌ အထိအတွေ့လှိုင်းများဖြစ်ပေါ်နေသော အခါတွင် အခြားနေရာများ၌ အသက်ရှင်မှုလှိုင်းများသာလျှင် ရှိကြ၏။ နား၌ အထိအတွေ့လှိုင်းများဖြစ်ပေါ်နေသည့်အခါတွင်လည်း အခြားနေရာများတွင် အသက်ရှင်မှုလှိုင်းများသာလျှင်ရှိကြ၏။ နား၌ အထိအတွေ့မှုလှိုင်းများ ဖြစ်ပေါ်နေသည့်အခါတွင်လည်း အခြားနေရာများတွင် အသက်ရှင်မှုလှိုင်းများသာရှိကြ၏။ နှာခေါင်းတွင် အထိအတွေ့လှိုင်းများဖြစ်ပေါ်နေသည့်အခါတွင်လည်း အခြားနေရာများတွင် အသက်ရှင်မှုလှိုင်းများသာ ရှိကြ၏။ တစုံတခုသော ထိတွေ့မှု အင်္ဂါတွင် ထိတွေ့မှုလှိုင်းများဖြစ်ပေါ်နေသည့်အခါတွင်လည်း အခြားနေရာများတွင် အသက်ရှင်မှုလှိုင်းများသာရှိကြ၏။

## ထိတွေ့မှုလှိုင်းများ ဖြစ်ပေါ်နေစဉ်၌ပင် အသက်ရှင်မှု လှိုင်းတို့သည် ဆက်လက်တည်ရှိနေကြခြင်း

ဤအခြင်းအရာကို ကောင်းစွာနားလည်အပ်၏။ အထိအတွေ့လှိုင်းများ သည် ကိုယ်ခန္ဓာ တခုလုံး၌၎င်း၊ နာမ်ပါဝါတခုလုံး၌၎င်း ပျံ့နှံ့၍တည် နေသည်ဟု မယူဆအပ်။ ထို့ပြင် အထိအတွေ့လှိုင်းများဖြစ်ပေါ်လာသည့်အခါတွင် အသက်ရှင်မှု လှိုင်းတို့ ရပ်စဲသွားကြသည်ဟူ၍လည်း မယူဆအပ်။ အမှန်စင်စစ်အားဖြင့် အာရုံ

ယ်မှုအင်္ဂါခုသည် ထကြွ၍လာသောအခါတွင် ထိုအချိန်တွင် ဖြစ်ပေါ်နေသော အသက်ရှင်မှုလှိုင်းတို့သည် ထိုအင်္ဂါတွင်းသို့ ရောက်၍လာကြသော အထိအတွေ့လှိုင်းများအဖြစ်သို့ ပြောင်းလဲသွားကြပြီးလျှင် ကိုယ်ခန္ဓာ၏ ကျန်ရှိသောအစိတ်အပိုင်းများဘက်သို့ ပြန့်နှံ့သွားကြသော အသက်ရှင်မှုလှိုင်းများသည် မူလအသက်ရှင်မှုလှိုင်းအင်အားအတိုင်း ဆက်လက်တည်ရှိနေကြခြင်းသာဖြစ်၏။

အသက်ရှင်မှုလှိုင်းများနှင့် အထိအတွေ့လှိုင်းများဖြစ်ပေါ်ပုံနှင့် နာမ်ဓါတ်တို့သည် ရုပ်ဓါတ်၌ သတ္တဝါအဖြစ်နှင့် ထည့်နေကြသည့် အချိန်အတွင်း၌ ထိုနာမ်ဓါတ်တို့၏ တည်နေရာ နယ်နိမိတ်အတိအကျကို ဂရုပြု၍ လေ့လာအပ်၏။ ထိုအချက်နှစ်ခုလုံးကို ထင်ရှားစေရန်အတွက် လွယ်ကူသော စိတ်ကူး ဥဒါဟရုဏ်ကို ဆောင်ပေအံ့။

ကျွန်ုပ်တို့တွင် မြေဖြူကဲ့သို့သော အသားပွသည့် အရာဝတ္ထုဖြင့် ထုလုပ်၍ထားသော သက်ရှိသတ္တဝါ သဏ္ဌာန်တစ်ခုရှိသည်ဟု ယူဆကြအံ့။ ထိုမြေဖြူရုပ်ကို ရေထဲသို့ချ၍ ရေကိုပြည့်ဝအောင် စုပ်ယူစေပြီးလျှင် အငွေ့ပြန်ခြင်း၊ ဆွဲငင်ခြင်းစသော ဖြစ်တတ်မြဲသဘာဝတရားတို့၏ ပြုပြင်မှုမှ ကင်းလွတ်အောင်ထားနိုင်သည်ဟု မှတ်ယူလျှင် ကျွန်ုပ်တို့၏ ဥဒါဟရုဏ်သည် ပို၍ အဓိပ္ပါယ်ရှင်းလိမ့်မည်။ အထက်တွင် ဖော်ပြခဲ့သော အကြောင်းများကြောင့် ရေသည် ရုပ်ပုံ၏ သဏ္ဌာန်ကိုလည်း မပြောင်းလဲစေဘဲလျက် ရုပ်ပုံ၏ အစိတ်အပိုင်း အကုန်လုံးတွင်းသို့ ဝင်၍ နေလိမ့်မည်။ မြေဖြူရုပ်ကို ကိုယ်ခန္ဓာဟု သဘောထားပြီးလျှင် ထိုမြေဖြူရုပ်အတွင်း၌ ပျံ့နှံ့၍ဝင်နေသော ရေကို နာမ်ဓါတ်ဟု ယူဆလျှင် ကိုယ်ခန္ဓာ အသီးသီးအတွင်း၌ နာမ်ဓါတ် ပျံ့နှံ့၍ တည်နေပုံကို သဘောပေါက်နိုင်ကြလိမ့်မည်။

<u>နာမ်ဓါတ်ကို ပုံသဏ္ဌာန်နှင့် အရွယ်ပမာဏ ပေးမှု</u>

နာမ်ဓါတ်သည် မိမိသက်ဆိုင်ရာ ကိုယ်ခန္ဓာ၏ အပြင်သို့လွန်၍ မသွားနိုင်ခြင်းနှင့် ထိုကိုယ်ခန္ဓာတစ်ခုလုံး၌ ပျံ့နှံ့၍တည်နေခြင်းတို့ကြောင့် အကယ်၍ ကျွန်ုပ်တို့သည် နာမ်ဓါတ်တွင် ပုံသဏ္ဌာန်ရှိသည်ဟု ဆိုနိုင်မည်ဖြစ်လျှင် ထိုပုံသဏ္ဌာန်သည် သက်ဆိုင်ရာ ကိုယ်ခန္ဓာ၏ ပုံသဏ္ဌာန်အတိုင်းပင်ဖြစ်သည်ဟု ဆိုနိုင်လိမ့်မည်။

ဤနည်းဖြင့် ကျွန်ုပ်တို့သည် လူတို့ နာမ်ဓါတ်၏ ပုံသဏ္ဍာန်မှာ အသီးသီး သော လူတို့၏ ပုံသဏ္ဍာန်အတိုင်းပင်ဖြစ်သည်ဟူ၍၎င်း၊ တိရစ္ဆာန်တို့၏ နာမ်ဓါတ် ပုံသဏ္ဍာန်မှာ အသီးသီး သော တိရစ္ဆာန်တို့၏ ပုံသဏ္ဍာန်အတိုင်းဖြစ်သည်ဟူ၍၎င်း၊ အခြားသတ္တဝါတို့၏ နာမ်ဓါတ်ပုံသဏ္ဍာန်မှာ မိမိတို့ သက်ဆိုင်ရာ ပုံသဏ္ဍာန်များ အတိုင်းဖြစ်သည်ဟူ၍၎င်း၊ ဆိုနိုင်ပေမည်။ ရေသည် ကျွန်ုပ်တို့၏ ဥဒါဟရဏ်တွင် ဖော်ပြထားသည့်အတိုင်း ရွှေဖြူရုပ်၏ အစိတ်အပိုင်းအကုန်လုံးသို့ ပျံ့နှံ့၍တည်နေ ပြီး နောက် ထိုအရုပ်၏ အပြင်ဘက်သို့ လွန်၍ သွားလိမ့်မည်မဟုတ်သည့်နည်းတူ သတ္တဝါတို့အသီးသီးတို့၏ နာမ်ဓါတ်သည်လည်း မိမိတို့သက်ဆိုင်ရာ ကိုယ်ခန္ဓာတို့၏ အစိတ်အပိုင်း အကုန်လုံး၌ ပျံ့နှံ့၍တည် နေပြီးလျှင် ထိုကိုယ်ခန္ဓာတို့၏ အပြင်ဘက်သို့ လွန်၍သွားလိမ့်မည်မဟုတ်။

<u>မဝင်ကြယ်မှုနှင့် ဝင်ကြယ်မှုတို့ကို ပုံစံဖြင့်ပြခြင်း</u>

နာမ်ဓါတ်လျှင်းတို့ကို ပုံစံဖြင့် ပြနိုင်ခြင်းအကျိုး၌ အထက်တွင် ဖော်ပြခဲ့သော ရွှေဖြူရုပ်ကို ပေါက်ထွင်း၍လည်း မြင်နိုင်၍ အရောင်လည်း ပြန်တတ်သော ဝလင်းကျောက်ရုပ်ဟု စိတ်ကူးဖြင့် မှတ်ယင်ကြရန် လို၏။ ရေ၏ အစား ထိုကျောက်ရုပ်တွင်းသို့ ပိမ့်ဝင်သွားနိုင်မည့် ဘမျိုးနှင့်တမျိုး အင်အား မတူသော ဆီနှစ်မျိုးကို အသုံးပြုကြကုန်အံ့။ ပဌမဆီမှာ လေးလံ၍ ကြည်လင် ပြီးလျှင်၊ ဒုတိယဆီမှာ ပဌမဆီနှင့်ဆန့်ကျင်ဘက်ဖြစ်သော ပေါ့ပါး၍နောက်ကျိသော အကြမ်းစား ဆီမျိုးဖြစ်၏။

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ပုံစံဖြင့် ပြနိုင်ခြင်းအကျိုး၌ အရုပ်တခုလုံးသည် သီးခြားဆွဲငင်မှုနယ်ဖြစ်ပြီးလျှင် ထိုဆွဲငင်မှုနယ်အတွင်း၌ နှလုံးကို ဆွဲငင်မှုနယ်၏ ဗဟိုဟု မှတ်ယူပြီးလျှင် အခြားအာရုံသိမှု အင်္ဂါငါးခုတို့က ရံဖန်ရံခါတွင် ယာယီဆွဲငင်ပေမှု အင်အားများကို ဖြစ်ပေါ်စေကြသည်ဟု နောက်ထပ် ယူဆကြကုန်အံ့။

ပေါက်ထွင်း၍မြင်နိုင်သော ဝလင်းကျောက်သားသည် ကျွန်ုပ်တို့၏ အသား၊ အသွေး၊ အရိုးတို့နှင့်တူ၍ နှစ်မျိုးပေါင်းဆီသည် ကျွန်ုပ်တို့၏ နာမ်ဓါတ်နှင့် တူ၏။ ထိုနှစ်မျိုးပေါင်းဆီထဲတွင် နာမ်ဓါတ်၏ မဝင်ကြယ်မှုများနှင့်တူသော ပေါ့ပါး သော အကြမ်းစားဆီနှင့်နာမ်ဓါတ်၏ ဝင်ကြယ်မှု သို့မဟုတ် ကောင်းမှုများနှင့်တူ သော လေးလံ၍ကြည်လင်သောဆီတို့ပါဝင်၏။ ထိုဆီနှစ်မျိုးသည် တမျိုးနှင့်တမျိုးအလွန့် အလွန်တင်းကြပ်စွာဆွဲငင်ထားကြသော်လည်း တမျိုးနှင့်တမျိုးအပြီးသတ် ရောစပ် သွားခြင်းကိုကား မည်သည့်အခါတွင်မျှ မပြုနိုင်ကြဟူ၍လည်း ယူဆကြကုန်အံ့။

## မဝင်ကြယ်မှုတို့သည် အပေါ်ယံသို့ ပေါ်လာကြခြင်း

နှစ်မျိုးပဝ်ဆီသည် အရပ်၏ ကိုယ်ခန္ဓာတခုလုံးသို့ ပျံ့နှံ့၍တည်နေ သော်လည်း ထိုဆီနှစ်မျိုးမှာ တမျိုးနှင့်တမျိုး အင်အားခြင်း မတူကြသဖြင့် တမျိုးက ဗဟိုတွင်စု၍ နေလိုသော သဘောရှိပြီးလျှင်၊ တမျိုးက အပေါ်ယံသို့ထွက်ပေါ်လိုသော သဘောရှိ၏။ ဤနည်းဖြင့် လေးလံ၍ကြည့်လင်သော ဆီသည် ယေဘုယျအားဖြင့် ရပ်ပို၏အတွင်းဘက်၌သာ စုဝေး၍ နေပြီးလျှင်၊ ပေါ့ပါး၍ နောက်ကျသောဆီသည် ယေဘုယျအားဖြင့် အပေါ်ယံသို့ ထွက်ပေါ်လာသော နေ၏။ အကယ်၍ နာမ်ဓါတ်သည် တည်ငြိမ်၍ နေပါမူ ဆီနှစ်မျိုးသည် တသီးတခြား စံသါနေကြမည်ဖြစ်၏။ သို့ရာတွင် နာမ်ဓါတ်သည် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်းပင် မိမိ၏ မှန်မှန်လှုပ်ရှားမှု များကို မည်သည့်အခါတွင်မျှ ရပ်စဲခြင်း မပြု။

နာမ်ဓါတ်၏ လှုပ်ရှားမှုကြောင့် အဆိုပါဆီနှစ်မျိုးသည် တမျိုးနှင့်တမျိုး အမြဲတန်း ရောစပ်လျက်သာ နေကြ၏။ သို့ရာတွင် ထိုဆီနှစ်မျိုး၏ ယေဘုယျသဘော သည် မည်သည့်အခါတွင်မျှ ရပ်စဲခြင်းမရှိ။ အဘယ့်ကြောင့်ဆိုသော် လေးလံ၍ ကြည့်လင်သော ဆီ၏ ကြီးသောအဓိပ်အဝုင်းသည် ဗဟို၌သာ စုဝေး၍ နေပြီးလျှင် ပေါ့ပါး၍ နောက်ကျသောဆီ၏ ကြီးမားသော အထုအထည်တို့သည် အမြဲတန်းအပေါ်ယံ တွင် စုရုံး၍ နေကြသော ကြောင့်ဖြစ်၏။ နောက်ကျသောဆီ အထုအထည်တို့သည် အတွင်းဘက်၌ ဝင်ကြယ်သော အရာတို့၏ တောက်ပြောင်မှုကို ဖုံးအုပ်၍ထားကြ၏။ ဤနည်းဖြင့် အရပ်တခုလုံးသည် မဝင်ကြယ်မှုတို့၏ ချယ်လှယ်ခြင်းကို ခံနေရ၏။

## သတ္တဝါသည် နာမ်ဓါတ် ရုပ်ဓါတ် အဆောက်အအုံဖြစ်ခြင်း

ယခုအခါတွင် ဘူမိဗိဒ်တို့၏ ပိုင်ကို ဘာသင့်ဘိုး၍ ဖော်ပြပြီးလျှင် အရပ်တွင်း၌ နှစ်မျိုးစပ်ဆီသည် မြေ၊ ဘည်၊ မျက် စက်ဝန်းအတွင်း၌ အတိုတောင်းဆုံး အချိန်ဟုဆိုအပ်သော လျှပ်စစ်ဘမျက်အတွင်းတွင် ယုံကြည်နိုင်ဘို့ပင် ခဲယဉ်းနိုင် လောက်အောင် လျင်မြန်သောအရှိန်ဖြင့် အကြိမ်ပေါင်း ၃၀၀၀၀၀၀၀၀၀၀၀၀ လည်နေသော သိမ်မွေ့နူးညံ့သော ဓာတ်ကြယ်ပြစ်သည်ဟု ယူဆကြအံ့။ ဤစက်ဝန်း အတွင်း၌ အကြိမ်ပေါင်းများစွာလှုပ်ရှားမှုဖြင့် ဘည်နေသော ကျောက်စလင်း ရုပ်သည် နာဂိလက်ဘန်လှည့်နည်းဖြင့် ၁၇ ဆ လျော့နည်းသောအရှိန်ဖြင့်လည်၍ နေ၏။ တနည်းဆိုသော် လျှပ်စစ်ဘမျက်အတွင်း၌အကြိမ်ပေါင်း ၁၇၆၄၇၀၀၀၀၀၀၀၀ လည်၍နေ၏။

နှစ်မျိုးစပ်ဆီစက်ဝန်းကို နာမ်ဓါတ်စက်ဝန်းနှင့် သိမှုသည်ဟု ယူဆ၍ စလင်းကျောက်စက်ဝန်းကို ရုပ်ဓါတ်စက်ဝန်းဟု ယူဆလျှင် သတ္တဝါတို့သည် ရုပ်နာမ် အဆောက်အအုံဖြစ်ကြောင်းကို သဘောပေါက်နိုင်လိမ့်မည်ဖြစ်၏။ နာမ်ဓါတ်စက် ဝန်းကို အစဉ်မပြတ်လှည့်ပေးနေသော အရာများမှာ ဤအခန်းတွင် ဖော်ပြခဲ့ ပြီးဖြစ်သော အသက်ရှင်မှုအလျင်အဟုန်၌ ဖြစ်ပေါ်နေသည့် ဖြစ်၊ တည်၊ ပျက် အင်အားများဖြစ်၏။ ဤနည်းအတိုင်းပင် အခန်းနှစ်တွင် ဖော်ပြခဲ့သော (သက်မဲ့ရုပ်ဓါတ်များ) အဟုန်၌ ဖြစ်၊ တည်၊ ပျက် အလျင်သုံးခုက ရုပ်ဓါတ်စက်ဝန်း ကို အမြဲတန်းလှည့်၍ ပေးနေ၏။

## ထပ်ဖြည့်အလျင် ခြောက်ခု၏ တာဝန်များ

နာမ်ဓါတ်လှိုင်းများနှင့် အာရုံသိမှုအင်္ဂါတို့က မည်ကဲ့သို့ တာဝန်များကို ထမ်းဆောင်နေကြပုံကို ပုံစံဖြင့် ဖြန့်ပြနိုင်စေရန်အတွက် ကျွန်ုပ်တို့၏ ရုပ်ပုံတွင် အခြင်း အရာအနည်းငယ်ကို နောက်ထပ် ထည့်ပေးလိုက်၏။ ကြမ်းတမ်းသော ဆီသည် အပေါ် ယံတွင် နေ၍ စင်ကြယ်သော ဆီတို့ ဖယ်၍ ဖုံးကွယ်မှုထားရှိကာဘဲ တစိတ်တဒေသ အတိုင်အခဲဖြစ်သွားစေပြီးလျှင် ပလင်းကျောက်အဆောက်အအုံ တခုလုံးနှင့် အတွင်း ဘက်၌ စင်ကြယ်သောဆီကို အလွန်အလွန်ပါးသော အလွှာများဖြင့် ဖုံးအုပ်၍ထား သေးသည်ဟု ယူဆကြအံ့။ သတ္တဝါတို့၏ အာရုံခံစားမှုမဏ္ဍာကို ဖုံးအုပ်ရန် အဆိုပါ အရေပါးနှင့်တူသော အလွှာခုနှစ်ခုတို့ဖြင့် ပေါ်လာကြ၏။

အာရုံများဖြင့် ပေါ်လာစေနိုင်ရန်အတွက် အတွင်းနာမ်ဓါတ်သည် အပေါ်ယံသို့ ထွက်ပေါ်၍လာရ၏။ ထိုကိစ္စအတွက်ထပ်ဖြည့်အလျင် ခြောက်ခုက နာမ် ဓါတ်အား အကူအညီပေးကြ၏။ အာရုံသိမှုအင်္ဂါများပေါ်သို့ အာရုံပို့မှုဓါတ်များမှ ဖြစ်ပေါ်လာသော အာရုံပြန်မှုတို့ ကျရောက်လာသောအခါ ထပ်ဖြည့်အလျင်ခြောက် ခုတို့က အစဉ်လိုက် ထကြွ၍ လာကြပြီးလျှင် မစင်ကြယ်မှုအလွှာများကို အလှည့်ကျ ဖေါက် ဖျက်ကြ၏။

## အတွင်းနာမ်ဓါတ် ပေါ်ထွက်ပုံနှင့် ထပ်တလဲလဲပေါ်ထွက်ပုံ

နာမ်ဓါတ်သည် မိမိ၏ စက်ဝန်းတပတ်ပြည့်သည့်အခါတွင် မိမိကိုယ်ကို ဗိမိ လှိုင်း ၁၇ ခုအဖြစ်သို့ ရောက်စေကြောင်းကို ဖော်ပြခဲ့ပြီ။ ပထမလှိုင်းသည် အား ပျော့သဖြင့် ဘာမျှမဖြစ်။ ဒုတိယလှိုင်း ပေါ်လာသောအခါ အလွှာတခု ပေါက်သွား၏။

တတိယ ဆိုင်း ပေါ်လာသောအခါ နောက်ထပ်တလွှာ ပေါက်သွား၏။ ဤနည်းဖြင့် သတ္တမ ဆိုင်းသို့ ရောက်သောအခါ အတွင်းနာမ်ဓါတ်သည် အလွှာ ခြောက်ခုကို ဖောက်ဖျက်လိုက်၏။

သတ္တမ အလွှာမှာ ပေါက်ဖျက်သွားခြင်းမရှိ။ သို့ရာတွင် ထိုအလွှာသည် ကြည်လင်သဖြင့် ထိုအလွှာက အတွင်းနာမ်ဓါတ်ကို ဖုံးကွယ်၍ မထားနိုင်။ ဤသို့ ပေါ်ထွက်လာသော အတွင်းနာမ်ဓါတ်သည် နောက်ထပ်ဖြစ် ပေါ်လာသော နာမ်ဓါတ်ဆိုင်း ခုနစ်ဆိုင်းကြာအောင် ဆက်လက်၍ ပေါ်ထွက်နေ၏။ တနည်းဆိုသော် နာမ်ဓါတ် ထွက်ပေါ်နေသော အချိန်မှာ နာမ်ဓါတ်ဆိုင်း ရှစ်ခုမျှကြာ၏။ တဆယ့်ခြောက်ကြိမ် မြောက်ဆိုင်းသို့ ရောက်သောအခါ ထပ်ဖြည့်အလျှင်ခြောက်ခုတို့သည် အင်အားဆုတ်ယုတ် သွားကြသဖြင့် မစင်ကြယ်မှုအလွှာများကို ပေါက်ဖျက်နိုင်စွမ်း မရှိကြတော့။ ဤနည်းဖြင့် အဆိုပါအလွှာတို့၏ မူလနေရာသို့ ပြန်တတ်သောသဘောနှင့် နာမ်ဓါတ်၏ အတွင်းသဘောတို့ကြောင့် ထိုအလွှာတို့သည် အတွင်းနာမ်ဓါတ်ကို အကြွင်းမဲ့ ဖုံးအုပ် သွားကြ၏။

သို့ရာတွင် နာမ်ဓါတ်၏ လှုပ်ရှားမှု နောက်တကြိမ်ဖြစ် ပေါ်၍လာ သောအခါ အထက်ပါဖြစ်စဉ်အတိုင်း ပြန်၍ ဖြစ်ပြန်၏။ ဤနည်းဖြင့် နာမ်ဓါတ် ထွက်ပေါ်လာမှုအစဉ်သည် ဖြစ်ပေါ်လာ၏။ အဆိုပါ အယဓော့အသန့်ချာသော ဖုံးအုပ် ခြင်းမှ ထပ်တလဲလဲကင်းလွတ်မှုတို့၏ ကျေးဇူးဖြင့် အတွင်းနာမ်ဓါတ်သည် အာရုံပြုမှု များကို ခံယူနိုင်ပြီးလျှင် အာရုံခံစားမှုတို့သည် ဖြစ်ပေါ်လာကြ၏။

သက်ရှိကိုယ်ခန္ဓာတခုလုံးသည် မစင်ကြယ်မှုအလွှာများ၏ ဖုံးအုပ်ခြင်းကို အကြွင်းမဲ့ခံနေရသည့်အခါမှပင်လျှင် အထက်တွင် ဖော်ပြခဲ့သော ဆိုင်း ၁၇ ဆိုင်း သည် ဖြစ်ပေါ်ကြ၏။ သို့ရာတွင် ထိုဆိုင်းတို့သည် မစင်ကြယ်မှုအလွှာများကို ထိုးဖောက် ခြင်း မပြုကြသဖြင့် ထိုဆိုင်းတို့ ရှိနေကြောင်းကို ယေဘုယျအားဖြင့် သိနိုင်ခြင်းမရှိ။ စင်စစ်ဆိုသော် ထိုဆိုင်းများသည် အမြဲတန်းဖြစ်ပေါ်၍ နေကြပြီးလျှင် အာရုံသိမှု အင်္ဂါများအပါအဝင် ကိုယ်ခန္ဓာတခုလုံးသို့ ပျံ့နှံ့ကာ နေကြ၏။

## ဆွဲငင်မှု အင်အားတည်ရာကို နှလုံးမှအခြားသို့ယာယီ ပြောင်းရွှေ့ခြင်း

နှလုံးသည် နာမ်ဓါတ်၏ ဆွဲငင်မှု အင်အားတည်ရာဖြစ်ကြောင်းနှင့် ယေဘုယျအားဖြင့် ထိုအင်အားသည် နှလုံး၌သာ အမြဲတန်းတည်နေသည့်အကြောင်းကို ဖော်ပြခဲ့ပြီ။ သို့ရာတွင် တခုတခုသော အာရုံသိမှု အင်္ဂါတို့သည် မစင်ကြယ်မှုများ၏

ဖုံးအုပ်မှုမှ ကင်းလွတ်လာသောအခါတွင် နာမ်ဓါတ်၏ ဆွဲငင်မှု အင်အားတည်ရာသည် ထိုသို့ကင်းလွတ်သော အချိန်ကာလအတွင်း၌ ထိုအင်္ဂါသို့ ယာယီ ပြောင်း ရွှေ့၍ လာ၏။ ထိုနည်းတူစွာပင် ထိုသို့ကင်းလွတ်သော အချိန်ကာလ ရပ်စဲသွားသည်နှင့် တပြိုင်နက် နာမ်ဓါတ်၏ ဆွဲငင်မှု အင်အားသည် နှလုံးသို့ပြန်၍ ပြောင်း ရွှေ့သွား၏။

ဤနည်းဖြင့် အတွင်းနာမ်ဓါတ် ထွက်ပေါ်လာရာ နေရာ အသီးသီးသို့ နာမ်ဓါတ်၏ ဆွဲငင်မှုအင်အားတည်ရာသည် ပြောင်း ရွှေ့၍သွား၏။ နာမ်ဓါတ်၏ ဆွဲငင်မှုအင်အားတည်ရာသည် တချိန်တွင် တနေရာသို့သာ ပြောင်း ရွှေ့သွားနိုင်ပြီးလျှင်၊ တချိန်တွင် နှစ်နေရာ သို့မဟုတ် ထိုထက်များသော နေရာများသို့ တပြိုင်နက် ပြောင်း ရွှေ့၍မသွားနိုင်။ ဤအချက်သည် အရေးကြီးသော အခြင်းအရာ ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်တို့သည် အာရုံခံစားမှုအများကို တပြိုင်နက်ထည်း မခံစားနိုင်ကြ။ အာရုံသိမှု အင်္ဂါများက အာရုံခံစားမှုများကို တပြိုင်နက်တည်း လွှတ်၍မပေးကြ။

<u>ပြတ်တောင်းပြတ်တောင်းဖြစ်ပေါ်ကြသော အာရုံခံစားမှုများ</u>

ကျွန်ုပ်တို့သည် ဘာမှုလုံးလုံး မလုပ်ဘဲ နေလိုလျှင်လည်း နေ၍ရ၏။ သို့ရာတွင် တချိန်တွင်မှာ အလုပ်တခုတည်းကိုသာ လုပ်နိုင်၏။ ထိုနည်းတူစွာပင် ဘာမျှ လုံးလုံး မကြံစီဘဲ နေ၍လည်း ရ၏။ သို့ရာတွင် တချိန်တွင်မှာ အကြံအစီ တခုတည်းကိုသာ ကြံစီနိုင်၏။ သို့သော် ကျွန်ုပ်တို့သည် အလုပ်တခုမှတခုသို့ ပြောင်း၍ လုပ်နိုင်၏။ ထိုနည်းအတူပင် အကြံအစီကိုလည်း သိုင်းတခုမှ တခုသို့ အလွန်လျင်မြန်စွာနှင့် ပြောင်း၍ ကြံစီနိုင်၏။

ကျွန်ုပ်တို့၏ အာရုံသိမှု အင်္ဂါအမျိုးမျိုးတွင် အတွင်းနာမ်ဓါတ်ထွက်ပေါ်ခြင်းအစဉ်သည် မကြာခဏ ပြတ်တောင်းပြတ်တောင်း ပေါ် ပေါက်၏။ ထို့ပြင် အာရုံသိမှု အင်္ဂါအသီးသီးတွင် နာမ်ဓါတ်ထွက်ပေါ်မှု အစဉ်တိုကလေးများသည် အလှည့်ကျ ဖြစ်ပေါ်နိုင်၏။

အလှည့်ကျဖြစ်ပေါ်သော နာမ်ဓါတ်အစဉ်များကို ချစ်လှစွာသော မိတ်ဆွေတယောက်နှင့်အတူ အစာစားနေသော လူတယောက်၏ ဥပမာဖြင့် နှိုင်းယှဉ်အပ်၏။ အဝါနှင့် ပုဂံခွက် ယောက်တို့၏ အဆင်းသည် ထိုသူ၏ မျက်စေ့၌

အထိအတွေ့လှိုင်းများကို ဖြစ်ပေါ်စေ၏။ သူ့မိတ်ဆွေ၏ စကားသံသည် ထိုသူ၏ နား၌ အထိအတွေ့လှိုင်းများကို ဖြစ်ပေါ်စေ၏။ ထို့ပြင် သူ့မိတ်ဆွေရှိနေခြင်းကို သိမှုသည် ထိုသူ၏ နှလုံးတွင် အထိအတွေ့လှိုင်းများကို ဖြစ်ပေါ်စေနိုင်ဘွယ်ရှိ၏။ အစာ၏ အနံ့သည် ထိုသူ၏ နှာခေါင်း၌ အထိအတွေ့လှိုင်းများကို ဖြစ်ပေါ်စေ၏။ စားပွဲကုလားထိုင်၊ ဇွန်းခက်ရင်း၊ အစာ စသည်တို့နှင့် ထိတွေ့ခြင်းသည် ထိုသူ၏ ထိတွေ့မှုအင်္ဂါတွင် ထိတွေ့မှုလှိုင်းများကို ဖြစ်ပေါ်စေ၏။ အစာက လျှာကို ထိတွေ့ခြင်းနှင့် အစာမှ အနံ့အာရုံပြန်မှုတို့သည် ထိုလူ၏ လျှာတွင် အထိအတွေ့လှိုင်းများကို ဖြစ်ပေါ်စေ၏။

## အာရုံခံစားမှုနှစ်ခုသည် တပြိုင်နက်တည်း မပေါ်ခြင်း

အထက်ပါ ဥပမာသည် အာရုံသိမှုအင်္ဂါခြောက်ခုလုံးနှင့် သက်ဆိုင်သော်လည်း ထိုလူအဖို့တွင် တချိန်တည်း၌ အာရုံခံစားမှုနှစ်ခုသည် တပြိုင်နက်တည်းဖြစ်ပေါ်သည်မဟုတ်။ ကြည့်၍နေသည့်အခိုက်တွင် ထိုသူ၌ အခြားအာရုံခံစားမှုများ မဖြစ်ပေါ်။ နားထောင်နေသည့်အခိုက်တွင်လည်း ထိုသူ၌ အခြားအာရုံခံစားမှုများမဖြစ်ပေါ်။ အနံ့ခံ၍နေသည့်အခိုက်တွင်လည်း ထိုသူ၌ အခြားအာရုံခံစားမှုများ မဖြစ်ပေါ်။ အရသာကိုခံနေသည့်အခိုက်တွင်လည်း ထိုသူ၌ အခြားအာရုံခံစားမှုများမဖြစ်ပေါ်။ ကိုင်တွယ်နေသည့်အခိုက်တွင်လည်း ထိုသူ၌ အခြားအာရုံခံစားမှုများ မဖြစ်ပေါ်။ ထို့ပြင် သူ့မိတ်ဆွေရှိနေသည့်အတွက် သာယာမှုအာရုံပေါ်နေခိုက်တွင်လည်း ထိုသူ၌ အခြားအာရုံခံစားမှုများ မဖြစ်ပေါ်။

သို့ရာတွင် ထိုသူ၏ နာမ်ဓါတ်သည် မိမိ၏ အတွင်းနာမ်ဓါတ် ထွက်ပေါ်မှုအစဉ်ကို ပိုင်းခြား၍ လျှောက်ပတ်စွာ ပြတ်တောင်းပြတ်တောင်းသာ ဖြစ်ပေါ်စေခြင်းဖြင့် ထိုသူသည် အာရုံသိမှုအင်္ဂါခြောက်ခုမှ ဖြစ်ပေါ်သော အာရုံခံစားမှုလှိုင်းများ အကုန်လုံးကို ခံစားနိုင်မည်ဖြစ်၏။ အာရုံခံစားမှု အသီးသီး၏ အချိန်ကာလ အရှည်အတိုမှာ အာရုံပြန်သော အရာဝတ္ထုတို့က အာရုံသိမှုအင်္ဂါများ အပေါ်တွင် ဆွဲငင်နိုင်သော အင်အားအနည်းအများအလိုက်ဖြစ်၏။

## နှလုံးက အာရုံခံစားမှုအားလုံးကို စုတ်ယူခြင်း

နှလုံးတွင်း၌ရှိသော အာရုံသိမှုအင်္ဂါက မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် အထိအတွေ့ဟု ဆိုအပ်သော ပတ်ဝန်းကျင်အာရုံသိမှုအင်္ဂါများ၌ အတွင်းနာမ်ဓါတ် ထွက်ပေါ်နိုင်စေရန်အတွက် ဆွဲငင်မှု အင်အားတည်ရာကို နှလုံးတွင်းမှ ယာယီ

အားဖြင့် လွှတ်၍ ပေး သော်လည်း ထိုဆွဲငင်မှုအင်အားဘည့်ရာကို မိမိဆီသို့ ပြန်ရောက်အောင် အမြဲတမ်းဆွဲငင်၍ နေ၏။ ထိုသို့ ဆွဲငင်နေခြင်းကြောင့် ပတ်ဝန်းကျင်သိမ်မှုအင်္ဂါများ ပွင့်လင်း၍ အင်အားကြီးသော အာရုံများဖြစ်ပေါ်လာသည့်အခါတိုင်း ထိုအာရုံများကို နှလုံးက အကြောင်းမဲ့ စုတ်ယူပြီးလျှင် မိမိဟာမိမိ ဘာဝန်များကိုစ၍ ဆောင်ရွက်၏။ သို့ရာဘွင် ပတ်ဝန်းကျင်သိမ်မှုအင်္ဂါများ၌ ဖြစ်ပေါ်သည့် အားပျော့သော အာရုံပြန်မှုတို့သည် နှလုံးသို့မရောက်မီ ပျောက်ကွယ်သွားကြ၏။

အတွင်းနာဗ်ဓါတ် ထွက်ပေါ်မှုအင်အားဟူသည် နှလုံးအတွင်း၌ အာရုံသိမ်မှုအင်္ဂါဘွင် အပြင်းထန်ဆုံးဖြစ်၏။ နာဗ်ဓါတ် ထွက်ပေါ်မှု ထိပ်ဆင့်အစဉ်သည် နှလုံးဘွင်း၌ ပို၍ကြာ၏။ ထို့ပြင် နှလုံး၏ အာရုံယင်မှုသညာသည် အလွန်လျှင်ထက်မြက်၏။

<u>ပတ်ဝန်းကျင်သိမ်မှုအင်္ဂါတို့က နှလုံးကို ကူညီကြခြင်း</u>

နှလုံးဘွင်း၌ အဘွင်းနာဗ်ဓါတ် ထွက်ပေါ်မှုများသည် ယေဘုယျအားဖြင့် ပတ်ဝန်းကျင်နှင့်ဆိုင်သော အာရုံသိမ်မှုအင်္ဂါခု၏ သို့မဟုတ် အများ၏ ကူညီမှုကို ရမှသာ ဖြစ်ပေါ်နိုင်၏။ သို့ရာဘွင် မ၍ဖြစ်ပေါ်လာပြီး နောက်အချို့တွင် ထိုအင်္ဂါတို့၏ အကူအညီမရဘဲနှင့် ဆက်လက်၍ ဖြစ်ပေါ်နိုင်၏။ နာဗ်ဓါတ်ထွက်ပေါ်မှုများကို ဖြစ်ပေါ်နေစေခိုက်ဘွင် နှလုံးဘွင်း၌ အာရုံသိမ်မှုအင်္ဂါ ပတ်ဝန်းကျင်နှင့်ပတ်သက်သော အာရုံသိမ်မှုအင်္ဂါခု၌ သော်၄င်း၊ အများ၌ သော်၄င်း၊ အာရုံများ ဖြစ်ပေါ်စေရန် လုပ်နိုင်၏။

အာရုံသိမ်မှုအင်္ဂါတို့သည် ရုပ်ဓါတ်နှင့် ဘကယ်ထိတွေ့မှသာ မိမိတို့၏ ဘာဝန်များကို ဆောင်ရွက်နိုင်ကြသည်ဟု မထင်မှတ်ရ။ "ကြိုစီခြင်း" ဟု ကျွန်ုပ်တို့ ခေါ်ကြသည့်နည်းဖြင့် ကျွန်ုပ်တို့သည် အာရုံသိမ်မှုအင်္ဂါများကို လှုပ်ရှားထကြွစေနိုင်၏။ ကြိုစီခြင်းဆိုရာဘွင် ကျွန်ုပ်တို့၏ အာရုံသိမ်မှုအင်္ဂါများအဖို့ အကောင်အထည်ထင်လာအောင် တွေးမှုပါဝင်၏။ ယေဘုယျအားဖြင့် အကောင်အထည်ထင်လာအောင် တွေးမှုဆိုသည်မှာ ကျွန်ုပ်တို့၏ အာရုံသိမ်မှုအင်္ဂါတို့ ယခင်က တွေ့ကြုံဘူးသော အရာများကို ပြန်၍ဖော် ပေးခြင်းမျှသာ ဖြစ်၏။

## ကြံစီမှုနှင့် အာရုံသိမှုအင်္ဂါများ

တခဏမျှ ကြံစီဘိုင်း ကြံစီဘိုင်း ကျွန်ုပ်တို့၏ အာရုံသိမှုအင်္ဂါများတွင် သိမ်မွေ့သော တုန့်ပြန်မှုအင်အားသည် ဖြစ်ပေါ်လာ၏။ ဥပမာဆိုသော် ကျွန်ုပ်တို့ ယခင်က မြင်ဘူးသော အရာဝတ္ထုအကြောင်းကို ကြံစီလိုက်သည့်အခါတွင် ကျွန်ုပ်တို့၏ အတွင်းမျက်စေ့တွင် ထိုအရာ၏ အာရုံပြန်မှုသည် မထင်မရှားဖြစ်ပေါ်လာ၏။ ကျွန်ုပ်တို့ကြားဘူးသောအသံကို ကြံစီလိုက်သည့်အခါတွင် ထိုအသံ၏ အာရုံပြန်မှုသည် ကျွန်ုပ်တို့၏ အတွင်းနားတွင် မထင်မရှားဖြစ်ပေါ်လာ၏။ ကျွန်ုပ်တို့ ရှူကြုံဘူးသော အနံ့ကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ နှာခေါင်းတွင် ထိုအနံ့၏ အာရုံပြန်မှုသည် မထင်မရှား ဖြစ်ပေါ်လာ၏။ ကျွန်ုပ်တို့ ခံစားဘူးသော အရသာအကြောင်းကို ကြံစီလိုက်သော အခါတွင်လည်း ကျွန်ုပ်တို့၏ လျှာတွင် ထိုအရသာ၏ အာရုံပြန်မှုသည် မထင်မရှား ဖြစ်ပေါ်လာ၏။ ကျွန်ုပ်တို့ ထိတွေ့ဘူးသော အထိအတွေ့အကြောင်းကို ကြံစီလိုက်သည့် အခါတွင်လည်း ကျွန်ုပ်တို့၏ အထိအတွေ့အာရုံသိမှုအင်္ဂါတွင် ထိုအထိအတွေ့၏ အာရုံပြန်မှုသည် မထင်မရှားဖြစ်ပေါ်လာ၏။

ကြံစီမှု၏ အမည်ကို ကောင်းစွာနားလည်နိုင်စေရန်အတွက် အာရုံသိမှုအင်္ဂါများတွင် ကြံစီမှုကြောင့် မည်ကဲ့သို့ အကျိုးသက်ရောက်သည့်အကြောင်းကို အထူးဂရုပြု၍ လေ့လာအပ်၏။ ကျွန်ုပ်တို့သည် အဆင်းများ၊ အနံ့များ၊ အရသာများ၊ ပူခြင်း အေးခြင်းများ၊ မာခြင်း ပျော့ခြင်းများ၊ ပြည့်ခြင်း မပြည့်ခြင်းများ၊ သို့မဟုတ် စိတ်လှုပ်ရှားမှုများကို အမြဲပြု၍ ကြံစီကြ၏။ ထိုကြံစီမှုတိုင်းအသီးသီးက သက်ဆိုင်ရာ အာရုံသိမှုအင်္ဂါများတွင် ထကြွမှုကို ဖြစ်စေ၏။ ကျွန်ုပ်တို့သည် အခြေအနေတခုကို တွေးတောကြည့်သည့်အခါ၌ ဖြစ်စေ၊ အကယ် တွေ့ကြုံရသည့်အခါ၌ဖြစ်စေ၊ သက်ဆိုင်ရာအာရုံသိမှုအင်္ဂါတို့တွင် ထကြွမှုတို့ဖြစ်ပေါ်လာမြဲ ဖြစ်၏။ တွေးတောကြည့်၍ ဖြစ်ပေါ်လာသော ထကြွမှုနှင့် အကယ်ကြုံတွေ့ရ၍ ဖြစ်ပေါ်လာသော ထကြွမှုတို့မှာ အပြင်းအပျော့သာလျှင် ခြားနားခြင်းရှိကြ၏။ ကျွန်ုပ်တို့ အထူးကြိုက်တတ်သော အစာအကြောင်းကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ ပါးစပ်ထဲတွင် သွားရည်များယိုထွက်လာ၏။ ထိုကဲ့သို့ ဖြစ်ခြင်းမှာ ထိုအစာ၏ အရသာကို ကြံစီသော အားသည် လျှာတွင်ရှိသော အာရုံသိမှုအင်္ဂါကိုပါ ထိခိုက်သောကြောင့်ဖြစ်၏။

## ကျွန်ုပ်တို့သည် အာရုံပြန်မှုများကို အခြေပြု၍ ကြံစီကြ၏။

ကျွန်ုပ်တို့သည် အနာဂတ်သို့ လှမ်း၍ ကြံစီသော အခါတွင်လည်း ကျွန်ုပ်တို့၏ အာရုံသိမှု အင်္ဂါများကိုသာ အခြေပြု၍ ကြံစီကြ၏။ အကျိုးဟုခုပြီး မြောက် အောင် ကြံစီကြ၊ သို့မဟုတ် လုပ်ဆောင်ကြသော အခါတွင်လည်း ကျွန်ုပ်တို့၏ အာရုံသိမှုအင်္ဂါများသို့ ရောက်လာကြသော မထင်ရှားသော အာရုံပြန်မှုတို့က ခိုင်းစေသည့် အစဉ်အတိုင်းသာ ကြံစီကြ၊ လုပ်ဆောင်ကြ၏။

ကြံစီသောအခါတွင် ယေဘုယျအားဖြင့် အာရုံသိမှု အင်္ဂါ ၁ ခုတည်းကသာ အာရုံပြန်မှုများကို ဖြစ်ပေါ်စေသည်မဟုတ်၊ ရွေ့လျားနေသော ယာဉ်တစ်ခု၏ အကြောင်းကို ကြံစီရာတွင် မျက်စေ့နှင့်နားဟု ဆိုအပ်သော အာရုံသိမှု အင်္ဂါနှစ်ခုတို့သည် ပါဝင်ကြ၏။ ကျွန်ုပ်တို့ စားဘူးသော အစာအကြောင်းကိုဖြစ်စေ၊ သို့မဟုတ် ကျွန်ုပ်တို့ မိတ်ဆွေများနှင့် စားလိုသော အစာအကြောင်းကိုဖြစ်စေ၊ ကြံစီကြသောအခါတွင် အာရုံသိမှု အင်္ဂါအားလုံးသည် ထကြွလာဘွယ်ရှိ၏။ စားပွဲများနှင့် ကျွန်ုပ်တို့ မိတ်ဆွေများ၏ အဆင်းနှင့်အနေအထားကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ မျက်စေ့သည် ထကြွ၍လာ၏။ ကျွန်ုပ်တို့ ကြားဘူးသော တူရိယာသံ၊ သို့မဟုတ် အစာစားရင်းကြားလိုသော တူရိယာသံကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ နားသည် ထကြွ၍လာ၏။ ကျွန်ုပ်တို့ ရှူဘူးသော သို့မဟုတ် ရှူလိုသော အစာနှင့် ပန်း၏အနံ့ကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ နှာခေါင်းသည် ထကြွ၍လာ၏။ ကျွန်ုပ်တို့ အရသာခံဘူးသော သို့မဟုတ် ခံလိုသော အစာ၏ အကြောင်းကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ လျှာသည် ထကြွ၍လာ၏။ အစာစားသည့်အခါတွင် ကျွန်ုပ်တို့ ရရှိနိုင်လိမ့်မည့် သို့မဟုတ် ရရှိမည့် သို့မဟုတ် ရရှိလိုသည့် လေအေး၊ ပုဂံခွက်ယောက်၊ ပျော့သော အစာအကြောင်းများကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ ထိတွေ့မှုအင်္ဂါသည် ထကြွ၍လာ၏။ ထိုနည်းတူစွာပင် ကျွန်ုပ်တို့ မိတ်ဆွေများနှင့် တွေ့ဆုံရမည့် သာယာသော အဖြစ်ကို ကြံစီလိုက်သောအခါတွင် ကျွန်ုပ်တို့၏ နှလုံးသည် ထကြွ၍လာ၏။

## ကြံစီမှုသည် အာရုံသိမှုအင်္ဂါတို့၏ တာဝန်ဖြစ်ခြင်း

အထက်တွင် ပေါ်ပြခဲ့သော နည်းဖြင့် ကြံစီမှုအစဉ်မှာ အာရုံသိမှု အင်္ဂါတို့၏ တာဝန်သက်သက်ဖြစ်သည်ကို သိအပ်၏။ ကျွန်ုပ်တို့သည် ကျမ်းတစ်စောင်ကို ဖတ်နေသည့်အခါ၌ဖြစ်စေ၊ သင်္ချာ ပုစ္ဆာတစ်ခုကို တွက်ချက်နေသည့်အခါ၌ဖြစ်စေ၊

အိမ်တဆောင်ကို ဆောက်လုပ်နေသည့်အခါ၌ဖြစ်စေ၊ ဆန်းကြယ်သော စက်ကိရိယာတခုကို လုပ်ရန် ထိုးထွင်းကြံစီနေသည့်အခါ၌ဖြစ်စေ၊ အာရုံသိမှုအင်္ဂါတို့သည် ဦးနှောက်တို့၏ ကြံစီမှုတွင် အမြဲတမ်း အကူအညီ ပေးကြ၏။

သာမန်ကြံစီမှုများတွင် ယေဘုယျအားဖြင့် နှလုံးသည် အဓိက တာဝန်များကို ဝင်၍ ဆောင်ရွက် ပေး လေ့မရှိ။ ထိုသို့ဖြစ်ရခြင်းမှာ လူတို့သည် အများအားဖြင့် မိမိတို့ပြုလုပ်နေသော အလုပ်ကိစ္စများကို စိတ်အားထက်သန်စွာပြုလုပ်လေ့မရှိကြသော ကြောင့်ဖြစ်၏။ သို့ရာတွင် နှလုံးသားကို အသုံးပြု၍ လုပ်ကြသော လူတို့၏ လုပ်ဆောင်ပုံများကို ကြည့်ခြင်းအားဖြင့် ကြံစီမှုတို့အတွက် နှလုံးသည် အလွန်အရေးကြီးသည့်အကြောင်းကို သိနိုင်၏။ ဤအချက်နှင့်ဝပ်လျှင်းသော ဥပမာတို့မှာ ရိုးဖြောင့်သော နိုင်ငံရေးသမားများ၊ စိတ်အားထက်သန်သော သာသနာပြုများ၊ စေတနာမှန်သော ချစ်သူများ ဖြစ်၏။

လူတို့သည် ယေဘုယျအားဖြင့် စိတ်အားထက်သန်စွာ ကြံစီမှုကို ပြုလေ့မရှိကြသည်ကို အကြောင်းပြု၍ ဦးနှောက်သည် ကြံစီမှုခပ်သိမ်း၏ တည်ရာဖြစ်သည်ဟူသော အယူအဆသည် ပေါ်ပေါက်လျက်ရှိ၏။ သို့ရာတွင် ထိုအယူအဆ ပေါ်ပေါက်လာခဲ့ရခြင်းအကြောင်းကို အလွယ်တကူနှင့် ရှင်းပြနိုင်၏။

<u>အခြေခိုင်နေသော အထင်မှားမှု</u>

လည်ပင်း၏ အထက်တွင်ရှိသော ဦးနှောက်အတွင်း၌ ပတ်ဝန်းကျင်နှင့်ပတ်သက်သော အာရုံသိမှုအင်္ဂါငါးခု ရှိသည့်အနက် လေးခုသည် အမြဲတမ်းတည် နေ၏။ မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာဟု ဆိုအပ်သော အာရုံသိမှုအင်္ဂါလေးခုတို့သည် ဦးနှောက်အတွင်း၌ရှိကြပြီးလျှင် အထိအတွေ့ဟု ဆိုအပ်သော ပဉ္စမ အာရုံသည်လည်း ဦးနှောက်တခုလုံး၌ ပြန့်နှံ့၍တည်နေ၏။ ကြံစီသောအခါတွင် ဤအာရုံသိမှုအင်္ဂါငါးခုသည်သာလျှင် ထကြွခြင်းရှိကြသဖြင့် ကြံစီမှုမှန်သမျှသည် ဦးနှောက်အတွင်း၌ဖြစ်ပေါ်ကြသည်ဟု ထင်ရ၏။

တွေးတော၍ ကြည့်အပ်သော အာရုံပြန်မှုတို့သည် ယေဘုယျအားဖြင့် နှလုံးထိအောင် မရောက်ကြ၊ အဘယ်ကြောင့်ဆိုသော် အင်အား ပျော့ကြသဖြင့် လမ်းတဝက်တွင် ပျောက်ကွယ်၍သွားကြသော ကြောင့်ဖြစ်၏။ သို့ရာတွင် အာရုံပြန်မှုအားလုံးသည် သက်ဆိုင်ရာအာရုံသိမှုအင်္ဂါများကို ထိုးဖေါက်၍ နှလုံးဆီသို့

ရွေ့ရှားသွားကြ၏။ ဤနည်းဖြင့် ကြီမှုတို့သည် အများအားဖြင့် အာရုံသိမှုအင်္ဂါအမျိုးမျိုးထဲသို့ ပြွတ်သောင်းပြွတ်သောင်းတိုး ပေါက်၍သွားကြပြီးလျှင် နာမ်ဓါတ်၏ အတွင်းဘက်သို့ ရွေ့ရှားသွားကြ၏။ ဤနည်းဖြင့် ကြီမှုအာပဥဘဂုလုံးသည် ဦးခေါင်း၏ အလည်ခေါင်၌ တည်နေသည်ဟု ထင်ရ၏။ ထိုသို့ထင်ရခြင်းသည် အထင်မှားမှုဖြစ်၏။ ထိုသို့ အထင်မှားမှုသည် အခြားအထင်မှားမှုများကဲ့သို့ပင် လူတို့၏ အာရုံများသည် လျှင်မြန်စွာ လှုပ်ရှားနေသော စကြဝဠာ၏ အခြင်းအရာတို့ကို သိနိုင်လောက်အောင် အင်အားမရှိကြခြင်း ကြောင့်ဖြစ်၏။ ဤအထင်မှားမှုသည် အနိုင်မသိုးသော အထင်မှားမှုပင်ဖြစ်ဖွယ်ရှိ၏။ အဘယ့်ကြောင့်ဆိုသော် နာမ်ဓါတ်သည် စကြဝဠာအတွင်း၌ ဖြစ်ပေါ်နေသော လှုပ်ရှားသော အခြင်းအရာများ အနက် အလျှင်မြန်ဆုံးဖြစ်သော ကြောင့် ဖြစ်၏။

## ဦးနှောက်၏ တာဝန်များ

ဦးနှောက်တွင် ပတ်ဝန်းကျင်နှင့် ပတ်သက်သော အာရုံသိမှုအင်္ဂါများကို ထိန်းသိမ်း၍ ကျွန်ုပ်တို့၏ လှုပ်ရှားမှုကို ပိချုပ်ပေးမှုနှင့် ပတ်သက်၍ အလွန်တိကျသော တာဝန်တခုရှိသည့်မှာ သေချာ၏။ သို့ရာတွင် နာမ်ဓါတ်နှင့်ဆက်သွယ်မှုနှင့်ပတ်သက်၍မူ ဦးနှောက်သည် အထူးအရေးကြီးသောအရာမဟုတ်။

နာမ်ဓါတ်သည် တပြိုင်နက်ထည်း ရွေ့ရှားသဖြင့် နာမ်ဓါတ်၏ အမြန်နှုန်းကို တွက်၍မရ။ ထို့ပြင် နာမ်ဓါတ်သည် အရာဝတ္ထုများနှင့် ဟင်းလင်းပြင်ဓါတ် အပါအဝင် အားလုံးသော ရုပ်ဓါတ်သဏ္ဌာန်များအတွင်းသို့လည်း ထိုး ဖေါက်၍သွား၏။ ထို့ကြောင့် နာမ်ဓါတ်သည် ကျွန်ုပ်တို့ ကိုယ်ခန္ဓာ၏ အကူအညီကို များစွာမလို။ နာမ်ဓါတ်သည်၊ နှလုံး၊ မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် အသိအာရုံဟုဆိုအပ်သော အင်္ဂါခြောက်ခုကိုသာလျှင် အသုံးပြု၏။ ထိုခြောက်ခုအနက် နှလုံးသည် အဓိကဖြစ်၏။

## မစင်ကြယ်မှုနှင့် စင်ကြယ်မှုအာရုံများ

ဤအခန်းကိုအဆုံးမသတ်မီ ကျွန်ုပ်တို့၏ အာရုံသိမှုအင်္ဂါများ ထွက်ပေါ်လာသည့်အခါတို့တွင် ဖြစ်ပေါ်တတ်သော အာရုံအမျိုးမျိုးတို့သည် တခုနှင့်တခု မတူကြသည့် အဖြစ်ကို သိကြရန်လို၏။ ထပ်ဖြည့်အလျှင် ခြောက်ခုတို့ကြောင့် နာမ်ဓါတ်လှိုင်းများတွင် ဖြစ်ပေါ်လာသော နောက်ပွားအင်အားများ၏ ကျေးဇူးဖြင့် အာရုံသိမှုအင်္ဂါများ၌ နာမ်ဓါတ်ထိတွေ့မှုများ ပေါ်လာကြောင်းကို သိခဲ့ရပြီ။

ပတ်ဝန်းကျင်သိမှု အင်္ဂါများတွင် ပေါ်လာကြသည့် နာမ်ဓါတ်၏ ထိတွေ့မှုတို့သည် ယေဘုယျအားဖြင့် ပေါ်လာရာ နေရာ၌ပင် ပျောက်ကွယ်ကြ၏။ ဤနည်းဖြင့် ၎င်းတို့သည် နာမ်ဓါတ်ကို ဖြောပလောက်အောင် ထိခိုက်ခြင်း မဖြစ်နိုင်ကြ။ သို့ရာတွင် အချို့ကမူ နာမ်ဓါတ်ကိန်းအောင်းရာနှလုံးသို့ ရောက်အောင် ဦးတိုက် တိုးဝင်၍ သွားကြ၏။ ၎င်းတို့သည် အင်အားပြင်းသည်ဖြစ်စေ ဖြော့သည်ဖြစ်စေ အားလုံးပင် နာမ်ဓါတ်အတွင်းသို့ နက်ရှိုင်းစွာ တိုးဝင်ကြ၏။ ထိုသို့ တိုးဝင်ခြင်းတို့သည် နာမ်ဓါတ်အား အရောင်တောက်စေ၏။ ထိုသို့သော အရောင်သည် နာမ်ဓါတ်၏ အတွင်းဘက်၌ ရောင်ခြည်များကို ဖြစ်ပေါ်စေပြီးလျှင် တခုနှင့်တခု မတူသော တုန့်ပြန်မှုနှစ်မျိုးကို ဖြပ်ပေါ်စေ၏။ ထိုနှစ်မျိုးမှာ မစင်ကြယ်မှု (အကုသလ) နှင့် စင်ကြယ်မှု (ကုသလ) တို့ ဖြစ်၏။

ကျွန်ုပ်တို့၏ အာရုံတို့သည် အဆိုပါ အမျိုးအစားနှစ်ခုအနက် တခုအဖြစ်သို့ ရောက်နိုင်လောက်အောင် အင်အားရှိလာသောအခါကျမှသာလျှင် အာရုံများ ရှိကြောင်းကို ကျွန်ုပ်တို့သိနိုင်၏။ ထို့ကြောင့် ကျွန်ုပ်တို့၏ အာရုံများမှာ မစင်ကြယ်သော အာရုံများဖြစ်လျှင်ဖြစ်၊ မဖြစ်လျှင် စင်ကြယ်သော အာရုံများသာဖြစ်နိုင်၏။

## မစင်ကြယ်မှုနှင့် စင်ကြယ်မှုတို့ကို အတန်းအစား ခွဲခြားမှု

နာမ်ဓါတ်တွင်း၌ အရောင်တောက်မှု ၃၉ မျိုးရှိ၏။ ၎င်းတို့အနက် ၁၄ မျိုးမှာ မစင်ကြယ်မှုအလျှင်များဖြင့်၍ ကျန်သည့် ၂၅ မျိုးမှာ စင်ကြယ်သော အလျှင်များဖြစ်၏။

ထိုအရောင်တောက်မှုများကို သက်ဆိုင်ရာ ဂုဏ်အလိုက် ဗုဒ္ဓက အောက်ပါအစဉ်အတိုင်း ခွဲခြား ဖော်ပြ၏။

## နာမ်ဓါတ်၏ စင်ကြယ်မှုအင်္ဂါ ၂၅ မျိုး

နာမ်ဓါတ်၏ ယေဘုယျတင့်တယ်ခြင်းအင်္ဂါများ ( သောဘနသာဓါရန )

၁။ ယုံကြည်မှု ( သဒ္ဓါ )

၂။ သတိရှိမှု ( သတိ )

၃။ မကောင်းမှုကို ရှက်ခြင်း ( ဟိရိ )

၄။ မကောင်းမှုကို ကြောက်ခြင်း (ဩတ္တပ္ပ)

၅။ တပ်မက်မှုကင်းခြင်း (အလောဘ)

၆။ မေတ္တာစိတ်ရှိခြင်း (အဒေါသ)

၇။ တည်ကြည်ခြင်း (တတြမဇ္ဈတ္တတာ)

၈။ ကိုယ်ကာယသည် ငြိမ်မှု (ကာယပဿဒ္ဓိ)

၉။ စိတ်သည် ငြိမ်မှု (စိတ္တပဿဒ္ဓိ)

၁၀။ စိတ်ဓါတ်အင်္ဂါတို့ ပေါ့ပါးခြင်း (ကာယလဟုတာ)

၁၁။ စိတ်ဓါတ် ပေါ့ပါးခြင်း (စိတ္တလဟုတာ)

၁၂။ စိတ်ဓါတ်အင်္ဂါတို့၏ နူးညံ့ခြင်း (ကာယမုဒုတာ)

၁၃။ စိတ်ဓါတ်၏ နူးညံ့ခြင်း (စိတ္တမုဒုတာ)

၁၄။ စိတ်ဓါတ်အင်္ဂါတို့ ကြန့်ခိုင်ခြင်း (ကာယကမ္မညတာ)

၁၅။ စိတ်ဓါတ်ကြန့်ခိုင်ခြင်း (စိတ္တကမ္မညတာ)

၁၆။ စိတ်ဓါတ်အင်္ဂါတို့ စွမ်းအင်ရှိခြင်း (ကာယပါဂုညတာ)

၁၇။ စိတ်ဓါတ်၏ စွမ်းအင်ရှိခြင်း (စိတ္တပါဂုညတာ)

၁၈။ ကိုယ်၏ ဖြောင့်မတ်ခြင်း (ကာယုဇ္ဇုကတာ)

၁၉။ စိတ်၏ ဖြောင့်မတ်ခြင်း (စိတ္တုဇ္ဇုကတာ)

### စိတ်ဓါတ်၏ ရှောင်ကြဉ်မှုအင်္ဂါများ (ဝိရတိ)

၂၀။ မှန်သောစကားကိုဆိုခြင်း (သမ္မာဝါစာ)

၂၁။ မှန်သော အမှုကို ပြုခြင်း (သမ္မာကမ္မန္တ)

၂၂။ မှန်သော အသက်မွေးမှုရှိခြင်း (သမ္မာအာဇီဝ)

### စိတ်ဓါတ်၏ အပိုင်းအခြားမရှိသော ကြင်နာမှုအင်္ဂါ (အပ္ပမညာ)

၂၃။ သတ္တဝါအားလုံးကို သနားခြင်း (ကရုဏာ)

၂၄။ သတ္တဝါအားလုံး၏ ကောင်းကျိုးကိုလိုခြင်း (မုဒိတာ)

### စိတ်ဓါတ်၏ ထွန်းတောက်မှုအင်္ဂါ

၂၅။ မသိမှုနှင့် ဆန့်ကျင်ဘက်ဖြစ်သော သိမှု (ပညာ)

## နာမ်ဓါတ်၏ မစင်ကြယ်မှုအင်္ဂါ ၁၄ ခု

၁။ မသိမှု ( မောဟ )

၂။ မကောင်းမှုကို အရှက်မရှိခြင်း ( အဟိရိက )

၃။ မကောင်းမှုကို မကြောက်ခြင်း ( အနောတ္တပ္ပ )

၄။ ပြန့်လွင့်ခြင်း ( ဥဒ္ဓစ္စ )

၅။ တပ်မက်ခြင်း ( လောဘ )

၆။ အမြင်မှားခြင်း ( ဒိဋ္ဌိ )

၇။ ထောင်လွှားခြင်း ( မာန )

၈။ မုံးတီးခြင်း ( ဒေါသ )

၉။ မနာလိုခြင်း ( ဣဿာ )

၁၀။ တိုထွာခြင်း ( မစ္ဆရိယ )

၁၁။ နောင်တဖြုပ်ခြင်း ( ကုက္ကုစ္စ )

၁၂။ ကိုယ်ကာယ မအီမသာခြင်း ( ထိန )

၁၃။ စိတ်မအီမသာခြင်း ( မိဒ္ဓ )

၁၄။ ဆုံးဖြတ်နိုင်မှု မရှိခြင်း ( ဝိစိကိစ္ဆာ )

ကျွန်ုပ်တို့၏ ကြံစည်မှုများတွင် မစင်ကြယ်မှုနှင့် စင်ကြယ်မှုရောင်ခြည်တို့ မည်ကဲ့သို့ ရောစပ်၍ နေပုံနှင့် အချင်းချင်း မည်ကဲ့သို့ အပြန်အလှန်ထိခိုက်ကြပုံများ အကြောင်းကို နောက်အခန်းတွင် ဖော်ပြအံ့ ။

## အခန်း ၇။

## နာဗ်ပါဟ်နှင့်နာဗ်ပါဟ်အခြေအနေများ

နာဗ်ပါဟ်သည် အင်အားအမျိုးမျိုးတို့၏ အစုအပေါင်းတခုသာဖြစ်သည့် အကြောင်းကို သိခဲ့ကြပြီ။ နာဗ်ပါဟ်၏ အင်အားမှာ အာရုံပြန်မှုများကို ခံယူနိုင်စွမ်းရှိခြင်းနှင့် အာရုံပြန်မှုပါဟ်တို့ကို ဖြစ်ပေါ်စေနိုင်စွမ်းရှိခြင်းပင်ဖြစ်၏။ နာဗ်ပါတ်၏ အင်အားမှာ သဘာဝတခုနှင့်တခု မတူကြ။ သဘာဝတို့ တခုနှင့်တခု နာဗ်ပါတ်အင်အားခြင်း မတူကြခြင်းမှာ မိမိတို့၏ သက်ဆိုင်ရာ နာဗ်ပါတ်များ အတွင်း၌စုဝေးနေကြသော မစင်ကြယ်မှုနှင့် စင်ကြယ်မှုတို့၏ အမျိုးအစားအနည်းအများမတူကြခြင်းကြောင့်ဖြစ်၏။ ဤအခန်းတွင် ပေါ်ပြမည့်အဓိက အကြောင်းကို မဆွေးနွေးမီတွင်၊ နာဗ်ပါဟ်အတွင်းသို့ မစင်ကြယ်မှုအင်အားများနှင့် စင်ကြယ်မှုအင်အားများ ရောက်လာကြပုံကို၎င်း၊ ထိုအင်အားတို့သည် တခုနှင့်တခု မည်ကဲ့သို့ခြားနားကြပုံကို၎င်း၊ ထိုအင်အားတို့သည် အဘယ့်ကြောင့် နာဗ်ပါဟ်အမျိုးမျိုးအတွင်း၌ ခြားနားခြင်းကို ဖြစ်ပေါ်စေကြပုံကို၎င်း၊ လေ့လာကြဘို့လို၏။ ထို့ကြောင့် ထိုသို့လေ့လာနိုင်ကြစေခြင်းအကျိုးငှါ နာဗ်ပါဟ်၏ ဂုဏ်များအကြောင်းကို ထပ်၍ လေ့လာကြဘို့လို၏။

အင်အားအနည်းဆုံးဖြစ်သော နာဗ်ပါဟ်သည်ပင်လျှင် မိမိအပေါ်သို့ ကျရောက်လာသမျှသော အာရုံပြန်မှုတို့ကို မှတ်သားနိုင်သော သိမ်မွေ့သော အင်အားရှိ၏။ အာရုံပြန်မှုများကို မှတ်သားရာတွင် နာဗ်ပါဟ်သည် အလွန်လျှင် သိမ်မွေ့လှသော ရုပ်ပုံသွန်းပရောင်းနှင့်တူ၏။ နာဗ်ပါဟ်သည် အလွန်လျှင် သိမ်မွေ့၍ သေချာလှသဖြင့် မိမိအပေါ်သို့ကျရောက်လာသော အာရုံပြန်မှု အသိမ်းသိမ်း၌ပါသော အသေးငယ်ဆုံးဖြစ်သော အချက်အလက်ကလေးများကိုပင်လျှင် တိကျစွာ တသင့်ပြန်၍ ပေါ်ပြနိုင်၏။ ထိုသို့ တသင့်ပြန်၍ ပေါ်ပြအပ်သော အာရုံပြန်မှု အားလုံးသည် နာဗ်ပါဟ်၏ အတွင်းအကျုံးအင်အားဖြစ်သော အသက်ရှင်မှုအလျှင် အတွင်းသို့ မှတ်တမ်းများအဖြစ်နှင့် ဝင်ကြ၏။

## နာဗ်ပါဟ်၏ ပြန့်ပြန်ဟပ်သော အာရုံပြန်မှုများ

သက်ရှင်မှုအလျှင်အတွင်းသို့ ဝင်လာကြသော အာရုံပြန်မှုတို့သည် ထိုအလျှင်အတွင်းသို့ ယခင်က ရောက်နေနှင့်ကြသည့် အာရုံပြန်မှုများ၏ မှတ်တမ်းများဟု ဆိုအပ်သော အင်အားများနှင့် ရင်ဆိုင်ကြရ၏။ အဘယ်၌ နာဗ်ပါဟ်၏

အသက်ရှင်မှုအလျှင်အဘွင်း၌ ယခင်က ရောက်နေနှင့်သော စင်ကြယ်မှုအင်အားတို့သည် ကြီးမားကြသည်ဖြစ်မူ နောက်ထပ်စင်ကြယ်မှုအင်အားတို့သည် အဝှိန်မပျက် ဝင်လာနိုင်ကြ၏။ သို့ရာတွင် ထိုအလျှင်အဘွင်းသို့ မစင်ကြယ်မှုတို့ ဝင်လာကြသည်ဖြစ်မူထိုသို့ ဝင်လာကြသော မစင်ကြယ်မှုတို့၏ အဝှိန်သည် သိသိသာသာကြီး လျော့၍သွား၏။ အပြန်အလှန်သဘောအားဖြင့်လည်း အကယ်၍အသက်ရှင်မှုအလျှင်အဘွင်း၌ မစင်ကြယ်မှုတို့သည် အမြောက်အမြား ရောက်နှင့်နေသည်ဖြစ်မူ ထိုအလျှင်အဘွင်းသို့ နောက်ထပ်မစင်ကြယ်မှုတို့သည် အဝှိန်မပျက်ဝင်လာနိုင်၏။ သို့ရာတွင် ထိုအသက်ရှင်မှုအလျှင်အဘွင်းသို့ စင်ကြယ်မှုတို့သည် ဝင်လာကြသည်ဖြစ်မူ ထိုစင်ကြယ်မှုတို့၏ အဝှိန်သည် သိသိသာသာကြီး လျော့၍သွား၏။

အင်အားကြီးသော အာရုံပြန်မှုတို့သည် ဆန့်ကျင်ဘက်အင်အားများနှင့် တွေ့ဆုံပြီးသည့်နောက်အဖို့၌ပင် အသက်ရှင်မှုအလျှင်အဘွင်းသို့ ဝင်ရောက်နိုင်သော အင်အားရှိကြ၏။ အဆိုပါ အာရုံပြန်မှုတို့သည် အသက်ရှင်မှုအလျှင်အဘွင်းသို့ မိမိတို့ပါ မိမိတို့ သက်မှတ်ထားသော အစဉ်ဖြင့် ဝင်ရောက်၍ကိန်းဝပ်ကြ၏။

သို့ရာတွင် အင်အားနည်းသော မစင်ကြယ်မှုတို့သည် ယေဘုယျအားဖြင့် အသက်ရှင်မှုအလျှင်အဘွင်း၌ ရှိနေနှင့်သော စင်ကြယ်မှုတို့ကြောင့် လုံးဝပျောက်ကွယ်သွားကြ၏။ အပြန်အလှန်နည်းအားဖြင့်လည်း အင်အားနည်းသောစင်ကြယ်မှုတို့သည် ရှိနှင့်ပြီးအင်အားကောင်းသော မစင်ကြယ်မှုတို့ကြောင့် ပျောက်ကွယ်သွားကြ၏။ သို့ရာတွင် စင်ကြယ်မှုနှင့် မစင်ကြယ်မှုတို့ တခုနှင့်တခု ပဋိပက္ခဖြစ်ကြသော အခါတွင် အသက်ရှင်မှုအလျှင်အဘွင်းတွင် ကျန်နေသည့် စင်ကြယ်မှုနှင့် မစင်ကြယ်မှုတို့ အင်အားသည် ပြောင်းလွဲ၍သွား၏။

ဥပမာဆိုသော် အသက်ရှင်မှုအလျှင်အဘွင်း၌စုဝေး၍နေသော စင်ကြယ်မှုအင်အားတို့က မစင်ကြယ်မှုအင်အားတို့ကို ဖျောက်ဖျက်၍ပစ်လိုက်သော အခါတွင် စင်ကြယ်မှုအင်အားတို့သည် အချိုးကျလျော့၍သွား၏။ ထို့ကြောင့် အင်အားပြေသော မစင်ကြယ်မှုတို့သည် မိမိတို့ရှိရင်းအင်အားအတိုင်းအသက်ရှင်မှုအလျှင်အဘွင်းသို့ မဝင်နိုင်သော်လည်း ထိုအလျှင်အဘွင်းတွင် ရှိနှင့်နေသော စင်ကြယ်မှုအင်အားတို့ကို လျော့ပေါ့သွားစေ၏။ ထိုနည်းအတိုင်းပင် အင်အားအပြေဆုံးဖြစ်သော စင်ကြယ်မှုတို့သည် ရှိနှင့်နေသော မစင်ကြယ်မှုအင်အားတို့ကို လျော့ပေါ့သွားစေနိုင်သော အစွမ်းရှိ၏။ အဘယ့်ကြောင့်ဆိုသော် မစင်ကြယ်မှုတို့မှာ စင်ကြယ်မှုတို့က တိုက်ခိုက်ဖျက်ဆီးပစ်သလောက် အချိုးကျလျော့၍သွားကြသောကြောင့် ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်တို့၏ နာမ်ပါတ်သို့ ထိခိုက်လာကြသော အာရုံပြန်မှုအားလုံးသည် ကျွန်ုပ်တို့၏ နာမ်ပါတ်အား စင်ကြယ်မှုဖက်သို့၄င်း၊ မစင်ကြယ်မှုဖက်သို့၄င်း ပြောင်းလွဲစေ၏။

## နာမ်ဓါတ် အစဉ်ဖြစ်ပေါ်ပုံ

(နာမ်ဓါတ်၏ အခြင်းအရာများကို ဖော်ပြရာဖြစ်သော) ပြီးခဲ့သော အခန်းတွင် နာမ်ဓါတ်၌ ပါဝင်သော အင်အား ၅၂ မျိုး အကြောင်းကို ဖော်ပြခဲ့ပြီ။ နာမ်ဓါတ်၏ ယေဘုယျအလျှင်ခုနှစ် (သဗ္ဗစိတ္တသာဓာရဏ) သည် အခါခပ်သိမ်း ထကြွ၍ နေကြ၏။ ၎င်းတို့အနက် အသက်ရှင်မှုအလျှင် (ဇီဝိတိန္ဒြေ) သည် အင်အား အကြီးဆုံးဖြစ်၏။ အခြားသော အလျှင်တို့၏ အင်အားက အသက်ရှင်မှုအလျှင်၏ အင်အားကို အမှီပြုရ၏။ အသက်ရှင်မှု အလျှင်၏ အင်အားကလည်း အခြားအလျှင်တို့၏ အင်အားကို အမှီပြုရ၏။ အသက်ရှင်မှု အလျှင်နှင့် အခြားသော အလျှင်တို့သည် အပြန်အလှန် ကျေးဇူးပြုကြ၏။ အသက်ရှင်မှုအလျှင်က အခြားသော အလျှင်တို့ကို ဖြစ်ပေါ်စေ၍ အခြားသောအလျှင်တို့က အသက်ရှင်မှုအလျှင်ကို တည်နေစေ၏။ အသက်ရှင်မှုအလျှင်နှင့် အခြားအလျှင်တို့ အပြန်အလှန် ကျေးဇူးပြုမှုက နာမ်ဓါတ်အစဉ်ကို ဖြစ်ပေါ်စေ၏။

## နာမ်ဓါတ်အင်အား ပြောင်းလဲမှုများ

ပြီးခဲ့သော အခန်းတွင် နာမ်ဓါတ်၏ မြူမှုပုံကို ဖော်ပြခဲ့၏။ အသက်ရှင်မှုအလျှင်က အခြားအလျှင် ခြောက်ခုကို ဖြစ်ပေါ်စေ၍ ၎င်းတို့ နှစ်ရပ်ပေါင်းက ထပ်ဖြည့်အလျှင် ခြောက်ခုကို ဖြစ်ပေါ်စေ၏။ အဆိုပါအလျှင် ၁၃ ခု၏ စုပေါင်းသော အင်အားက စင်ကြယ်မှု မစင်ကြယ်မှုတို့နှင့် သက်ဆိုင်သော အာရုံအလျှင် ၃၉ ကို ဖြစ်ပေါ်စေ၏။ စင်ကြယ်မှုအလျှင်က ၂၅ ခုရှိ၍ မစင်ကြယ်မှုအလျှင်က ၁၄ ခုရှိပြီးလျှင် ၎င်းတို့က အမျိုးမျိုး ပေါင်းစပ်၍ ကျွန်ုပ်တို့၏ ကြံစည်မှုနှင့် အာရုံခံစားမှုများကို ဖြစ်ပေါ်စေ၏။

ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သော အသီးသီးသောစင်ကြယ်မှုအလျှင်၏လှိုင်းတို့သည် အသက်ရှင်မှု အလျှင်အတွင်းသို့ မိမိတို့နှင့် အလားတူသော အာရုံပြန်မှုတို့ကို ပို့ကြ၏။ ထို့ပြင် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သော မစင်ကြယ်မှုအလျှင်လှိုင်းအသီးသီးတို့ကလည်း အသက်ရှင်မှု အလျှင်အတွင်းသို့ မိမိတို့နှင့် အလားတူသော အာရုံပြန်မှုတို့ကို ပို့ကြ၏။ ဤနည်းဖြင့် အသက်ရှင်မှု အလျှင်အတွင်းသို့ ရောက်သွားကြသော အင်အားတို့သည် တုန့်ပြန်မှု အင်အားတို့၏ ဒဏ်ကို ခံကြရ၏။ အသက်ရှင်မှုအလျှင်အတွင်း၌ရှိ အင်အားတို့သည် အာရုံပြန်မှုတို့၏ အင်အားအလိုက် ပြောင်းလဲခြင်းရှိ၏။ အသက်ရှင်မှုအလျှင်၏ အင်အားသည် အခြားအလျှင်အားလုံးသို့ ရောက်သဖြင့် ကျွန်ုပ်တို့၏ အာရုံခံစားမှုသည် အသက်ရှင်မှုအလျှင်၏ အင်အားအလိုက် ပြင်းခြင်း ပျော့ခြင်း ရှိ၏။

မစင်ကြွယ်မှုဟု ဝင်ရောက်လာခြင်းသည် အသက်ရှင်မှုအလျင်ကို အင်အားနည်း ပေပြီးလျှင် စင်ကြွယ်မှုဟု ဝင်ရောက်လာခြင်းသည် အသက်ရှင်မှုအလျင်ကို ပို၍အင်အား ကောင်းစေ၏။ တစုံတခု သော နာမ်၏ လှုပ်ရှားမှုတခု အတွင်း၌ မစင်ကြွယ်မှုအလျင်များဖြစ် ပေါ်လာခြင်းထက် စင်ကြွယ်မှုအလျင်များဖြစ် ပေါ်လာခြင်းက များ၏။ ထိုနည်းဆိုသော် မစင်ကြွယ်မှုအလျင်များ မဖြစ်ပေါ်ဘဲ နှင့် စင်ကြွယ်မှုအလျင်ချည်းဖြစ်ပေါ်သည်ဖြစ်မူ အဆိုပါအလျင်တို့က အသက်ရှင်မှုအလျင် သို့ ပို့ကြသော အာရုံပြန်မှုဟုသည် အသက်ရှင်မှုအလျင်၏ အင်အားကို တိုးတက်လာ စေနိုင်၏။ ဤနည်းဖြင့် နောက်တကြိမ် နာမ်ဓါတ်လှုပ်ရှားမှုသို့ ဆက်၍သွားသော အသက်ရှင်မှုအလျင်သည် ပို၍ပို၍အင်အား ကောင်းလာ၏။ ထို့ကြောင့် အသက်ရှင်မှု အလျင်၏ အင်အားအလိုက်ဖြစ်ပေါ်လာကြသည့် စင်ကြွယ်မှုအလျင်နှင့် မစင်ကြွယ်မှု အလျင်တို့၏ အင်အားသည်လည်း ပို၍ တိုးတက်လာ၏။

## နာမ်ဓါတ်၏ အင်အားတိုးသည် အမြဲတန်းသိမှုနောက်ကြောင်း

ဤနည်းဖြင့် ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျင်သည် အခါခပ်သိမ်းအင်အား တိုးခြင်း၊ လျော့ခြင်းများနှင့် တွေ့ကြုံနေရ၏။ အသက်ရှင်မှုအလျင်သည် နာမ်ဓါတ်၏ လှုပ်ရှားမှုတခုမှတခုသို့ ကူးတိုင်းကူးတိုင်း လက်ကျန်အင်အား အသစ်နှင့်ကူး၍ အင် အားအသစ်ကို ထူထောင်၏။ နာမ်ဓါတ်တခုလုံးက အသက်ရှင်မှု အလျင်၏ အင်အားကို အမှီပြု၍ နေရပြီးလျှင်၊ နာမ်ဓါတ်တခုလုံးကလည်း အင်အားလက်ကျန်အသစ်ဖြင့် လှုပ် ရှားမှုစတိုင်းစတိုင်း အင်အားအသစ်ကို သုံးသဖြင့် ကျွန်ုပ်တို့ ကြံစီမှုတို့၏ အင်အားသည် တချိန်နှင့်တချိန် ခြားနားခြင်း ရှိကြ၏။

တနာရီ သို့မဟုတ် တနေ့ဟု ဆိုအပ်သော ဟုသော ကာလအပိုင်းအခြား အတွင်း၌ဖြစ်ပေါ်သော နာမ်ဓါတ်အင်အား ပြောင်းလဲခြင်းတို့သည် ကျွန်ုပ်တို့အဖို့ ထင်ရှားချင်မှထင်ရှားမည်ဖြစ်သော်လည်း ကျွန်ုပ်တို့၏ သက်တမ်းတခုလုံးအတွင်း၌ ဖြစ်ပေါ်သော နာမ်ဓါတ်၏ အင်အား ပြောင်းလဲခြင်းတို့ကို စဉ်းစား၍ ကြည့်မည် ဆိုလျှင် ထိုသို့ပြောင်းလဲခြင်းတို့သည် အဘယ်မျှ လောက်ကြီးမားသည်ကို သိနိုင်လိမ့်မည် ဖြစ်၏။

## ထင်မြင်ချက် ကွဲပြားခြင်းများ

ဤနည်းဖြင့် နာမ်ဓါတ် အသီးသီးတို့၏ အသက်ရှင်မှု အလျှင်အတွင်း၌ စင်ကြယ်မှုနှင့် မစင်ကြယ်မှုအင်အားတို့၏ ခြားနားချက်သည် တချိန်နှင့်တချိန် မတူကြ။ အသက်ရှင်မှုအလျှင်အတွင်း၌ ရှိသော စင်ကြယ်မှုနှင့် မစင်ကြယ်မှုတို့အလိုက် နာမ်ဓါတ်အသီးသီးတို့၏ အင်အားသည် ခြားနားကြ၏။ ထို့ပြင် နာမ်ဓါတ်တို့၏ အင်အားခြားနားခြင်းရှိသည့်အလိုက် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သော ကြံစီမှုတို့၏ အင်အားအပြင်းအပျော့သည်လည်း ခြားနားခြင်း ရှိ၏။ ကျွန်ုပ်တို့ ကြံစီမှုတို့၏ အင်အားသည် အပြင်းအပျော့ ခြားနားခြင်းရှိကြသည့်အတွက် ကျွန်ုပ်တို့၏ ထင်မြင်ချက်တို့သည် လည်း တယောက်၏ ထင်မြင်ချက်နှင့် တယောက်၏ ထင်မြင်ချက် မတူကြခြင်းဖြစ်၏။ ထို့ကြောင့် သတ္တဝါအမျိုးမျိုးတို့၏ ထင်မြင်ချက်သည် တဦး၏ ထင်မြင်ချက်နှင့် တဦး၏ ထင်မြင်ချက် ခြားနားကြခြင်းဖြစ်၏။ ထိုသို့ ခြားနားကြခြင်းမှာ နာမ်ဓါတ်တို့၏ အင်အားချင်းသည် တခုနှင့်တခု မတူကြသည့်အတွက် ကြံစီမှုတို့သည် တဦး၏ ကြံစီမှုနှင့် တဦး၏ ကြံစီမှုတို့ ခြားနားကြသော ကြောင့်ဖြစ်၏။

အကယ်၍ လူဆယ်ယောက်သည် အရာဝတ္ထုတခုကို ကြည့်ကြမည်ဆိုလျှင် ဆယ်မျိုး ကွဲ၍မြင်ကြမည်ဖြစ်၏။ ဘယ်သူ၏ အမြင်နှင့် ဘယ်သူ၏ အမြင်သည် မျှ တူလိမ့်မည် မဟုတ်။ အချို့၏အမြင်သည် အနည်းငယ်ခြားနား၍ အချို့၏ အမြင်သည် အကြီးအကျယ်ခြားနားမည်ဖြစ်၏။ ထိုနည်းအတိုင်းပင် တစုံတယောက်သောသူသည် အရာဝတ္ထုတခုကို ဆယ်ခါကြည့်လျှင် ထိုသူသည် ဆယ်မျိုးမြင်မည်သာဖြစ်၏။ သို့ရာတွင် ထိုသူ၏ တခါမြင်ပုံနှင့် တခါမြင်ပုံတို့မှာ အကြီးအကျယ်ခြားနားခြင်း ရှိချင်မှ ရှိမည်။ ထိုသို့ မြင်ပုံတို့ ခြားနားကြခြင်းမှာ နာမ်ဓါတ်အတွင်း၌ရှိ အသက်ရှင်မှုအလျှင်တို့၏ အင်အားချင်း တခုနှင့် တခု မတူကြခြင်း ကြောင့်ဖြစ်၏။ လူတဦးတယောက်အဖို့တွင် မြင်ပုံခြင်းခြားနားခြင်းမှာမူကား အသက်ရှင်မှုအင်အားသည် တချိန်နှင့်တချိန် မတူသော ကြောင့် ဖြစ်၏။

အသီးသီး သော နာမ်ဓါတ်တို့၏ အသက်ရှင်မှု အလျှင်၏ အင်အားသည် အချိန်အသီးသီး၌ သူ့အလိုအလျောက် လျောက်ပတ်၍ သေချာစွာမျှတ၍ နေသဖြင့် အပြင်ပမှ နေ၍ ထိန်း ပေးဘို့မလို။ နာမ်ဓါတ်အသီးသီးတို့အား မိမိတို့ကိုယ်ပိုင် အသက်ရှင်မှုအလျှင်၏အင်အားက အချိန်ကာလခရီးတလျှောက်တွင် ဆောင်၍နေကြ၏။ ထိုအသက်ရှင်မှုအလျှင်ကပင်လျှင် သူတို့၏ အင်အားကိုလည်း မျှတအောင် ပြုပြင်ပေးနေ၏။ ထို့ပြင် ဟင်းလင်းပြင်ဓါတ်အတွင်း၌လည်း ထိုအသက်ရှင်မှုအလျှင်ကပင်လျှင် ဝဲ့ကိုင်၍ ပေးနေ၏။

## နာမ်ဓါတ် အင်အားကုန်ခမ်းမှု

နာမ်ဓါတ်၏ အင်အားများသည် အချိန်ကာလ လမ်းကြောင်းတလျှောက် သွားနေရသဖြင့် အတော်များစွာ ကုန်ခမ်းသွား၏။ နာမ်ဓါတ်သည် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း စက်ဝန်းအတွင်း၌ အစဉ်မပြတ် လျှင်မြန်စွာ လှည့်လည်နေ၏။ ထိုသို့ လှည့်လည်နေနိုင်ရန်အတွက် လိုသော အင်အားကို အသက်ရှင်မှုအလျှင်မှ ရ၏။ နာမ်ဓါတ်သည် မိမိတည်နေသော ဘဝအဆန့်အတန်းမြင့်လေလေ မိမိ၏ အသက်ရှင်မှုအလျှင်သည် အင်အားများကို ပိုမို၍သုံးစွဲရလေလေ ဖြစ်၏။ ဘဝတွင် ဆက်လက်တည်နေခြင်းသည် အသက်ရှင်မှုအလျှင်၏ အဖို့တွင် အင်အားကုန်ခမ်းခြင်း အကြောင်း ဖြစ်၏။ သို့ရာတွင် အသက်ရှင်မှုအလျှင်သည် ထိုကဲ့သို့ အင်အားကိုကုန်ခမ်းအောင် အသုံးပြုနေသော်လည်း မိမိအတွင်း၌ရှိသော စင်ကြယ်မှုနှင့် မစင်ကြယ်မှုတို့က အင်အား အသစ်များကို ဖန်တီး၍ ပေးကြ၏။

နာမ်ဓါတ်သို့ ရောက်လာသော စင်ကြယ်မှုအဆောက်အအုံမှ ဖြစ်ပေါ်လာသော အင်အားများနှင့် နာမ်ဓါတ်ကို ပျော့ညံ့စေသည့် မစင်ကြယ်မှုအဆောက်အအုံမှ ဖြစ်ပေါ်လာသော အင်အားများက ဟင်းလင်းပြင်ဓါတ်အတွင်း၌ နာမ်ဓါတ်၏ လှုပ်ရှားမှုအားလုံးကို လျှောက်ပတ်အောင် ပြုပြင်ပေးကြ၏။ နာမ်ဓါတ် အသီးသီးတို့သည် မိမိတို့၏ စင်ကြယ်မှု အင်အားရှိသလောက် အဆင့်အတန်းမြင့်သော ဘဝဘက်သို့ ယိမ်းယိုင်ကြ၏။ ထို့ပြင် မိမိတို့၏ မစင်ကြယ်မှု အင်အားရှိသလောက် အဆင့်အတန်းနိမ့်သော ဘဝဘက်သို့ ယိမ်းယိုင်ကြ၏။ ထိုကဲ့သို့ တပြန်စီ တလှန်စီဖြစ်နေကြသော အင်အားနှစ်ခုသည် တခုအလိုသို့ တခုလိုက်ကြပြီးလျှင် နောက်ဆုံးတွင် အသက်ရှင်မှုအလျှင်က လျှောက်ပတ်သော အချိန်တွင် ထိုသို့ တပြန်စီ တလှန်စီ ဖြစ်နေခြင်းကို ရပ်ဆိုင်း၍ ထိုအားနှစ်ခုတို့ကို ညီမျှအောင်လုပ်ပေး၏။

နောက်အခန်းသို့ ရောက်၍ ပဋိသန္ဓေတည်ပုံအကြောင်းကို ဆွေးနွေးကြသောအခါတွင် ဤအကြောင်းကို ထပ်၍စုံလင်အောင် ဖော်ပြအံ့။ ယခုလောလောဆယ်အဖို့တွင် နာမ်ဓါတ်တို့သည် မိမိတို့၏ အတွင်း၌ရှိသော စင်ကြယ်မှု၊ မစင်ကြယ်မှု အနည်းအများအလိုက် ဘုံအမျိုးမျိုးတွင် မိမိတို့ သက်ဆိုင်ရာ ဟင်းလင်းပြင်ဓါတ်ထဲ၌ ရပ်တည်နေကြကြောင်းကိုသာ ဖော်ပြအံ့။ မည်သည့် ဟင်းလင်းပြင်ဓါတ်၊ မည်သည့်ဘုံတို့တွင်၊ မည်မျှ အချိန်ကာလရှည်ကြာသည့်ဆိုသည့်အချက်တို့မှာ စင်ကြယ်မှု အဆောက်အအုံနှင့် မစင်ကြယ်မှု အဆောက်အအုံတို့၏ ပမာဏအလိုက်ဖြစ်ပေါ်သော အသက်ရှင်မှုအလျှင်၏ အင်အားကိုလိုက်၍ဖြစ်ကြ၏။

## တသီးတခြား ဖြစ်ကြပုံ

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း နဝမ်ဂါဟ်အသီးသီးတို့သည် ဟင်းလင်းပြင်ဂါဟ်အတွင်း နေရာအမျိုးမျိုး၊ တိုအမျိုးမျိုးတွင် ရပ်တည်၍ နေကြရုံမျှမက အင်အားခြင်း မတူမျှများ ရှိနေကြခြင်းတို့ကြောင့် နဝမ်ဂါဟ်အသီးသီးတို့၏ ပရိုက်ခြင်း မတူမျှတို့သည် ဆက်လက်ဖြစ်ပေါ် နေကြ၏။

ဝင်ကြွယ်မှုအင်အားကြီးသော နဝမ်ဂါဟ်တို့သည် မိမိတို့နှင့် ထိုက်တန်သော ဟင်းလင်းပြင်ဂါဟ်အတွင်း၌ အဆင့်အတန်းမြင့်သော သတ္တဝါများအဖြစ် ပဋိသန္ဓေယူကြ၏။ မဝင်ကြွယ်မှုအင်အားကြီးသော နဝမ်ဂါဟ်တို့သည် မိမိတို့နှင့်ထိုက်တန်သော နေရာများ၌ အဆင့်အတန်းနိမ့်သော သတ္တဝါများအဖြစ် ပဋိသန္ဓေယူကြ၏။ အမြင့်ဆုံးတိုနှင့်အနိမ့်ဆုံးတိုတို့၏ ပဝိကြားတွင်လည်း သတ္တဝါအဆင့်အတန်းအမျိုးမျိုး ရှိသေး၏။ တတုံတည်းသော သတ္တဝါများအထဲ၌ပင် နဝမ်ဂါဟ်အမျိုးမျိုး ရှိ၏။

ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာဖြစ်ပေါ်လာပုံမှအစကပင် နဝမ်ဂါဟ်သည် အလွန်အရေးပါ၏။ ကိုယ်ခန္ဓာအဆောက်အအုံအမျိုးမျိုးဖြစ်ပေါ်ခြင်းမှာ နဝမ်ဂါဟ်အင်အားတို့ အမျိုးမျိုး ရှိသောကြောင့်ဖြစ်၏။ အမျိုးတူသော သတ္တဝါများသည်ပင် အချင်းချင်း တခုနှင့်တခု မတူကြ။ အမှန်အားဖြင့်ကြည့်လျှင် ညီကဲ့သို့ မတူကြသည့်အဖြစ်ကို တွေ့ချင်မှ တွေ့မည်ဖြစ်သော်လည်း သေသေချာချာကြည့်လျှင် ညီကဲ့သို့ မတူသည့်အဖြစ်ကို ထင်ရှားစွာ တွေ့ရလိမ့်မည်။ ခြားနားချက်မှာ ရုပ်ဂါဟ်၏ မတူမျှမျှသာ ဖြစ်၏။ သတ္တဝါတို့ တခုနှင့်တခု အကယ်ခြားနားကြခြင်းမှာ ၎င်းတို့၏ နဝမ်ဂါဟ်အတွင်း၌ရှိသော ဝင်ကြွယ်မှု မဝင်ကြွယ်မှု အဆောက်အအုံခြင်း မတူမှုကြောင့် နဝမ်ဂါဟ်တို့သည် အင်အားချင်း မတူကြမှုသာဖြစ်၏။

## နဝမ်ဂါဟ်အတွင်း၌ ဝင်ကြွယ်မှု မဝင်ကြွယ်မှု
## အဆောက်အအုံတို့ ထူးပွားပုံ

ဝင်ကြွယ်မှု မဝင်ကြွယ်မှုတို့မှာ နဝမ်ဂါဟ်အတွင်း၌ရှိသော အဆောက်အအုံနှင့် မျိုးဖြစ်ကြောင်းကို အထက်တွင် ဆိုခဲ့ပြီ။ အဆောက်အအုံတို့သည် အမြဲတမ်းတည်၍ မနေကြ။ ၎င်းတို့သည် နဝမ်ဂါဟ်နှင့်အတူ ဟင်းလင်းပြင်ဂါဟ်၏ ရွေ့လျှောက်မှုနှင့် အချိန်ကာလ၏ ရွေ့လျှောက်မှုတွင် လှည့်လည်၍ နေကြ၏။ ထိုကဲ့သို့ လှည့်လည် နေကြရင်းပင် ၎င်းတို့၏ အဆောက်အအုံ၏ အင်အားသည် ကြီးပွားလာ၏။

အသက်ရှင်မှု အလျှင်အတွင်း၌ ပင်ကြယ်မှုနှင့် မပင်ကြယ်မှု အဆောက်အအုံ ဖြစ်ပေါ်လာပုံသည် ကုန်လှောင်တိုက်ထဲသို့ ကုန်ပစ္စည်းများကို ထည့်သွင်းခြင်းနှင့် တူသည်ဟု မထင်မှတ်အပ်။ မြေဩဇာကောင်းသော လယ်မြေထဲသို့ မျိုးစေ့များ ကျရောက်သည့်နည်းတူ ပင်ကြယ်မှု မပင်ကြယ်မှုတို့သည် နာမ်ဓါတ်အတွင်းသို့ ဝင်ရောက်ကြ၏။ ၄င်းတို့သည် နာမ်ဓါတ်အတွင်းသို့ ရောက်ကြသည်နှင့်တပြိုင်နက် တခုနှင့်တခု အပြင်းအထန်ပြိုင်ဆိုင်၍ ပေါက်ပွားကြ၏။

## နာမ်ဓါတ်အတွင်းရှိ ပွဲလန်းမှုတို့၏ မျိုးစေ့နှင့် အသီးများ

ပင်ကြယ်မှုထုထည်နှင့် မပင်ကြယ်မှု အထုအထည်တို့သည် ပစ္စုပ္ပန်သို့မဟုတ် အတိတ် မည်သည့်အချိန်၌မဆို အလွန့်အလွန် များပြားလှပြီးလျှင် ကြီးပွားမှု အခြေအနေ အသင့်အကန်းလည်း အမျိုးမျိုးရှိကြသဖြင့် အသက်ရှင်မှု အလျှင်အတွင်း၌ အမြဲတန်း ထုပြောနေနိုင်ကြ၏။ ပင်ကြယ်မှုမျိုးစေ့တခုက မပင်ကြယ်မှု မျိုးစေ့ အားလုံးကို မှီအောင်လိုက်၍ ကြီးပွားနိုင်၏။ ထိုအတိုင်းပင် အပြန်အလှန်အားဖြင့် မပင်ကြယ်မှုမျိုးစေ့တခုကလည်း ပင်ကြယ်မှု မျိုးစေ့အားလုံးကို မှီအောင်လိုက်၍ လွှမ်းမိုးသွားနိုင်၏။ မျိုးစေ့အသီးသီးတို့သည် အချိန်တန်သောအခါတွင် အသီးသီးကြ၏။ ပင်ကြယ်မှုအပင်က သာယာသော အသီးကိုသီး၍ မပင်ကြယ်မှု အပင်က မသာယာသော အသီးကို သီး၏။

ကျွန်ုပ်တို့၏ နာမ်ဓါတ်ထဲတွင် ပွဲလမ်းမှုအထုအထည် အမြောက်အများရှိ၏။ ထိုအထုအထည်တို့သည် အမြဲပွားများလျက် နေကြ၏။ အသက်ရှင်မှု အလျှင်အတွင်းရှိ အသီးသီးသော ပွဲလမ်းမှုအသီးသီးတို့သည် တခုကတခုကို လွှမ်းမိုးသွားနိုင်ရန် အမြဲအားထုတ်နေကြ၏။ ၄င်းတို့အနက် အင်အားအကြီးဆုံးသော ပွဲလမ်းမှုသည် အခြားပွဲလမ်းမှုတို့ထက် စော၍ အသီးသီးကြ၏။ ထိုအခိုက်တွင် အင်အားနည်းသော ပွဲလန်းမှုတို့သည် ဆက်လက်၍ ကြီးပွားနေကြပြီးလျှင် အခြားပွဲလန်းမှုတို့ထက် အင်အားသာလာသည်နှင့် တပြိုက်နက် အသီးသီးကြပြီးလျှင် အခြားသော ပွဲလန်းမှုတို့၏ အသီးသီးမှုကို ပိတ်ပင်ကြ၊ နှောင့်နှေးစေကြ၏။

နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အသီးသီးတို့သည် ပင်ကြယ်မှုအလျှင်များနှင့် မပင်ကြယ်မှု အလျှင်များဆီမှ ပင်ကြယ်မှု မျိုးစေ့နှင့် မပင်ကြယ်မှုမျိုးစေ့များကို ရကြ၍ ပွင့်သီးကြပေ၏။ ပင်ကြယ်မှု မျိုးစေ့ပေါက်သည့် အသီးသီးကြသော အခါတွင် ပင်ကြယ်မှု အလျှင်တို့သည် ထကြွ၍ လာကြပြီးလျှင် ထိုသို့ထကြွ

ခြင်း၏ ကျေးဇူး ကြောင့် နာမ်ဓါတ်သည် သာယာသော အဖြစ်သို့ ရောက်၏။ ထို့အတူပင် မစင်ကြယ်မှု မျိုးစေ့တို့သည် အသီးကို ဆောင်ကြသောအခါတွင် မစင်ကြယ်မှုအလှုင်တို့သည် ထကြွ၍လာကြပြီးလျှင် ထိုသို့ ထကြွခြင်း၏ ကျေးဇူး ကြောင့် နာမ်ဓါတ်တခုလုံးသည် မသာယာသော အဖြစ်သို့ ရောက်၏။

## နာမ်ဓါတ်၏ ပြုမှုများနှင့် တုန့်ပြန်မှုများ၏ အကျိုးသက်များ

ဤနည်းဖြင့် စင်ကြယ်မှုအလှုင်များနှင့် မစင်ကြယ်မှု အလှုင်များကြောင့် ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် အကျိုးနှစ်မျိုးကို ခံစားရ၏။ ပထမ အကျိုးမှာ ၄င်းအလှုင်တို့က စွဲလန်းမှုအသစ်များကို ဖြစ်ပေါ်လာစေခြင်းဖြစ်၏။ ထိုစွဲလန်းမှုအသစ်တို့သည် ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှုအလှုင်အတွင်းသို့ မျိုးစေ့များအဖြစ်နှင့် ဝင်လာကြ၏။ ဒုတိယ အကျိုးမှာ ၄င်းအလှုင်တို့က ထိုသို့ အသက်ရှင်မှုအလှုင်အတွင်းသို့ ရောက်လာကြသော စွဲလန်းမှုတို့အား အသီးကို ဆောင်နိုင်ရန် ပတ်ဝန်းကျင်ကို ဖန်တီး၍ ပေးခြင်း ဖြစ်၏။ ကျွန်ုပ်တို့၏ ပြုလုပ်မှု (ကြိယာ) များကို ပြုလုပ်ရန် တိုက်တွန်း ပေးကြသည့် အာရုံခံစားမှုများက စွဲလန်းမှုများကို ဖြစ်ပေါ်စေကြ၏။ ထိုစွဲလန်းမှုတို့သည် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ မျိုးစေ့များအဖြစ်နှင့် တည်နေကြ၏။ ယခင်အခါများက ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်းသို့ ဝင်၍ နေကြသော အဆိုပါ မျိုးစေ့သို့မဟုတ် စွဲလန်းမှုတို့က ကျွန်ုပ်တို့၏ ပစ္စုပ္ပန် နာမ်ဓါတ်ဆီသို့ ငုတ်လျှိုး နေကြသော မသာယာမှု သို့မဟုတ် သာယာမှုအာရုံများကို ဆောင်ပို့ကြ၏။ ၄င်းတို့ကို တုံ့ပြန်ချက် အာရုံပြန်မှုများ (ဖလ) ဟု ခေါ်၏။

ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်းသို့ ဝင်လာကြသည့် ပြုလုပ်မှုမှ ဖြစ်ပေါ်လာသော စွဲလန်းမှုတို့က နာမ်ဓါတ်၏ အသက်ရှင်မှု အလှုင်အတွင်း၌ စွဲလန်းမှုမျိုးစေ့အထုအထည်တို့ကို ဖြစ်ပေါ်စေပြီးလျှင် တုန့်ပြန်ချက်အာရုံပြန်မှုတို့က အသက်ရှင်မှု အလှုင်အတွင်း၌ရှိသော မျိုးစေ့တို့ကို ဖယ်ရှားပစ်ကြ၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် မသာယာမှုအာရုံကို ခံစားကြရသော အခါတွင် ထိုမသာယာမှုအာရုံကို ဖြစ်ပေါ်စေရန် အသီးကို ဆောင်သည့် မစင်ကြယ်မှုမျိုးစေ့၏ အင်အားသည် လျော့၍သွား၏။ ထိုနည်းအတူပင် ကျွန်ုပ်တို့သည် သာယာမှုအာရုံကို ခံစားကြရသောအခါတွင် နာမ်ဓါတ်အတွင်း၌ ထိုသာယာမှုအာရုံကို ဖြစ်ပေါ်စေရန် အသီးကို ဆောင်ပေးသော စင်ကြယ်မှု၏ အင်အားသည် လျော့၍သွား၏။

ကျွန်ုပ်တို့ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သမျှသော အာရုံတို့ကို အကြမ်းအားဖြင့် ပြုမှုအာရုံများနှင့် တုန့်ပြန်မှုအာရုံများဟု နှစ်မျိုးခွဲခြားအပ်၏။ ပြုမှုအာရုံတို့က နာမ်ဓါတ်အတွင်းသို့ ဝွဲ့လန်းမှုများကို မျိုးစေ့များအဖြစ်နှင့် ဆောင်ယူလာကြပြီးလျှင်၊ ထိုမျိုးစေ့တို့က အသက်ရှင်မှု အလျှင်အတွင်း၌ အခြေစိုက်၍ ကြီးပွားကြ၊ အသီးသီးကြပြီးလျှင်၊ တုန့်ပြန်မှုအာရုံတို့ကို ဖြစ်ပေါ်စေကြ၏။ အဆိုပါ အာရုံနှစ်မျိုးသည် တမျိုးနှင့်တမျိုး မတူကြသည့်အဖြစ်ကို နားလည်ဖို့လို၏။ ထိုသို့နားမလည်လျှင် ကံ၊ ကံ၏အကျိုးဟု လူအများက ခေါ်ဝေါ်နေကြသည့် သဘာဝတို့၏ ဘဝဖြစ်စဉ်ကို နားလည်နိုင်ကြလိမ့်မည်မဟုတ်။ ကျွန်ုပ်တို့၏ ကြံဝါမှုတို့မှာ ကျွန်ုပ်တို့၏ အာရုံများဖွဲ့စည်းနေကြခြင်း ဖြစ်၏။ ပြုမှုအာရုံတို့က ပြုမှုအကြံအစီတို့ကို ဖြစ်ပေါ်စေပြီးလျှင်၊ တုန့်ပြန်မှုအာရုံတို့က တုန့်ပြန်မှုအကြံအစီတို့ကို ဖြစ်ပေါ်စေ၏။

## <u>နာမ်ဓါတ်သည် မည်သည့်အရာကိုမဆို ပြုလုပ်ခြင်း</u>

ကျွန်ုပ်တို့သည် အသက်ရှင်နေကြသောအခါတွင် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာကို နာမ်ဓါတ်နှင့်ရုပ်ဓါတ်က ဖွဲ့စည်းထား၏။ နာမ်ဓါတ်၏ အင်အားအမျိုးမျိုးသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်း၌ ရှိနေကြမှသာလျှင် ကျွန်ုပ်တို့သည် အသက်ရှင်နေနိုင်ကြ၏။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်း၌ နာမ်ဓါတ်၏ အင်အားအမျိုးမျိုး မရှိကြသည်နှင့်တပြိုင်နက် ကျွန်ုပ်တို့သည် သေကြ၏။ ထို့ကြောင့် အသက်သည် နာမ်ဓါတ်ပင်ဖြစ်၏။ နာမ်ဓါတ်၏ ထကြွသော အကူအညီမရဘဲနှင့် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာသည် မိမိ၏ အင်္ဂါအစိတ်အပိုင်း အမျိုးမျိုးကို မပျက်မစီးအောင် စောင့်ရှောက်ထားနိုင်လိမ့်မည် မဟုတ်သည့်ပြင် မိမိ၏ ကိုယ်ခန္ဓာကြီးကိုလည်း လှုပ်ရှားစေနိုင်လိမ့်မည်မဟုတ်။ ကျွန်ုပ်တို့၏ လှုပ်ရှားမှုအားလုံး၏ နောက်ကွယ်တွင် ကျွန်ုပ်တို့နာမ်ဓါတ်၏ အင်အားများသည် ရှိ၏။ ကျွန်ုပ်တို့ ပြုလုပ်သမျှသည် နာမ်ဓါတ်၏ ပြုလုပ်ခြင်းများသာဖြစ်၏။ ကျွန်ုပ်တို့ ကိုယ်ခန္ဓာသည် သူ့ဘာသူ ဘာမျှမလုပ်နိုင်။ သို့ရာတွင် ကျွန်ုပ်တို့သည် နာမ်ဓါတ်လုပ်သော အလုပ်များကို မသိနိုင်။ အဘယ့်ကြောင့်ဆိုသော် နာမ်ဓါတ်သည် လှုပ်ရှားမှုဖြစ်သည့်အတွက် မသိနိုင်သောကြောင့်ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်တို့ တွေ့မြင်ကြရသမျှတို့မှာ ကိုယ်ခန္ဓာက ပြုလုပ်သော အရာများချည်းဖြစ်၏။ ထိုသို့ဖြစ်ရခြင်းမှာ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတွင် ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်သိမှုအင်္ဂါတို့ဖြင့် မှတ်သား၍ ရနိုင်သော အဆင်း၊ ပုံသဏ္ဍာန်နှင့်အခြားဂုဏ်များ ရှိခြင်းကြောင့်ဖြစ်၏။

ကျွန်ုပ်တို့က လူတာ ယောက်ကို မြင်သောအခါတွင် ထိုသို့မြင်ခြင်းမှာ ကျွန်ုပ်တို့မျက်စေ့၏ အကူအညီဖြင့် အပေါ်ယံမြင်သော သဘောသာဖြစ်၏။ ကျွန်ုပ်တို့၏ ရှေ့သို့ လူတာယောက် ရောက်လာသောအခါတွင် ကျွန်ုပ်တို့ အကယ်မြင်ရသော အရာမှာ နာမ်ဓါတ်တာခုကို အဆင်းအမျိုးမျိုး၊ ပုံသဏ္ဌာန်အမျိုးမျိုးရှိသော ရုပ်ဓါတ်ဖြင့် သတ်မှတ်ထားသော အစဉ်ဖြင့် ဆုံင်းခြုံထားသည့် နာမ်ဓါတ်တခုကို ကျွန်ုပ်တို့၏ နာမ်ဓါတ်က လူတာယောက်အဖြစ်နှင့်မြင်ခြင်းသာဖြစ်၏။ လူတာယောက်စကား ပြောခြင်းကို ကျွန်ုပ်တို့ကြားရသောအခါတွင်လည်း အကယ်စင်စစ်အားဖြင့် ထိုသူ၏ နာမ်ဓါတ်က ထုတ်ဖော်၍ ပြောသော အကြံအစီများကို ထိုသူက မိမိ၏နာမ်ဓါတ် အင်အားများကို အသုံးပြုကာ ကျွန်ုပ်တို့ ကြားနေကြအသံများဖြင့် ပေါ်စေနိုင်ရန် ရုပ်ဓါတ်တို့ကို လှုပ်ရှားပေးမှုကိုသိရခြင်းသာဖြစ်၏။ ထို့ကြောင့် လူတာဦးတာယောက် ပြုလုပ်သမျှသော အရာဟူသမျှမှာ ထိုလူ၏ နာမ်ဓါတ်က ပြုလုပ်သော အရာများချည်း ဖြစ်သည်ကို သတိမူအပ်၏။ ကိုယ်ခန္ဓာမှာ နာမ်ဓါတ်က အသုံးပြုသော ဘန်ဆာပလာ သာဖြစ်၏။ စိတ်မနှံ့သူတို့၏ လှုပ်ရှားခြင်းသည်လည်း စိတ်နှံ့သူတို့၏ လှုပ်ရှားခြင်း၏ နည်းတူ နာမ်ဓါတ်က လှုပ်ရှားပေးခြင်းသာဖြစ်၏။ စကြာဝဠာကိုယ်တိုင်သည်လည်း မိမိအတွင်း၌ လှည့်လည်နေကြသော သတ္တဝါအသီးသီးတို့၏ လှုပ်ရှားမှုစုစုပေါင်း အင်အား၏ အရှိန်ကြောင့် လှုပ်ရှားနေခြင်းဖြစ်၏။ ဤအကြောင်းကို နောက်တွင် အကျယ်ဆိုအံ့ ။

## ပြုမှုအကြံအစီနှင့်ဘုန့်ပြန်မှုအကြံအစီများ

ကျွန်ုပ်တို့၏ အာရုံသိမှုအင်္ဂါများသည် အင်အားပြောင့်ခြင်းကြောင့် ကျွန်ုပ်တို့သည် နာမ်ဓါတ်ကိုယ်တိုင်ကို မသိနိုင်ကြ။ နာမ်ဓါတ်၏ ဝိမ်ရာကို ခံနေရသော ရုပ်ဓါတ်က လှုပ်ရှားမှုပြုသည့်အခါမှသာလျှင် ကျွန်ုပ်တို့သည် နာမ်ဓါတ်ကို သိနိုင်၏။ ရုပ်ဓါတ်၏ ပြုမူပုံကို ကြည့်ခြင်းအားဖြင့် နာမ်ဓါတ် အလုပ်လုပ်နေခြင်းကို သိနိုင်၏။ ကျွန်ုပ်တို့သည် ဤနည်းကိုသာ အသုံးပြုနိုင်သဖြင့် ဤနည်းကို အသုံးပြုကာ ပြုမှုအကြံအစီများနှင့် တုန့်ပြန်မှုအကြံအစီများကို ခွဲခြား၍ကြည့်ကြအံ့။

ပြုမှုအကြံအစီများသည် လူတို့အား ထကြွစွာရှိစေ၏။ တုန့်ပြန်မှုအကြံ အစီများသည် လူတို့အား ထကြွမှုကင်းမဲ့စေ၏။ ကျွန်ုပ်တို့သည် ကိုယ်ကာယလှုပ်ရှား မှုကို ပြုကြသည့်အခါတိုင်း ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ပြုမှုအကြံအစီများဖြစ်ပေါ် ၏။ ကျွန်ုပ်တို့သည် လစ်လျူပြု၍ နေသည့်အခါ သို့မဟုတ် ကိုယ်လက်လှုပ်ရှားခြင်း မပြု

သောအခါတို့တွင် ဖြစ်ပေါ်သော အကြံအစီတို့မှာ ဘုန်းပြန်မှု အကြံအစီများဖြစ်၏။ ပြုမှုအကြံအစီတိုင်းသည် ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျင်တွင်းသို့ စွဲလန်းမှုကို မျိုးစေ့ အဖြစ်နှင့် ပို့၏။ ဘုန်းပြန်မှု အကြံအစီတိုင်းသည်တည်ရှိသော စွဲလန်းမှု အထုအထည်ထဲမှ အင်အားဘစ်တိတ ဒေသကို ဖယ်ရှား၍ ပစ်၏။

ကျွန်ုပ်တို့တွင် ထကြွမှုမရှိသော အကြံအစီတို့က ပို၍များ၏။ ကျွန်ုပ်တို့သည် ယေဘုယျအားဖြင့် ထကြွမှုမရှိသော အဖြစ်နှင့်အနေများကြ၏။ စင်စစ်အားဖြင့် ကျွန်ုပ်တို့သည် အလွန်ထကြွခြင်း နည်းကြ၏။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ အလုပ်ခန်း၌ ငှင်း၊ စက်ရုံ၌ငှင်း အလုပ်လုပ်နေကြသည့်အခါ၌ပင် ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် တိုတောင်းသော အချိန်အနည်းငယ်မျှ၌သာ ထကြွမှုရှိ၏။ ကျွန်ုပ်တို့သည် အလုပ်လုပ်၍ နေကြစဉ်၌ပင် ကျွန်ုပ်တို့၏ သိမှုသည် ငုတ်၍နေ၏။ ကျွန်ုပ်တို့သည် အလုပ်လုပ်နေကြခိုက်၌ပင် ကျွန်ုပ်တို့၏ သိမှုသည် ရံဖန်ရံခါမှသာလျှင် ပြတ်တောင်းပြတ်တောင်း ပေါ်၏။ ထိုအချိန်ကလေးများအတွင်း၌ ဖြစ်ပေါ်လာသော ကျွန်ုပ်တို့၏ ထကြွသော နာမ်ဓါတ်က တခဏတာမျှသော အင်အားဖြင့် ကျွန်ုပ်တို့ ကိုယ်ခန္ဓာအား လှုပ်ရှား စေ၏။

ကိုယ်ခန္ဓာကို လှုပ်ရှားစေပြီးသည့်နောက်တွင် ထိုအင်အားသည် ဆုတ်၍ သွားပြီးလျှင် နာမ်ဓါတ်သည် ဆက်လက်၍ ငုတ်ကာနေ၏။ လုပ်သောအလုပ်ပြီးဆုံး သွား၍သောအခါတွင် ထိုအလုပ်ကို ရပ်စဲစေရန်အတွက် နောက်ထပ်တခဏတာမျှ သော အင်အားသည် ဖြစ်ပေါ်လာပြန်၏။ ဤနည်းဖြင့် ပြုမှုအကြံအစီတို့သည် ကျွန်ုပ် တို့၏ ကိုယ်ခန္ဓာလှုပ်ရှားမှုတိုင်းတွင် ရှိကြ၏။ သို့ရာတွင် ထိုအကြံအစီတို့သည် ခဏနှင့် ပင်ပျောက်ကွယ်ကြ၏။ ကျန်သောအချိန်အားလုံးတွင် နာမ်ဓါတ်သည် ငုတ်၍ သာ နေ၏။ ထို့ကြောင့် ထိုအချိန်တို့တွင် ဘုန်းပြန်မှု အကြံအစီများသာဖြစ်ပေါ်ကြ၏။

## သိမှုပြည့်ဝသော ဘဝ

သိမှုအပြည့်အဝနှင့် ကျွန်ုပ်တို့နေကြသော အချိန်သည် အင်မတန် နည်းသည့်အကြောင်းကို ဆင်ခြင်ကြည့်လျှင် စိတ်ဝင်စားဘွယ်ကောင်း၏။ ကျွန်ုပ်တို့ သည် ကျွန်ုပ်တို့ သက်တမ်းသုံးပုံတပုံကို အိပ်ခြင်းဖြင့် ကုန်လွန်စေကြ၏။ အိပ်နေ ချိန်သည် နာမ်ဓါတ်ငုတ်၍နေသော အချိန်ဖြစ်၏။ ကျွန်ုပ်တို့သည် နိုး၍နေကြသည့်

အချိန်၌ပင် သိမှုပြည့်ဝ၍ နေသောအချိန်သည် အလွန်နည်း၏။ ကျွန်ုပ်တို့ သိမှုပြည့်ဝနေသော အချိန် သို့မဟုတ် ကျွန်ုပ်တို့ သက်တမ်းတလျှောက်လုံးအဖို့ သိမှုပြည့်ဝနေသော အချိန်၏ အချိုးအစားကို မှန်ကန်စွာခန့်မှန်းနိုင်ရန် ခဲယဉ်း၏။ သို့ရာတွင် ကျွန်ုပ်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ သေချာစွာဝင်ဆေး၍ ကြည့်ရှုကြမည်ဆိုလျှင် ကျွန်ုပ်တို့ နေ့ပဉ်နေ့ဝဉ် သိမှုပြည့်ဝမှုဖြင့် နေကြသောအချိန်မှာ မိနစ်အနည်းငယ်ထက် ပိုလိမ့်မည်မဟုတ်သည်ကို တွေ့ကြရလိမ့်မည်။

သိမှုပြည့်ဝမှုနှင့် နေကြသောအချိန်တို့မှာ အလွန်လျှင် ဘိုလှ၏။ ထိုအချိန်တို့သည် ဘမဟုတ်ချင်း ဖြင်ပေါ်၍ တမဟုတ်ချင်း ပျောက်ကွယ်သွားကြသဖြင့် ကျွန်ုပ်တို့၏ အာရုံတို့က ထိုအချိန်တို့တွင် ဖြစ်ပေါ်သော ဘုဝရှားမှုများကိုသာ သိနိုင်ကြ၏။ ကျွန်ုပ်တို့သည် ဘမဟုတ်အတွင်း၌ ထကြွမှုဖြစ်၍ ကမဟုတ်အတွင်း၌ ရပ်စဲကြ၏။ ထိုဘမဟုတ်အချိန်နှင့် ခုဝကြား အချိန်သည် အကျင့်ဖြစ်၏။

<u>ဝင်ကြယ်မှုနှင့် မဝင်ကြယ်မှုတို့ နယ်မြေ</u>

နာမ်ဓါတ်၏ သိမှုသည် ဘုန့်ပြန်မှုတို့မှ ဖြစ်ပေါ်လာ၏။ သိမှုသည် လူတို့အား မသာယာမှု သို့မဟုတ် သာယာမှုကို ဖြစ်စေ၏။ သို့ရာတွင် သိမှုတခုတည်းနှင့် လူတို့အား ထကြွမှုကို မဖြစ်စေနိုင်။ သိမှုသည် နာမ်ဓါတ်၏ ပိုင်နက် မြေကို မြေ့ပြောင်းစေ၏။ သိမှုပြည့်ဝသည့်အခါတွင် အဆိုပါ ယ်မြေသည် အတွင်းနာမ်ဓါတ်အလျင်တို့က ထိုးဖေါက်၍လာနိုင်အောင် မြေ့ပြောင်း၍သွားသဖြင့် ထိုအလျင်တို့၏ အင်အားများသည် ထကြွ၍လာကြ၏။

နာမ်ဓါတ်အတွင်း၌ ငုပ်လျှိုး၍ နေသော အတွင်းနာမ်ဓါတ် အလျင် ၃၉ ခု ရှိကြောင်းကို အထက်တွင် ဖေါ်ပြခဲ့ပြီ။ ပဝိမက်ခြင်းကင်းမှု (အလောဘ) နှင့်ဆိုင်သော ဝင်ကြယ်မှုအလျင် ၂၅ ခုရှိ၏။ ၄င်းတို့အနက် မမေ့လျော့မိခြင်း (အဒေါသ) အလျင်နှင့် သိမှု (အမောဟ) အလျင်တို့သည် အကြီးအကဲများဖြစ်၏။ ဘဝိမက်ခြင်း (လောဘ) အလျင်၊ မုန်းတီးခြင်း (ဒေါသ) အလျင်နှင့် မသိမှု (မောဟ) အလျင်တို့ အမှူးရှိသော မဝင်ကြယ်မှု အလျင် ၁၄ ခုရှိ၏။

နာမ်ဓါတ်အတွင်း၌ ထကြွခြင်းမရှိသော သိမှုဖြစ်ပေါ်လာသည့်အခါတိုင်း စင်ကြယ်မှုအလျင်နှင့် မစင်ကြယ်မှုအလျင်တို့သည် ထကြွ၍လာကြပြီးလျှင် နာမ်ဓါတ်အား စင်ကြယ်ခြင်း သို့မဟုတ် မစင်ကြယ်ခြင်းကို ဖြစ်စေ၏။ စင်ကြယ်မှုအလျင်တို့ ပို၍ ထကြွခြင်းရှိသော နာမ်ဓါတ်၏ သိမှုသည် စင်ကြယ်သော အဖြစ်သို့ ရောက်၍လာ၏။ မစင်ကြယ်မှုအလျင်တို့ ပို၍ထကြွခြင်းရှိသော နာမ်ဓါတ်၏ သိမှုသည် မစင်ကြယ်သော အဖြစ်သို့ ရောက်၏။ ပို၍ နားလည်နိုင်ပေခြင်း အကျိုးငှါ အဆိုပါ နာမ်ဓါတ်၏ စင်ကြယ်သောအဖြစ်နှင့် မစင်ကြယ်သော အဖြစ်တို့ကို စင်ကြယ်မှုနယ်မြေနှင့် မစင်ကြယ်မှုနယ်မြေဟု ခေါ်ကြအံ့။

စင်ကြယ်သောနယ်မြေရှိ သိမှုအတွင်း၌ ဘဝမက်မှုကင်းခြင်းအလျင်၊ မေတ္တာစိတ်ရှိခြင်းအလျင်နှင့် သိမှုပညာအလျင်တို့သည် ထကြွပွားဖြင့် ပေါ်လာကြ၏။ ထိုအလျင်သုံးခုအနက်မှ အလျင်တခုသည် အင်အားအင်မတန်ကောင်းသဖြင့် နာမ်ဓါတ်တခုလုံး၏ အခြေအနေကို အုပ်ထိန်းနိုင်၏။ အခြားအလျင်နှစ်ခုတို့ကလည်း လျော့နည်းသောအင်အားနှင့်ဖြင့်ပေါ်လာကြပြီးလျှင် မိမိတို့၏ အင်အားများကို ဖြည့်စွက်၍ ပေးကြ၏။ နောက်ဆုံးတွင် နာမ်ဓါတ်အတွင်း၌ ကြီးမားသော အင်အားသည် ဖြစ်ပေါ်လာ၏။ ထိုအင်အားသည် ထိပ်ဆုံးသို့ ရောက်နေသောအချိန်၌ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာကို ကျော်သွားပေနိုင်၏။ ထိုအင်အား၏ နောက်မှ လိုက်ကြသော ကျော်သွားမှုက ကျွန်ုပ်တို့ ကိုယ်ခန္ဓာကို နောက်ထပ်အချိန်အနည်းငယ်ကြာအောင် သက်၍ထကြွနေစေ၏။ ထို့ကြောင့် ကိုယ်ခန္ဓာ၏ ပြုမူဟန်ကို ကြည့်ခြင်းအားဖြင့် ထိုကိုယ်ခန္ဓာအတွင်းရှိ နာမ်ဓါတ်သည် ကျော်သွားနိုင်လောက်သော အင်အားရှိနေကြောင်းကို အပြင်လူတယောက်က ကောင်းစွာသိနိုင်၏။

<u>နာမ်ဓါတ်အတွင်းသို့ မွဲလန်းမှုများ ရောက်လာပုံ</u>

စင်ကြယ်သော သိမှုဖြစ်ပေါ်လာသောအခါ ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် မိမိ၏ ပြုမူကျော်သွားမှုများကို ပြုမှုနေရင်းနှင့် ထကြွသောအာရုံပြန်မှု ( ဇဝန ) များကို ဖြစ်ပေါ်စေ၏။ ထိုအာရုံပြန်မှုများ၏ အကူအညီဖြင့် နာမ်ဓါတ်သည် မွဲလန်းမှုတို့ကို ရုပ်ပုံအဖြစ်နှင့် ရ၏။ ထိုမွဲလန်းမှုတို့သည် အသက်ရှင်မှု အင်အားအတွင်းသို့ ဝင်လာကြပြီးလျှင် ထိုအင်အားတွင် တွယ်၍ ထိုအင်အားနှင့် အတူ မျိုးစေ့အဖြစ်ဖြင့် လှည့်လည်ကြ၏။ အကယ်၍ ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် အင်အားကြီးသည့်ဖြစ်မှု အဆိုပါ

ဖွဲ့လန်းမှုတို့ကို ပြန်၍သိနိုင်၏။ ဤအရာသည် လူအများက မှတ်ဉာဏ်ဟု ခေါ်သော အရာဖြစ်၏။ သို့ရာတွင် အချိန်ကြာ၍သွားသောအခါ နောက်ထပ်ဖြစ်ပေါ်လာ သော ဖွဲ့လန်းမှုအသစ်တို့က ယခင်ဖွဲ့လန်းမှုအဟောင်းများကို ဖုံးအုပ်သွားကြသဖြင့် ကျွန်ုပ်တို့နာမ်ဓါတ်သည် ထိုဖွဲ့လန်းမှုများကို ပြန်၍သိနိုင်လောက် အောင် အင်အား မရှိဘဲဖြစ်ဟတ်၏။ ကျွန်ုပ်တို့ နာမ်ဓါတ်သည် အင်အားချို့ခြင်းကြောင့် ထုထည်ကြီး မား၍ နေသော ဖွဲ့လန်းမှုတို့ကို ဖေါက်ထွင်း၍ သိနိုင်ခြင်း မရှိ။

မစင်ကြယ်မှုနယ်မြေအတွင်း၌ သိမှုသည် ဘဝမကျခြင်းအလျှင်၊ မုံးဘီး ခြင်းအလျှင်နှင့် မသိမှုအလျှင်တို့ကို ထကြွ၍ ဖြစ်ပေါ်စေ၏။ ထိုအလျှင် သုံးခုအနက် တခုသော အလျှင်သည် အင်အားအကြီးဆုံးအချိန်သို့ ရောက်လာသော အခါတွင် ထိုအလျှင်က ကျန်အလျှင်နှစ်ခုကို ဖိုးမိုးထားပြီးလျှင် မိမိသဘောအတိုင်း ကိုယ်ခန္ဓာကို ထကြွလှုပ်ရှားစေ၏။ အကယ်၍ မိမိတို့၏ လိုအင်ကို ဖေါ်ပြနိုင်ရန် **လျော်ပတ်** သော အရာဝတ္ထုများရ၍ သဘောဘူမှု အလျှင်တို့၏ အကူအသီကိုလည်း ရသည်ဖြစ်မူ အဆိုပါသိမှုသည် ကိုယ်ခန္ဓာအား မကောင်းသောအမှုတို့ကို ပြုစေရန် တိုက်တွန်း ပေးနိုင်၏။ ဤနည်းဖြင့် ထကြွခြင်း၌ နေသော ကိုယ်ခန္ဓာသည် တုန့်ပြန်မှုအင် အားများ၏ အငြိမ်မကျန်မခြင်းဆက်လက်၍ထကြွ နေနိုင်၏။

ထိုအခိုက်တွင် နာမ်ဓါတ်သည် မိမိပြုလုပ်ခြဲဘာဝန်များကို ပြုလုပ်ကာ ဖွဲ့လန်းမှုအထုအထည်တို့ကို ဖြစ်စေ၏။ ထိုဖွဲ့လန်းမှုတို့သည် အာရုံပြန်မှုတို့၏ စပ်ကြား ရှိ အပေါက်များမှတဆင့် နာမ်ဓါတ်အတွင်းသို့ ရောက်သွားကြ၏။ အာရုံပြန်မှုတို့ သည် သိမှုဖြစ်ပေါ်နေသချက္ကာလပတ်လုံးဖြစ်ပေါ်ကြ၏။ အဆိုပါ မစင်ကြယ်သော ဖွဲ့လန်းမှုတို့သည် နာမ်ဓါတ်အတွင်း၌ မိမိတို့သက်ဆိုင်ရာ နေရာများ၌ အခြေစိုက် ကြပြီးလျှင် အချိန်တန်သောအခါတွင် ကြီးရင့်၍ ပွင့်သီးကြ၏။

## ထကြွခြင်း မရှိသော သိမှု

ကိုယ်ခန္ဓာ၏ လှုပ်ရှားမှုကို မပြုဘဲနှင့်လည်း ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာသည် သိမှုပြည့်ဝစွာ ရှိနိုင်၏။ အကယ်၍ သိမှုသည် ကျွန်ုပ်တို့အား မသာယာသော ခံစား မှုကိုသာဖြစ်စေသည်ဖြစ်မူ ယခင်က မစင်ကြယ်မှုအသီးတို့သည် လောင်ကျွမ်းသွား နေခြင်းသာဖြစ်၏။ ထို့ကြောင့် မသာယာမှုခံစားရခြင်းသည် ကျွန်ုပ်တို့၏ အသက်ရှင်

မှု အလျင်အဟုန်၌ ရှိနေသည့် မစင်ကြယ်မှု အစုအပုံတို့ကို လျော့ပါး၍သွားစေခြင်း ဖြစ်သဖြင့် ကျွန်ုပ်တို့အဖို့ အကျိုးရှိ၏။ အကယ်၍ အပြန်အလှန်အားဖြင့် သိမှုသည် ကျွန်ုပ်တို့အား သာယာသော ခံစားမှုကိုသာ ဖြစ်စေသည့်ဖြစ်ပါမူ ထိုသို့ဖြစ်ခြင်းမှာ ယခင်စင်ကြယ်မှုတို့၏ ပွင့်သီး နေကြခြင်း ကြောင့်သာလျှင် ဖြစ်၏။ ထို့ကြောင့် ထိုကဲ့သို့ သာယာမှုကို ခံစားရသလောက် ကျွန်ုပ်တို့တွင် အကျိုးယုတ်၏။

## နာမ်ဓါတ်ပြုမှုနှင့် ကိုယ်ပြုမှု

သိမှုသည် ယေဘုယျအားဖြင့် ကိုယ်ခန္ဓာ၏ ပြုမှုသို့ မရောက်ဘဲ နာမ်ဓါတ်၏ ပြုမှုများတွင် ရပ်နေတတ်၏။ ဥဒါဟရုဏ်အဖြစ်နှင့် စည်းစိမ်ခံ၍နေသော ဥစ္စာပေါများသော လူတယောက်အကြောင်းကို စစ်ဆေးကြည့်ကြအံ့။ ဥစ္စာပေါများခြင်း စည်းစိမ်သည် ကျွန်ုပ်တို့ နာမ်ဓါတ်အတွင်း၌ ဘဝမက်ခြင်းကင်းမှုနှင့် ဆိုင်သော စွဲလန်းချက်တို့မှ ဖြစ်ပေါ်လာသော အသီးပင်ဖြစ်၏။ ဥစ္စာပေါများမှုကို စည်းစိမ်ခံခြင်းသည် ကျွန်ုပ်တို့ နာမ်ဓါတ်အတွင်း၌ အသက်ရှင်မှု အလျင်အဟုန်တွင် စုပုံ၍နေသော၊ ရင့်သန်၍နေသော ဘဝမက်ခြင်းကင်းမှုနှင့် ပတ်သက်သည့် စွဲလန်းချက်များကို လျော့ပါးသွားစေ၏။ ဥစ္စာပေါများမှုကို အရှည်အကြာဆက်၍ စည်းစိမ်ခံခြင်းသည် ဘဝမက်ခြင်းကင်းမှုနှင့်ဆိုင်သော စင်ကြယ်မှုအင်အားကို တော်တော်များများကြီး ကုန်ခမ်းသွားစေနိုင်၏။ ဤနည်းဖြင့် နောက်ဆုံးတွင် အသက်ရှင်မှုအလျင်၌ အဆိုပါလူအား ဥစ္စာပေါများသောအနေတွင် ဆက်လက်၍ ထားနိုင်ရန် လုံလောက်သော အင်အားမရှိသော အဖြစ်သို့ ရောက်သွားစေ၏။

အကယ်၍ လူတယောက်သည် မိမိ၏ ဥစ္စာပေါများခြင်းစည်းစိမ်ကို ခံစားနေရင်း မိမိလောကကံမကောင်းသော လူများနှင့် သတ္တဝါများအပေါ်တွင် သနားကြင်နာစိတ်ထားခဲ့မည်ဆိုလျှင် ထိုသို့ထားခြင်းသည် မိမိစည်းစိမ်ခံစားရမှု အချိန်ကို ဝို၍ရှည်စေ၏။ ထိုကဲ့သို့ စိတ်ထားရှိခြင်းသည် ယေဘုယျအားဖြင့် အကယ်သနားကြင်နာမှုနှင့် ပြည့်စုံသော ကာယကံအမှုတို့ကို ပြုလုပ်တတ်စေခြင်း အကြောင်း ဖြစ်၏။ အကယ်၍ ထိုသို့စိတ်ထားရှိခြင်းသည် ကာယကံအမှုတို့ကို ပြုလုပ်စေခြင်းသို့ မရောက်ခဲ့သည်ပင်ဖြစ်စေကာမူ မေတ္တာစိတ်၊ သနားကြင်နာစိတ်တို့ ဖြစ်ပေါ်လိုက်မှုနှင့်ပင် အသက်ရှင်မှုအလျင်အဟုန်သို့ နောင်ကို အကျိုးပေးမည့် စင်ကြယ်မှုထုထည်အသစ်များကို ဝို့ပေးနိုင်၏။

## ဥစ္စာပေါများမှုနှင့် တပ်မက်ခြင်းအကျိုးသက်များ

ဥစ္စာပေါများသော လူဟာ ယောက်သည့် ထိုဥစ္စာများကို ခံစားရင်း နှင့်ပင် တပ်မက်မှုအလျင်၊ မုန်းတီးမှုအလျင်၊ မသိမှုအလျင် ဟု ဆိုအပ်သော မစင် ကြယ်မှုအလျင်တို့ကို ဖြစ်ပေါ်စေနိုင်၏။ ဥစ္စာပေါများနေကြသော လူများမှာတို့ သည် မစင်ကြယ်မှုအင်အားများကြောင့် မိမိတို့ ဥစ္စာပေါများမှုမှ လျော့ကျသွား ပါတ်၏။ ထိုသူများသည် တပ်မက်ခြင်း၏ အလိုသို့ လိုက်ကြပြီးလျှင် ရလေလိုလေဖြစ်ကြ၏။ သူတို့၏ အလိုရမက်သည် အပိုင်းအခြားမရှိ။ တပ်မက်ခြင်းသည် မုန်းတီးခြင်းကို ဖြစ်ပေါ်စေ၏။ တပ်မက်ခြင်းနှင့် မုန်းတီးခြင်းနှစ်ခုပေါင်းတို့သည် မသိမှုမှ ဖြစ်ပေါ် လာကြ၏။ အဆိုပါ တပ်မက်ခြင်း၊ မုန်းတီးခြင်း နှင့် မသိမှုတို့ ဆိုအပ်သော မစင် ကြယ်မှုအင်အားတို့သည် ၎င်းတို့ကို တပ်မက်သူတို့အား ရာဇဝတ်မှု၊ အကြမ်းဖက်မှုတို့ကို ပြုလုပ်အောင် လမ်းပြပေးပါတ်၏။

မိမိတို့၏ သိမှုအတွင်း၌ တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုတို့ဖြစ်ပေါ်လာ သည်နှင့်တပြိုင်နက် ဆင်းရဲခြင်းကိုဖြစ်စေ၏။ အဘယ့်ကြောင့်ဆိုသော် မစင်ကြယ် မှုအာရုံတို့သည် အပဥ်မပြတ် ဆင်းရဲမှုကို ဖြစ်စေသောကြောင့်ဖြစ်၏။ အကယ် ၍ တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုတို့ကို ကြံခြင်းသည် မကောင်းမှုကို ကာယကံ မြောက်ကြူးလွန်ခြင်းသို့ ရောက်အောင် မပို့သည့်တိုင်အောင်ပင် မိမိ၏သိမှုတွင် ၎င်းတို့ဖြစ်ပေါ်လာကာမျှနှင့်ပင် မိမိတို့အား နှစ်မျိုးအကျိုးယုတ် ပေးနိုင်၏။ ပထမ တမျိုးမှာ မိမိတို့၏ ငြိမ်းချမ်းနေသည့် သာယာမှုများ ဆုံးရှုံးရခြင်းဖြစ်၍၊ ဒုတိယ တမျိုးမှာ မိမိတို့ နောင်တွင်ရရှိမည့် သာယာမှုများ ပျက်ယွင်းသွားခြင်းဖြစ်၏။ ထင်ရှားနေသော မစင်ကြယ်မှုအကြံအစည်များသည် မကောင်းမှုကို ကာယကံမြောက်ကြူး လွန်ခြင်းကို မဖြစ်ကြစေကာမူ နာမ်ဓာတ်အတွင်းသို့ မစင်ကြယ်သော မွဲလန်းချက် တို့ကို ပို့၍ ထိုမစင်ကြယ်သော မွဲလန်းချက်တို့သည် သက်ဆိုင်ရာသူ၏ နာမ်ဓာတ်ထဲ၌ အနာဂတ် ချမ်းသာမှုကို ပျက်ဆီး၏။

## နာမ်ဓာတ်၏ ဆင်ခြင်မှုအလျင်

ကျွန်ုပ်တို့ လူသားတို့သည် တိရစ္ဆာန်နှင့် အခြားအဆင့်အတန်းနိမ့်သော သတ္တဝါတို့ထက် မြတ်၏။ အဘယ့်ကြောင့်ဆိုသော် ကျွန်ုပ်တို့၏ နာမ်ဓာတ်အတွင်း၌ရှိသော ဆင်ခြင်မှုအလျင်သည် ကာယကံမြောက်အမှုများကို လုပ်ဆောင်နိုင်စွမ်းရှိသော

ကြောင့် ဖြစ်၏။ ကျွန်ုပ်တို့သည် အမှားနှင့်အမှန်ကို ခွဲခြားနိုင်ကြ၏။ လူအများက သတ်ဟု ခေါ်ကြသည့် ဤဆင်ခြင်မှုအလျင်သည် အမြဲတန်းလိုပင် လူတို့၏ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ် လေ့ရှိ၏။ သို့ရာတွင် ဝမ်းနည်းဖွယ်ကောင်းသော အချက်မှာ ထိုဆင်ခြင်မှုအလျင်၏ အင်အားကို ကျွန်ုပ်တို့အတွက် အကျိုးရှိအောင် အသုံးအစွဲနည်းပါးကြခြင်း ဖြစ်၏။ ကျွန်ုပ်တို့ ကြီးစိုးသမျှနှင့် ကျွန်ုပ်တို့တွင်ရှိသမျှသော မိမိကိုယ်မိမိ ထိန်းသိမ်းမှု အကျင့်များသည် ဤဆင်ခြင်မှုအလျင်၏ ကူညီရိုင်းပင်းမှုနှင့် ဤအလျင်ကို အကျိုးရှိရာ ရှိကြောင်း၌ သုံးစွဲခြင်းတို့မှ ဖြစ်ပေါ်လာ၏။

ဆင်ခြင်မှုအလျင်သည် အချို့သော တိရစ္ဆာန်များ၌ပင် ရှိ၏။ အချို့ တိရစ္ဆာန်တို့သည် ထိုအလျင်ကို မှန်ကန်စွာ အသုံးပြုကြ၏။ ကျွန်ုပ်တို့သည် အလွန်သေဝပ်သော အကျင့်ရှိ၍ မိမိကိုယ်ကို မိမိ ထိန်းသိမ်းမှုများစွာရှိသော တိရစ္ဆာန်တို့ကို ခဏခဏ တွေ့ရ၏။ သို့ရာတွင် ဤကမ္ဘာမြေကြီးပေါ်ရှိ သတ္တဝါများအနက် လူသားတမျိုးတည်းတွင်သာ ဤဆင်ခြင်မှုအလျင်ကို ကောင်းရာကောင်းကြောင်း အတွက် မှန်ကန်စွာသုံးနိုင်လောက်အောင် အင်အားရှိ၏။

အကယ်၍ ကျွန်ုပ်တို့၏ ဆင်ခြင်မှုအလျင်သည် လျော်ကပ်သော အင်အားနှင့် ပြည့်စုံသည်ဖြစ်မူ ထိုအလျင်သည် ကျွန်ုပ်တို့၏ နာမ်ဓါတ်တံခါးဝများတွင် တံခါးမှူး အဖြစ်နှင့် စောင့်ရှောက် နေလိမ့်မည်ဖြစ်၏။ ဆင်ခြင်မှုအလျင်သည် အမြဲသတိနှင့် နေ၍ မစင်ကြယ်မှုအလျင်များ ဖြစ်ပေါ်လာခြင်းကို ဘားဆီးထားပြီးလျှင် စင်ကြယ်မှု အလျင်များကို လေးစားစွာ ကြိုဆို၍ ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်အတွင်း သို့ စင်ကြယ်မှုအလျင်များကို များနိုင်သမျှများစွာ ဝင်ခွင့်ပြုလိမ့်မည် ဖြစ်၏။ ကျွန်ုပ် တို့သည် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ဆင်ခြင်မှုအလျင် ကြီးပွားသလောက် ကောင်း စွာကျင့်အပ်သောအဖြစ်သို့ ရောက်ကြ၏။ ဆင်ခြင်မှုအလျင် ကြီးပွားခြင်းမရှိသ လောက် ကျွန်ုပ်တို့သည် အကျင့်စာရိတ္တကင်းမဲ့ကြ၏။

တနည်းဆိုသော် အကယ်၍ ကျွန်ုပ်တို့၏ ဆင်ခြင်မှုအလျင်သည် ကြီးပွား၍ ထိုအလျင်ကို ကျွန်ုပ်တို့၏ နေထိုင်မှုအတွက် အကျိုးရှိရာရှိကြောင်း၌ အသုံးပြုကြသည် ဖြစ်မူ ကျွန်ုပ်တို့၏ ဘဝအဆင့်အတန်းသည် ပို၍မြင့်မည်ဖြစ်၏။ အကယ်၍ ကျွန်ုပ်တို့၏ ဆင်ခြင်မှုအလျင်သည် ကြီးပွားခြင်းလည်း မရှိဘဲ ထိုအလျင်ရှိသလောက်ကိုပင် အကျိုး ရှိရာရှိကြောင်းအတွက် အသုံးမပြုကြသည်ဖြစ်မူ ကျွန်ုပ်တို့သည် အကယ်စင်စစ်အားဖြင့် အဆင့်အတန်းနိမ့်ကျသောဘဝ၌ နေသည်နှင့်သာ တူကြလိမ့်မည်ဖြစ်၏။

## ပညာသင်ကြားမှု၏ ပန်းတိုင်

ပညာသင်ကြားခြင်းသည် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ဆင်ခြင်မှု အင်အားများကို ကြီးပွားစေသဖြင့် ပညာတတ်သောသူတို့၏ နာမ်ဓါတ်အတွင်း၌ ဆင်ခြင်မှုအလျင်သည် ကြီးပွားနေသည်ဟု ဆိုနိုင်၏။ ဆင်ခြင်မှုအင်အားများ ကြီးပွားအောင်လုပ်ခြင်း သို့မဟုတ် ပညာသင်ကြားခြင်း၏ ရည်ရွယ်ချက်မှာ ကျွန်ုပ်တို့အား အကောင်းနှင့်အဆိုးကိုသာ ခွဲခြားတတ်စေရုံမဟုတ်ဘဲ အကောင်းသည် ဘာ့ကြောင့်ကောင်း၍၊ အဆိုးသည် ဘာကြောင့်ဆိုးသည့်အဖြစ်ကို ကောင်းစွာ သဘောပေါက်စေနိုင်ရန်အတွက် ဖြစ်၏။

မှန်ကန်သော ဆင်ခြင်မှု သို့မဟုတ် သတိရှိခြင်းသည် စင်ကြယ်သော အလျင်များအနက် ဒုတိယအရေးအကြီးဆုံး ဖြစ်၏။ သို့ရာတွင် ကျန်အလျင်အားလုံးကို ဤအလျင်က ပြုပြင်နိုင်စွမ်းရှိပုံကို ထောက်ထား၍ ပြောမည်ဆိုလျှင် ဤအလျင်သည် အရေးအကြီးဆုံးအလျင်ဖြစ်သည်ဟု ဆိုနိုင်၏။ ဤအလျင်၏ အင်အားများကို ကြီးပွားအောင်လုပ်နိုင်သော နည်းပေါင်းမြောက်များစွာရှိ၏။ ၎င်းနည်းတို့အနက် ဆင်ခြင်ခြင်းနှင့် စိတ်ကို တအာရုံတွင် စူးစိုက်အောင်လုပ်ခြင်း (ဘာဝနာ) သည် အလျင်မြန်ဆုံးနည်းဖြစ်၏။ အခြားတနည်းမှာ ပညာသင်ကြားခြင်းဖြစ်၏။ သို့ရာတွင် ရိုးရိုးလူအများနှင့် အသင့်လျော်ဆုံးဖြစ်သော နည်းမှာ မိမိတို့တွေ့ကြုံမှု အသီးသီး၏ အဖြစ်မှန်ကို သိရအောင် လျှောက်ပတ်၍ မေးခွန်းထုတ်တတ်သော အကျင့်ဖြစ်၏။

## သိမှုသည် ဘာဝနာဖြစ်ခြင်း

သတိရှိခြင်းသည် မြတ်၍ ကြီးပွားရန်အတွက် အရေးကြီးသော အင်အား ဖြစ်၏။ သို့ရာတွင် အသိဉာဏ်နှင့် အသုံးပြုသောလျှင် သတိရှိခြင်းသည် မြတ်၏။ သတိရှိခြင်းသည် နာမ်ဓါတ်အလျင်အားလုံး၏ အင်အားကို ထက်မြက်စေ၏။ နာမ်ဓါတ်အလျင်တို့ ကြီးပွားရန်အတွက် အသုံးပြုလျှင် သတိရှိခြင်းသည် အလွန်အကျိုးဖြစ်ထွန်းစေနိုင်၏။ သို့ရာတွင် ကျွန်ုပ်တို့၏ သတိရှိမှုအင်အားကို အလွဲသုံးစားလုပ်၍လည်း ဖြစ်နိုင်၏။

ဥဒါဟရဏ်ဆိုသော် အကယ်၍ ကျွန်ုပ်တို့သည် သတိရှိမှုအင်အားများ၏ အကူအညီဖြင့် မစင်ကြယ်မှုအလျင်များကို ကြီးပွားအောင်လုပ်မည်ဆိုလျှင် အသက်ရှင်

မှု အလျှင်အဘွင်းသို့ ကျရောက်လာသော မစင်ကြယ်မှုတို့၏ ဘေးရန်သည် အလွန့် အလွန် ကြောက်ခမန်းလိလိဖြစ် အောင် ကြီးမားမည်ဖြစ်၏။ ထို့ကြောင့် သတိရှိမှု သည် အသွားနှစ်ဖက်ရှိသော အင်အားဖြစ်၏။ သတိရှိမှုသည် ကျွန်ုပ်တို့၏ ကောင်း ကျိုးငှါ စင်ကြယ်သော အကြံအစီများဘက်နှင့် ကျွန်ုပ်တို့၏ မကောင်းကျိုးအလို့ငှါ မစင် ကြယ်သော အကြံအစီများဘက် နှစ်ဘက်တွင် မည်သည့်ဘက်သို့ ပြုပ်သည်ဖြစ်စေ၊ ပြင်းထန်စွာ ပြုပ်မည်သာဖြစ်၏။

ကျွန်ုပ်တို့သည် သတိရှိမှုကို ပညာသင်ကြားခြင်းဟု ခေါ် ခေါ်၊ ဆင်ခြင် မှုအင်အားဟု ခေါ် ခေါ်၊ သိမှုဟု ခေါ် ခေါ်၊ မည်သည့်နာမည်နှင့် ခေါ် ခေါ် သတိရှိမှုသည် ကြီးသောဘာဝန်ကြီးဖြစ်၏။ ကျွန်ုပ်တို့သည် နာမ်ပါတ်ဘက်တွင် တိုးဘက် နေ၍ သတိရှိမှုအင်အားနှင့် ပြည့်စုံသည်ဖြစ်မူ၊ ဘနင်းဆိုသော် ကျွန်ုပ်တို့ သည် ကျွန်ုပ်တို့ လုပ်သမျှကို သတိနှင့်လုပ်ကြမည်ဖြစ်မူ၊ ကျွန်ုပ်တို့ လုပ်သမျှသော အလုပ်၏ သဘောကို လုပ်နေစဉ်၌၄င်း၊ လုပ်ပြီးသည့်အခါ၌၄င်း၊ နားမလည်ဘဲ နေနိုင် ကြလိမ့်မည်မဟုတ်။ အကယ်၍ ကျွန်ုပ်တို့ ပြုလုပ်သော အလုပ်များသည် ကောင်းသော အလုပ်များဖြစ်မူ ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်သည် သတိရှိမှုမှ နောက်ထပ်ဖြစ် ပေါ်လာသော အကျိုးကျေးဇူးတို့ကြောင့် လျှင်မြန်စွာ တိုးဘက်လာမည်ဖြစ်၏။

သို့ရာတွင် ကျွန်ုပ်တို့ ပြုလုပ်သော အလုပ်များမှာ မကောင်းသော အလုပ်များဖြစ်မူ သတိရှိမှုက ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အား ပြင်းထန်၍ ကြောက်မက်ဖွယ် ကောင်းသော မစင်ကြယ်မှုဗွဲ့ဂန်းချက်တို့ကို ဆွဲငင်၍ယူစေ၏။ ထို့ကြောင့် မကောင်းသော အလုပ်များအတွက် အသုံးပြုလျှင် သတိရှိမှုသည် ကျွန်ုပ်တို့ ၏ အသက်ရှင်မှု အလျှင်အင်အားများကို အလွန်လျှင်မြန်စွာ ပျက်စီးသွားစေနိုင် ၏။ မကောင်းသော အလုပ်ကိုလုပ်ရန် ဝိတ်ညွှတ်၍ နေသူတို့အဖို့တွင် မသိမှုသည် အမှန်ပင်မြတ်၏။ အဘယ့်ကြောင့်ဆိုသော် နာမ်ပါတ်၏ ပိုင်နက်အတွင်းတွင် မသိမှု သည် ထိုလျှောက်စွာ အပြစ်လျော့ပေါ့စေတတ်သော အကြောင်းဖြစ်သောကြောင့် ဖြစ်၏။

## <u>မသာယာမှု၊ သာယာမှုနှင့် ထကြသော ကြံစီမှုများ</u>

ကျွန်ုပ်တို့တွင် သိမှုရှိသော အချိန်မှာ အလွန်ဘို ကောင်းသည့်အကြောင်း ကို ဖော်ပြခဲ့ပြီ။ မသာယာမှုနှင့် သာယာမှုတို့မှာ ဘုန့်ပြန်မှု၏ အကျိုးဘရား များဖြစ်သည့်အကြောင်းနှင့်၄င်းဘို့သည် မိမိတို့ဟာ မိမိတို့ အလိုအလျောက်အားဖြင့်

ဇာတယက်မှုတို့ကို ဖြစ်စေနိုင်သောအစွမ်း မရှိကြောင်းကို သိခဲ့ကြရပြီ။ တုန့်ပြန်ခြင်းအာရုံပြန်မှုတို့သည် ကျွန်ုပ်တို့၏ သိမှုအတွင်းသို့ အင်အားကြီးစွာဖြင့် ရောက်လာကြပြီးလျှင် နာမ်ဝါဒ်အတွင်း၌ ထကြွသောကြံစီမှုအလျှင်များဖြစ်ပေါ်လာနိုင်စေရန် နေရာများကို ပြင်ဆင်ပေးကြ၏။ အဆိုပါ ထကြွသော ကြံစီမှုအလျှင်များသည် နာမ်ဝါဒ်အတွင်းသို့ ဝင်ရောက်လာကြသည့်အခါတိုင်း အသက်ရှင်မှုအလျှင်က ထိုအလျှင်များ၏ စွဲလန်းချက်တို့ကို ဆွဲငင်၍ယူ၏။ အဆိုပါ စွဲလန်းချက်တို့သည် အသက်ရှင်မှုအလျှင်အတွင်း၌ မျိုးစေ့များကို သောင်ကြ၏။ ထိုစွဲလန်းမှုတို့သည် အညှောင့်ပေါက်ကြီးပွား၍ကြီးမားလာပြီးလျှင် အသီးသီး၌ ဤတုန့်ပြန်ခြင်းအာရုံပြန်မှုအကြံအစ်များကို ဖြစ်ပေါ်စေကြ၏။ တုန့်ပြန်ခြင်း အလျှင်ပြန်မှုတို့က အသက်ရှင်မှုအလျှင်အတွင်းတွင် အထုအထည်ဖြစ်နေကြသော စွဲလန်းမှုတို့မှ ဖြစ်ပေါ်လာသော အင်အားများကို ကုန်ခမ်းကြစေ၏။

ပြုမှုအကြံအစီများနှင့် တုန့်ပြန်မှုအကြံအစီများသည် မတူကြသည့်အဖြစ်ကို အထက်တွင် ဖော်ပြခဲ့ပြီ။ ထို့ပြင် အဆိုပါကြံစီမှုတို့က အသက်ရှင်မှုအလျှင်အတွင်း၌ အင်အားများကို မည်ကဲ့သို့ ပြောင်းလဲခြင်း ဖြစ်စေတတ်ပုံကိုလည်း ဖော်ပြခဲ့ပြီ။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာကို လှုပ်ရှားစေသော သို့မဟုတ် လှုပ်ရှားစေတတ်သော နာမ်ဝါဒ်အင်အားတို့သည် ပြုမှုအကြံအစီများဖြစ်ကြ၏။ ကျွန်ုပ်တို့၏ နာမ်ဝါဒ်အတွင်း၌ ထကြွမှုမရှိသော မသာယာမှုနှင့် သာယာမှုတို့သည် တုန့်ပြန်မှုအကြံအစီများဖြစ်ကြ၏။ ပြုမှုအကြံအစီတို့က အသက်ရှင်မှုအလျှင်တွင်းသို့ စင်ကြယ်မှုသို့မဟုတ် မစင်ကြယ်မှုတို့ကို ဖြည့်ပေး၏။ မသာယာမှု သို့မဟုတ် သာယာမှုဟု ဆိုအပ်သော တုန့်ပြန်ခြင်းအာရုံပြန်မှုတို့က အသက်ရှင်မှုအလျှင်အတွင်း၌ရှိနေသော စင်ကြယ်မှု သို့မဟုတ် မစင်ကြယ်မှု အင်အားတို့ကို သုံးစွဲကာ ကုန်ခမ်းစေ၏။

## နာမ်ဝါဒ်၏ ဝခန်းအဆင့်ဆင့်

ယခုအခါတွင် ကျွန်ုပ်တို့သည် နာမ်ဝါဒ်၏ အသက်ရှင်မှုအလျှင်အတွင်းသို့ သိမ်မွေ့သောပြုပြင်မှုများကို ဆောင်ပို့ကြသည့်ပြုမှု စွဲလန်းချက်များနှင့် တုန့်ပြန်ခြင်းအာရုံပြန်မှုအမျိုးမျိုးတို့၏ အကြောင်းကို အကျယ်တဝင့် စဉ်ဆေးကြည့်ကြကုန်အံ့။ ဤသို့စစ်ဆေးကြည့်ရှုမှုကို လွယ်ကူစေခြင်းအကျိုးငှါ လူသားတိုင်း လူသားတိုင်း၏ ကိုယ်ခန္ဓာအတွင်း၌ အမျိုးမျိုးသော အကြံအစီတို့ဖြင့် ပေါ် နေသည့်အချိန်ကာလအတွင်းတွင် သတိရှိမှုအင်အားများကြောင့်ဖြစ်ပေါ်သော နာမ်ဝါဒ်၏ ဝခန်းအဆင့်ဆင့် အကြောင်းကို သိဘို့လို၏။

နာမ်ဓါတ်၏ လှိုင်းအားလုံးအတွင်း၌ ထကြွစွာ ရွေ့လျားနေကြသော ထကြွနေသောအလျင်၊ ငုတ်လျှိုးနေသော အလျင် နှစ်မျိုးလုံး အပါအဝင်ဖြစ်သော ဃဟုယျအလျင်ခုနှစ်ခုတို့ကို ကျွန်ုပ်တို့သည် အာရုံခံစားမှုအဖြစ်နှင့် မတွေ့ရ။ ထို့ပြင် ထင်ရှားဖြည့်အလျင် ခြောက်ခုကိုလည်း ထိုအလျင်တို့သည် နာမ်ဓါတ်အတွင်း၌ ထကြွစွာ ဖြစ်ပေါ်နေသည့်တိုင်အောင်ပင် ကျွန်ုပ်တို့က အာရုံခံစားမှုအဖြစ်နှင့် မတွေ့နိုင်ကြ။ ထိုအလျင် ၃ ခုသည် ပကတိအားဖြင့် သူတို့ဟာ သူတို့ အာရုံခံစားမှုများကို ဖြစ်ပေါ်စေနိုင်စွမ်း မရှိကြ။ သို့ရာတွင် ထကြွသော စင်ကြယ်မှုအလျင်များနှင့် မစင်ကြယ်မှုအလျင်များကို ဖြစ်စေနိုင်လောက်အောင်မူကား အင်အားရှိကြ၏။ ထိုအလျင် ၁၃ ခုတို့၏ အင်အားက စင်ကြယ်မှုအလျင် ၂၅ ခုနှင့် မစင်ကြယ်မှုအလျင် ၁၄ ခုကို ဖြစ်ပေါ်ကြစေ၏။

<u>မစင်ကြယ်မှု၏ အခြေအမျိုးမျိုး</u>

ထကြွသော စင်ကြယ်မှုအလျင် ၂၅ ခုက စင်ကြယ်မှု အာရုံခံစားမှု ၂၅ မျိုးကို ဖြစ်စေ၏။ မစင်ကြယ်မှုအလျင် ၁၄ ခုက မစင်ကြယ်မှု အာရုံခံစားမှု ၁၄ မျိုးကို ဖြစ်စေ၏။ ကျွန်ုပ်တို့ တွေ့ကြုံရသည့် အာရုံခံစားမှု အမျိုးမျိုးတွင် စင်ကြယ်မှုအလျင်နှင့် မစင်ကြယ်မှုအလျင်တို့ အချိုးအစား အမျိုးမျိုး ရောစပ်နေကြ၏။ ထိုကဲ့သို့ ဖြစ်ပေါ်လာသော အာရုံခံစားမှု အသီးသီးတို့က နာမ်ဓါတ်၏ အသက်ရှင်မှု အလျင်ကို အခြေအမျိုးမျိုးသို့ ပို့ပေးကြ၏။ ပြုလုပ်ခြင်းဆိုင်ရာ ကြံစည်ခြင်း အာရုံပြန်မှုများ သို့မဟုတ် တုန့်ပြန်မှုဆိုင်ရာ အာရုံပြန်မှု ဖွဲ့လန်းချက်များ၏ ပမာဏသည် အာရုံခံစားမှုဆိုင်ရာ လှိုင်းများ ရောက်ရှိနေသော အခြေတို့အလိုက် ခြားနားခြင်းရှိကြ၏။

မစင်ကြယ်မှုအလျင် ၁၄ ခုကြောင့် နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သော တုန့်ပြန်မှုတို့သည် (၁) ဘဝမက်ခြင်း အခြေ ( လောဘမူလ )၊ (၂) မုန်းတီးခြင်း အခြေ ( ဒေါသမူလ ) နှင့် (၃) မသိမှုအခြေ ( မောဟမူလ ) တို့ကို ဖြစ်ပေါ်စေ၏။ ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် အဆိုပါ အခြေသုံးခုအနက် တခုခုသော အခြေသို့ ရောက်သောအခါ ထကြွသော မစင်ကြယ်မှုအလျင်တို့သည် ဖြစ်ပေါ်လာပြီးလျှင် မစင်ကြယ်မှု မျိုးစေ့တို့သည် နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်အတွင်းသို့ ဝင်ကြ၏။ အကယ်၍ အဆိုပါ

အလျင်တို့သည် နာမ်ဓါတ်အတွင်းသို့ ရောက်၍လာကြသော်လည်း ထိုအလျင်တို့သည် ကာယကံ မြောက်လှုပ်ရှားမှု မဖြင်မီ လျော့နည်း၍သွားသည်ဖြစ်မူ ကျန်ရစ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်အတွင်းသို့ အားနည်းသော မစင်ကြယ်မှု မျိုးစေ့ များသာ ရောက်ကြ၏။ အဆိုပါ မျိုးစေ့တို့သည် မိမိတို့၏ အင်အားအလိုက် အညှောင့် ထိုးကြ၊ ကြီးပွားကြပြီးလျှင် အချိန်တန်သော အခါတွင် သီးကြ၏။

## စိတ်ထားသည် ကြံစီမှု၏ အရေးကြီးသော အင်္ဂါ ဖြစ်ခြင်း

ကြံစီမှုတို့၏ ပြင်းခြင်း၊ ပျော့ခြင်းသည် နာမ်ဓါတ်၏ အသက်ရှင်မှု အလျင်၏ အင်အားအလိုက်ဖြစ်၏။ သတိ သို့မဟုတ် ဆင်ခြင်မှုနှင့် ပြည့်စုံသော သူတယောက်တွင် အလွန်အင်အားကြီးသော အသက်ရှင်မှုအလျင်ရှိ၏။ ထိုသူမျိုးတွင် ဖြစ်ပေါ်သော ကြံစီမှု၏ အင်အားသည် ပို၍ကြီး၏။ သတ္တဝါအမျိုးမျိုးတို့၏ သတိနှင့် ပြည့်စုံသော အခြေမှာ တဦး၏ အခြေနှင့် တဦး၏ အခြေသည် မတူကြ။ ထို့ကြောင့် သတ္တဝါ အမျိုးမျိုးတို့၏ ကြံစီမှုအင်အားများသည်လည်း တဦး၏ အင်အားနှင့် တဦး၏ အင်အား သည် မတူကြ။

အကယ်၍ လူနှစ်ယောက်သည် အကြမ်းဖက်မှုကို ကျူးလွန်ကြသည်ဖြစ်မူ တယောက်၏ တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုတို့ကို ကြံစီသောအင်အားနှင့် တယောက်၏ တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုတို့ကို ကြံစီသော အင်အားတို့သည် တူကြလိမ့်မည် မဟုတ်။

လူတယောက်တွင် ဖြင်ပေါ်သော ကြံစီမှုအင်အားနှင့် အခြားတယောက် တွင် ဖြင်ပေါ်သော ကြံစီမှုအင်အားတို့သည် မတူကြသဖြင့် သူတို့ထံမှ အသက်ရှင်မှု အလျင်အတွင်းသို့ ရောက်လာသော မျိုးစေ့တို့သည်လည်း တူကြလိမ့်မည်မဟုတ်။ ထို့ကြောင့် သူတို့ခံစားကြရမည့် အကျိုးခြင်းသည်လည်း တူကြလိမ့်မည်မဟုတ်။ လူနှစ်ယောက်သည် အကြမ်းဖက်မှုအားခုကို နှစ်ယောက်တွဲ၍ ကျူးလွန်ကြသောအခါတွင် တယောက်တွင် မစင်ကြယ်မှုပွဲလန်းချက်သည် အကြီးအကျယ်ဖြစ်ပေါ်၍ အခြားတယောက်တွင်မူကား မစင်ကြယ်မှုပွဲလန်းချက်သည် အလျင်းဖြစ်ပေါ်ချင်မှ ဖြစ်ပေါ်လိမ့်မည်။ ထိုကဲ့သို့ ဖြစ်ခြင်းမှာ ပထမလူ၏ ကြံစီမှုကား ကြီးကျယ်ကြမ်းတမ်း၍ ဒုတိယလူကမူ သူ၏ စိတ်ထဲက ကြံစီမှု မရှိဘဲနှင့် လွန်ကျူးမှု၌ ကာယကံဖြင့်သာ ပါဝင်ခြင်းကြောင့်ဖြစ်၏။

ဥပမာဆိုသော် လူသတ်ရန် အားပေးသူတို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ ရောက်သော မစင်ကြယ်မှုထုထည်တို့မှာ အကယ်လူကိုသတ်သောသူ၏ အသက်ရှင်မှုအလျှင်အတွင်းသို့ ရောက်သော မစင်ကြယ်မှုအထုအထည်နှင့် ညီမျှ၏ ။ တခါတရံ ပို၍ပင်များပြားသေး၏။ ကျွန်ုပ်တို့သည် မကောင်းမှုကို မိမိတို့ကိုယ်တိုင် ကာယကံမြောက် မကြူးလွန်ကြသည့်တိုင်အောင်ပင် အခြားသူတို့ ကြူးလွန်သော မကောင်းမှုတို့ကို သဘောကျကြကာမျှနှင့် ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျှင်အတွင်းသို့ မစင်ကြယ်မှုမျိုးစေ့များကို ရောက်စေနိုင်၏။ လူတစုက မကောင်းမှုများကို ကြူးလွန်ကြလျှင် ထိုလူစုပါ တယောက်စီ တယောက်စီသောသူတို့ နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အတွင်းသို့ မစင်ကြယ်မှုမျိုးစေ့တို့သည် ရောက်ကြ၏။ မကောင်းမှုကို ကာယကံမြောက်ကြူးလွန်သူတို့နှင့် ထိုမကောင်းမှုကို ကြူးလွန်ရန် မနောကံမျှဖြင့် အားပေးကူညီပြုသော သူတို့သည် တူညီသော မကောင်းကျိုးကို ခံစားကြရ၏။

## <u>မကောင်းမှုနှင့် သိမှု</u>

ကျွန်ုပ်တို့၏ ဆင်ခြင်မှုသည် အားကောင်း၍လာသောအခါတွင် ကျွန်ုပ်တို့၏ အတွင်းသိမှုက ကျွန်ုပ်တို့အား မည်ကဲ့သို့ ပြုမူရမည်ကို သေချာစွာပြဋ္ဌာန်း၍ ပေး၏။ မကောင်းမှုတခုကို ကြူးလွန်မည့်ဆဲဆဲအခါတွင် ကျွန်ုပ်တို့၏ အတွင်းသိမှုက ရှေ့မှဆီး၍ တားထား၏။ ထိုသို့ဖြစ်ခြင်းသည် သတိရှိခြင်း၏ လက္ခဏာပင်ဖြစ်၏။ အကယ်၍ ကျွန်ုပ်တို့သည် မှန်ကန်သော သတိရှိခြင်း၏ သိမ်မွေ့စွာ တားမြစ်ချက်ကို လွန်ဆန်၍ ပြုလုပ်ခဲ့မည်ဆိုလျှင် မစင်ကြယ်မှုတို့သည် ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျှင်အတွင်းသို့ အဆပေါင်းများစွာတိုး၍ ရောက်လာ၏။ သိမှု သို့မဟုတ် ဆင်ခြင်မှုသည် မကောင်းမှုကို ကြူးလွန်သူတို့အဖို့တွင် ဝန်ထုတ်ကြီးဖြစ်၏။

အကျိုးအပြစ်တို့ကို ကောင်းစွာသိပြီးနောက်မှ မတွန့်မဆုတ်ကြစိ၍ တမင်ကြူးလွန်သော မကောင်းမှုတို့သည် အလွန့်အလွန်ကြီးမားသော မစင်ကြယ်မှုများကို ဖြစ်ပေါ်စေ၏။ ( သောမနဿ သဟဂတ ဒိဋ္ဌိဂတ သမ္ပယုတ္တ သသင်္ခါရိက )။ အမှတ်မထင်၄င်း၊ ရုတ်တရက်အမျက်ထွက်၍၄င်း၊ တင်ကြိုပြင်ဆင်ခြင်းမရှိဘဲ၄င်း၊ သိမှုလည်း မရှိဘဲ၄င်း၊ သို့မဟုတ် ကြံစည်မှုမရှိဘဲ၄င်း၊ ကြူးလွန်သော မကောင်းမှုတို့သည် သေးငယ်သော မစင်ကြယ်မှုများကိုသာဖြစ်ပေါ်စေနိုင်၏။ ( ဥပေက္ခာ သဟဂတ ဒိဋ္ဌိဂတ ဝိပ္ပယုတ္တ အသင်္ခါရိက )။ အဆိုပါ အမျိုးအစားနှစ်ခုစပ်ကြားအတွင်း၌ မစင်ကြယ်မှုအားလုံးသည် ရေတွက်၍မရနိုင်လောက်အောင် အဆင့်အတန်းကွဲပြားခြားနားခြင်း ရှိကြ၏။

စင်ကြယ်မှုအခြေအမျိုးမျိုးနှင့် အဆင့်အတန်းအမျိုးမျိုး

စင်ကြယ်မှုအလျင် ၂၅ ခုသည် နာမ်ဓါတ်အား အခြေသုံးမျိုး၌ တည်နေစေ၏။ ထိုအခြေသုံးမျိုးဟူသည် မစင်ကြယ်မှုအခြေသုံးမျိုးနှင့် ဖြောင့်ဖြောင့်ကြီးဆန့်ကျင်၏။ စင်ကြယ်မှုအလျင်ကြောင့် ဖြစ်ပေါ်သော နာမ်ဓါတ်၏အခြေသုံးမျိုးမှာ (၁) တဝိမောက်မှုကင်းခြင်းအခြေ (အလောဘ) (၂) မေတ္တာစိတ်ရှိသော အခြေ (အဒေါသ) နှင့် သိမှုနှင့်ပြည့်စုံခြင်းအခြေ (အမောဟ) တို့ဖြစ်၏။

နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်အတွင်း၌ ဖြစ်ပေါ်ကြသော အာရုံပြန်မှုဖွဲ့လန်းချက်တို့၏ အင်အားသည် စင်ကြယ်သော ကြံစီမှုတို့၏ အင်အားအပြင်း၊ အပြောင်းအလိုက်ခြားနားခြင်းရှိ၏။ ဤနှိဝတ်တို့၏ ဆင်ခြင်မှုသည် ဤနှိဝတ်တို့ကောင်းမှုပြုသည့်အခါတိုင်း ဤနှိဝတ်တို့၏ အတွင်းသိမှုကို ဖြစ်ပေါ်စေရန် အားပေးခြင်းဖြင့်၄င်း၊ စင်ကြယ်မှုဖွဲ့လန်းချက်တို့အား နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်တွင်းသို့ လွတ်လပ်စွာ ဝင်နိုင်ရန် လမ်းရှင်းပေးခြင်းဖြင့်၄င်း၊ ဖွဲ့လန်းချက်တို့၏ အင်အားကို များစွာ တိုးတက်လာစေ၏။

စင်ကြယ်သော အာရုံပြန်မှုတို့အား အကျိုးအပြပ်ကို အပြည့်အစုံ သိပြီးနောက်မှ သေချာစွာ စဉ်းစား၍ ကြံစီမှုဖြင့် ပြုလုပ်သောအခါတွင် (သောမနဿ သဟဂတ ဉာဏသမ္ပယုတ္တ အသင်္ခါရိက) ထိုအာရုံပြန်မှုတို့သည် အင်အားအကြီးဆုံး ဖွဲ့လန်းချက်များကို ဖြစ်ပေါ်စေနိုင်၏။ သို့ရာတွင် နာမ်ဓါတ်အလျင်က စင်ကြယ်သော အာရုံပြန်မှုတို့အား အမှတ်မထင်၄င်း၊ တင်ကြိုပြင်ဆင်မှု မရှိဘဲ၄င်း၊ သိမှုမရှိဘဲ၄င်း၊ သို့မဟုတ် ကြံစီမှုမရှိဘဲ၄င်း၊ ကြံစီခဲ့သည့်အခါတွင် ထိုစင်ကြယ်သော အာရုံပြန်မှုတို့၏ အင်အားသည် အနည်းဆုံးဖြစ်၏။ (ဥပေက္ခာ သဟဂတ ဉာဏဝိပ္ပယုတ္တ သသင်္ခါရိက) အဆိုပါအကျိုးအပေါင်းနှပ်ခုစပ်ကြားအတွင်းတွင် စင်ကြယ်မှုအားလုံးသည် မရေမတွက်နိုင်လောက်အောင် အဆင့်အတန်းကွဲပြားခြားနားခြင်းရှိ၏။

ဖျက်ဆီး၍မရသော နာမ်ဓါတ်၏ ဖွဲ့လန်းချက်များ

နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်အတွင်း၌ ဆန့်ကျင်ဘက်သဘောရှိသော ဖွဲ့လန်းချက် အထုအထည်တို့သည် တခုကိုတခု ဟန့်ပြန်ကြ၏။ သို့ရာတွင် အင်အားပြောသော ဖွဲ့လန်းမှုသည်သာလျှင် ဟန့်ပြန်မှုဒါဏ်ကို ခံရ၏။ အင်အားကြီးသော ဝင်ကြယ်မှုဖွဲ့လန်းချက်များသည် အသက်ရှင်မှုအလျင်အတွင်းသို့ ဝင်လာကြသောအခါ အား

ပျော့သော မဝင်ကြွယ်မှုပွဲလန်းချက်များသည် ပျက်စီး ပျောက်ကွယ်သွားကြ၏။ အပြန်အလှန်သဘောအားဖြင့်လည်း အသက်ရှင်မှု အလျှင်အတွင်းသို့ အင်အားကြီးသော မဝင်ကြွယ်မှုပွဲလန်းချက်များဝင်လာကြသောအခါ အားပျော့သော ဝင်ကြွယ်မှုပွဲလန်းချက်များသည် ပျက်စီး ပျောက်ကွယ်သွားကြ၏။ ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အတွင်း၌အင်အားကြီးသော ဝင်ကြွယ်မှုပွဲလန်းချက်များရှိနေကြလျှင် အားပျော့သော မဝင်ကြွယ်မှုပွဲလန်းချက်များသည် အသက်ရှင်မှုအလျှင်အတွင်းသို့ ဝင်လာကြသည့်တိုင် အောင်ပင် ပျက်စီး၍ သွားကြ၏။ သို့ရာတွင် ထိုကဲ့သို့ ဖြစ်သည့်အခါတွင် အဖျက်ဆီးခံရသော မဝင်ကြွယ်မှုပွဲလန်းချက်များ၏ အင်အားနှင့်ညီမျှသော ဝင်ကြွယ်မှုအင်အားတို့လည်း ကုန်ခမ်း၍သွား၏။ အင်အားကြီးသော မဝင်ကြွယ်မှုပွဲလန်းချက်များက အားပျော့သော ဝင်ကြွယ်မှုပွဲလန်းချက်များကို ဖျက်ဆီးပစ်ရာ၌လည်း ဤနည်း အတိုင်းပင်ဖြစ်၏။

သို့ရာတွင် အသက်ရှင်မှုအလျှင်အတွင်း၌ တုန့်ပြန်မှုအင်အားကို မခံယူကြသော အင်အား အင်မတန်ကြီးသည့် ဝင်ကြွယ်မှုပွဲလန်းချက်များနှင့် မဝင်ကြွယ်မှုပွဲလန်းချက်များလည်း ရှိကြသေး၏။ အဆိုပါ ပွဲလန်းချက်တို့သည် မိမိတို့နှင့် ဆန့်ကျင်ဘက်ဖြစ်သော အင်မတန် အင်အားကြီးသည့် ပွဲလန်းချက်များနှင့် ရင်ဆိုင်တွေ့ရသော်လည်း အသက်ရှင်မှုအလျှင်အတွင်း၌ ဆက်လက်တည် နေမြဲတည် နေကြ၏။ အဆိုပါ ပွဲလန်းချက်များကို မည်သည့်နည်းနှင့်မျှ ဖျက်ဆီး၍မရ။ ၄င်းတို့သည် အချိန်တန်သောအခါတွင် သီးကြ၏။ သို့ရာတွင် ယေဘုယျအားဖြင့် လူသားတို့တွင် အဆိုပါ အင်အားကြီးလှသော ဝင်ကြွယ်မှု ပွဲလန်းချက်မျိုးနှင့် မဝင်ကြွယ်မှုပွဲလန်းချက်မျိုးသည် မရှိကြ။ ဝင်စစ်အားဖြင့် အဆိုပါ ပွဲလန်းချက်မျိုးသည် ရှားပါးလှသည်သာ ဖြစ်၏။

## နာမ်ဓါတ်အတွင်းရှိ ဝင်ကြွယ်မှုနှင့် မဝင်ကြွယ်မှုအထုအထည်များ၏ အချိုးအစား

ဝင်ကြွယ်မှုအင်အားနှင့် မဝင်ကြွယ်မှု အင်အားတို့အား ဆန့်ကျင်ဘက် အင်အားများက ဖျက်ဆီးကြသောအခါတွင် ကျန်နေသော ဝင်ကြွယ်မှုအင်အားနှင့် မဝင်ကြွယ်မှုအင်အားတို့က အမြဲတည်တန့်၍ ကြီးပွားနေနိုင်ရန် အလိုအလျောက် အားထုတ်နေကြသဖြင့် နာမ်ဓါတ်တိုင်း နာမ်ဓါတ်တိုင်းတွင် ဝင်ကြွယ်မှုအင်အား

နှင့် မစင်ကြယ်မှုအင်အားဘို့သည် အလိုအလျောက် မပျက်မကွက် တိတိကျကျ ညီမျှ၍ နေကြ၏။ အသက်ရှင်မှုအလျင်တွင်း၌ အင်အားဘို့သည် ဤနည်းဖြင့်သာ ညီမျှ၍ နေကြ၏။ အသက်ရှင်မှု အလျင်သည် ကျွန်ုပ်တို့ သိကြသည့်အတိုင်းပင် အခါခပ်သိမ်း အင်အားပြည့်ဝွာဖြင့် ဘည် နေ၏။ ဤအသက်ရှင်မှု အလျင်သည် မစင်ကြယ်မှု အထုအထည်များနှင့် စင်ကြယ်မှု အထုအထည်များ ၏ ဘခဏနှင့် ဘခဏ အကူး၌ငှင်း၊ နာမ်ဝါဘ်တခါလှုပ်နှင့် ဘခါလှုပ်စပ်ကြား၌ငှင်း၊ တိတိကျကျ ညီမျှ၍ နေစေရန် သွက်လက်စွာ ပြုပြင်၍ ပေး၏။

နာမ်ဝါဘ်တခုလုံး ဘည်နေနိုင်မှု အင်အားသည် နာမ်ဓါဘ်တို့အတွင်း၌ အသက်ရှင်မှုအလျင်၏ အင်အား၌ရှိသော စင်ကြယ်မှုဖွဲ့လန်းချက်နှင့် မစင်ကြယ်မှု ဖွဲ့လန်းချက်တို့၏ ခြားနားခြင်း အပေါ်တွင် ဘည်၏။ စင်ကြယ်မှုဖွဲ့လန်းချက် အထုအထည်ကြီး၍ မစင်ကြယ်မှု အထုအထည် သေးသော အသက်ရှင်မှုအလျင်သည် မစင်ကြယ်မှုဖွဲ့လန်းချက် အထုအထည်ကြီး၍ စင်ကြယ်မှုဖွဲ့လန်းချက် အထုအထည် သေးသော အသက်ရှင်မှုအလျင်ထက် ပို၍အင်အားကြီး၏။

<u>မစင်ကြယ်မှုနှင့် စင်ကြယ်မှုတို့၏ အကျိုးသက်များ</u>

ယခုအချိန်တွင် စင်ကြယ်မှုအထုအထည်ဘို့နှင့် မစင်ကြယ်မှု အထုအထည်ဘို့ ဝင်လာသဖြင့် နာမ်ဝါဘ်တွင် မည်ကဲ့သို့ အကျိုးသက် ရောက်သည့်အကြောင်းကို ဖေါ်ပြဖို့လို၏။ နာမ်ဝါဘ်၏ အသက်ရှင်မှုအလျင်အတွင်းသို့ မစင်ကြယ်မှု အလျင်များ ထကြွစွာ ပေါ် ပေါက်လာသဖြင့် အသက်ရှင်မှုအလျင်၌ မစင်ကြယ်မှု ဖွဲ့လန်းချက်များဖြစ် ပေါ်လာသောအခါ အသက်ရှင်မှု အလျင်၏ အင်အားသည် လျော့၍သွား၏။ ဤကဲ့သို့ မစင်ကြယ်မှု ဖွဲ့လန်းချက်များက အသက်ရှင်မှုအလျင်၏ အင်အားဘို့ကို လျော့ပေါ့ သွားစေခြင်းနှင့် အသက်ရှင်မှု အလျင်၏ အင်အားဘို့ကို လောင်ကျွမ်း၊ မှောင်မဲ၊ ကျဉ်းကြုံသွားစေဘက် စေခြင်းမှာ မစင်ကြယ်မှုဖွဲ့လန်းချက်ဘို့၏ ထူးခြားသော ဝမ္မဘာ ပင်ဖြစ်သော ကြောင့်ဖြစ်၏။ အသက်ရှင်မှုအလျင်တခုလုံး၏ အင်အားများသည် မိမိ အတွင်း၌ရှိ၍နေသော မစင်ကြယ်မှုဖွဲ့လန်းချက်များနှင့် မိမိအတွင်းသို့ဝင်ရောက် လာသော မစင်ကြယ်မှု ဖွဲ့လန်းချက်များ၊ များသလောက် ဆုတ်ယုတ်သွား၏။

စင်ကြယ်မှုဖွဲ့လန်းချက်ဘို့သည် အသက်ရှင်မှုအလျင်အတွင်းသို့ ဝင်လာသောအခါတွင် ထိုအလျင်၏ အင်အားများနှင့် ရောဝှက်၍ ထိုအလျင်၏ အင်အားကို ဘိုးပွားလာစေ၏။ ဤနည်းဖြင့် နာမ်ဝါဘ်တခုလုံး၏ အင်အားကိုလည်း ဘိုးပွား

လာပေ၏။ ဝင်ကြွယ်မှုပွဲလန်းချက်တို့သည် အသက်ရှင်မှုအလျှင်အဘွင်း၌ ကျန်းမာမှု၊ သန့်ရှင်းမှု၊ လန်းဆန်းမှု၊ သွက်လက်မှု အင်အားများကို ဖြစ်ပေါ်ပေ၏။ ဤနိဗ်ဘို့ နာမ်ပါဘ်၏ အသက်ရှင်မှုအလျှင်အဘွင်းသို့ ဝင်ကြွယ်မှုပွဲလန်းချက်အသစ်များ ဝင်လာသလောက် ဤနိဗ်တို့ နာမ်ပါဘ်ဘခုလုံး၏ အင်အားသည် ဘိုးရှဲလာ၏။

## မသာယာမှုနှင့် သာယာမှုတို့သည် နာမ်ပါဘ်၏ အင်အားကို ဖုဘ်ယုဘ် ပေခြင်း

ဝင်ကြွယ်မှုပွဲလန်းချက်တို့၏ ဘုန့်ပြန်ချက်တို့သည် သာယာမှုအာရုံခံစားချက်များဖြစ်၏။ ထိုအာရုံခံပေးချက်တို့သည် ထကြွနေသည်လည်း ဖြစ်နိုင်၏။ ငုဘ်ငြိမ်းနေသည်လည်း ဖြစ်နိုင်၏။ မပင်ကြွယ်မှုပွဲလန်းချက်ဘုန့်ပြန်မှုအကျိုးဘို့သည် ဤနိဗ်ဘို့၏ နာမ်ပါဘ်ဘွင် မသာယာသော အာရုံခံပေးမှုကို ဖြစ်ပေါ်ပေ၏။ ထို့ကြောင့် ဤနိဗ်ဘို့၏ ပစ္စုပ္ပန်သာယာမှု အာရုံခံပေးချက်များနှင့် မသာယာမှု အာရုံခံစားချက်များသည် ဤနိဗ်ဘို့၏ အဘ်ဘ်က ဝင်ကြွယ်မှုပွဲလန်းချက်နှင့် မပင်ကြွယ်မှုပွဲလန်းချက်တို့၏ဘုန့်ပြန်မှုများ ဖြင်၏။

ဤနိဗ်ဘို့၏ နာမ်ပါဘ်ဘွင် သာယာမှု သို့မဟုဘ် မသာယာမှု ဟု ဆိုနိုင်သော အာရုံခံပေးမှုတို့သည် အသက်ရှင်မှုအလျှင်အဘွင်း၌ ပေါက်ပွားနေသော အရာတို့ကို ကုန်ခမ်းပေ၏။ ဤနည်းဖြင့် ၎င်းတို့သည် အသက်ရှင်မှုအလျှင်အဘွင်း၌ ရှိနေသော အင်အားတို့ကို လျော့ပါးသွားကြပေ၏။ သာယာမှုနှင့် မသာယာမှု တို့က အသက်ရှင်မှုအလျှင်အဘွင်း၌ ရှိနေသော အင်အားများကို ကုန်ခမ်းသွားကြပေ၏။ သို့ရာဘွင် အသက်ရှင်မှု အလျှင်အဘွင်း၌ ကျန်နေသေးသော အင်အားဘို့က ဘည်ရှိနေသော အင်အားဘို့ကို ဘိုးပွားပေခြင်းဖြင့်၎င်း၊ ပင်ကြွယ်မှု သို့မဟုဘ် မဝင်ကြွယ်မှု ပွဲလန်းချက်မျိုး ပေ့ဘို့ကို နောက်ယဝ်ခံယူခြင်းဘို့ဖြင့်၎င်း တုန်ခမ်းမှုကိုဆည်ကာ ထဝ်ရှဲဖြည့်ကြ၏။

ဤနည်းဖြင့် သာယာမှု သို့မဟုဘ် မသာယာမှုတို့ကြောင့် ချက်ခြင်း ဖြဝ်ပေါ်လာသော အကျိုးမှာ အသက်ရှင်မှုအလျှင် အဘွင်း၌ ရှိနေသော အင်အားများကုန်ခမ်းခြင်းဖြဝ်၏။ ဤနိဗ်ဘို့ ခံပေးကြသော သာယာမှု၏ ပမာဏ အလိုက်ဤနိဗ်ဘို့သည် နာမ်ပါဘ်၏ အသက်ရှင်မှုအလျှင်အဘွင်း၌ အထုအထည်ဖြဝ်၍ နေကြသော ဝင်ကြွယ်မှုတို့ကို လျော့ပါးသွားပေ၏။ ဤနိဗ်ဘို့ ခံပေးရသော မသာယာမှုတို့၏ ပမာဏအလိုက် နာမ်ပါဘ်၏ အသက်ရှင်မှုအလျှင်အဘွင်း၌ ရှိနေကြသော မဝင်ကြွယ်မှုထုထည်သည် လျော့ပါးသွားကြ၏။

<u>သာယာမှု၏ ကောင်းကျိုးနှင့် မသာယာမှု၏ ဆိုးကျိုး</u>

အတိတ်က ဝင်ကြွယ်သော အကြံအစိတို့၏ တုန့်ပြန်မှုတို့ကြောင့် အချိန်တန်၍ အကျိုးပေးလာခြင်းဖြစ်သော သာယာမှုကို ခံစားနေသူတို့သည် နောက်ထပ် ဝင်ကြွယ်မှုများကို ပြုနိုင်ရန် အခြေကောင်းကို ရကြ၏။ ဤနည်းဖြင့် အဆိုပါသူတို့သည် အသက်ရှင်မှု အလျှင်အဘွင်းသို့ ဝင်ကြွယ်မှု မျိုးစေ့တို့ကို ဝို၍ဝို၍ ပို့ပေးနိုင်ကြ၏။ အဆိုပါ သူတို့အား ပစ္စုပ္ပန်ဝင်ကြွယ်မှု၏ တုန့်ပြန်ချက်ဖြစ်သော သာယာမှုကို ပေးသည့် ဝင်ကြွယ်မှု အထုအထည်တို့သည် ကုန်ခမ်းခဲ့သည့်ရှိသော် မျိုးစေ့အသစ်တို့သည် ဝင်ကြွယ်မှု အသီးသစ်များကို သာယာမှုအဖြစ်ဖြင့် နောက်ထပ်ပေးရန် ပေါက်ပွားကြီးရင့်လာကြလိမ့်မည်။ အကယ်၍ လူတယောက်သည် ရိပ်ရင်းစိုက်သော နည်းကို အသုံးပြုမည်ဆိုလျှင် ထိုသူသည် သာယာမှုတို့ကို အမြဲတန်းဆက်၍ ခံစားသွားရလိမ့်မည်ဖြစ်၏။ အကယ်၍ ကျွန်ုပ်တို့သည် နောင်အခါတွင် ရိပ်နိုင်ရန် အလုံအလောက်စိုက်ပျိုးထားပါလျှင် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ပစ္စုပ္ပန်သာယာမှုတို့ကို ခံစားရန် ကြောက်ဖို့လိုလိမ့်မည်မဟုတ် ။

မဝင်ကြွယ်မှုတို့၏ အသီးဖြင့်သော မသာယာမှုကို ခံစားနေသူတို့သည် ဘဝအခြေအလွန်ဆိုးကြသူများဖြစ်၏။ မသာယာမှုကို ခံစားနေရသူအဖို့တွင် ကောင်းမှုကို ပြုနိုင်ရန် အင်မတန်ခဲယဉ်း၏။ ထိုသူမျိုးသည် မိမိတို့လက်ငင်းခံစားနေရသော မသာယာမှု၌သာ အမြဲတ်ဝင်စား၍ နေရ၏။ ထို့ကြောင့် ထိုလူမျိုးတို့တွင် ကောင်းမှုကိုပြုရန် အချိန်လည်းမရ။ ကြံစိတ်လိုသောဆန္ဒလည်း မရှိ။ မသာယာမှုကို ခံစားရခြင်းဖြင့် ထွေးလုံးရပ်ပတ်ဖြစ်နေသော သူတို့သည် ယေဘုယျအားဖြင့် ရုံးကန်ထွက်ရန် အားထုတ်သဖြင့် မသာယာမှုတို့မှ လွတ်မြောက်သွားဘတ်၏။ သို့ရာတွင် ထိုသူမျိုးတို့သည် အားလွန်၍သွားဘတ်၏။ ထိုသူမျိုးတို့တွင် ယေဘုယျအားဖြင့် မကောင်းသော ဝိတ်တို့ လွှမ်းမိုးနေဘတ်၏။ ထိုသူမျိုးတို့၏ ဘဝမက်မှုအလျှင်၊ မုန်းတီးမှုအလျှင်နှင့် မသိမှုအလျှင်တို့သည် အင်အားကြီးပြီးလျှင် အနည်းငယ် အနိုက် မသင့်သည်နှင့်ဘဖြိုင်နက် ပြင်းထန်မွှာ ထကြွလှုပ်ရှားကုန်ကြ၏။ ထို့ကြောင့် ထိုလူမျိုးတို့သည် မကောင်းမှုများကို လုပ်လွယ်၍ မကောင်းမှုများကို ကြံစိမှု၌ မွေ့လျော်ကြ၏။ ထို့ကြောင့် မသာယာမှုသည် ကျွန်ုပ်တို့အား ဆိုးကျိုးနှစ်ခုကို ပေး၏။ တခုမှာ လောလောဆယ် ဆင်းရဲရခြင်းဖြစ်၍ ကျန်တခုမှာ အသစ်ဖြစ်သော မဝင်ကြွယ်မှု အထုအထည်များဖြစ်ပေါ် ပေမှုကာက်သို့ ပို့ဆောင်ပေးခြင်းဖြစ်၏။ ထို မဝင်ကြွယ်မှုတို့သည် နောင်တွင် အသီးကို ဆောင်၍ ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ပေးကြမည်သာဖြစ်၏။

## နာမ်ဓာတ် အစဉ်ပြောင်းလဲမှု

ယေဘုယျအားဖြင့် သာယာမှုတို့သည် ဝင်ကြွယ်မှုတို့ကို ဖြစ်စေရန် အထောက်အပံ့ပြုတတ်ကြ၍ မသာယာမှုတို့သည် မဝင်ကြွယ်မှုတို့ကို ဖြစ်စေရန် အထောက်အပံ့ပြုတတ်သော သဘောရှိ၏။ သို့ရာတွင် ထိုသဘောသည် မိမိတို့ ပြုမူပုံအလိုက် အပြောင်းအလွဲရှိနိုင်၏။ လူတစ်ယောက်သည် သာယာမှုကို ခံစား၍ နေချင်နေမည်။ သို့ရာတွင် ထိုလူသည် ဆင်ခြင်မှုကင်းမဲ့သည့်ဖြစ်မှု တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှု များကို ကြံစီလုပ်ဆောင်၍ နေမည်သာဖြစ်၏။ ထိုလူမျိုးတို့သည် မှန်ကန်သော သတိရှိမှု အင်အားတို့၏ ကာကွယ်စောင့်ရှောက်ခြင်းမှ ကင်းဝေး၍ နေမည်ဖြစ်သဖြင့် ၎င်းတို့၏ အသက်ရှင်မှုအလျင်အတွင်း၌ တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှု အင်အားတို့သည် အတားအဆီးမရှိ ထကြွကြပြီးလျှင် ထိုလူမျိုးတို့၏ အသက်ရှင်မှု အလျင်အတွင်း၌ မဝင်ကြွယ်မှု မျိုးစေ့တို့သည် စိုပြေ၍ နေကြမည်ဖြစ်၏။ မဝင်ကြွယ်မှု အင်အားများသည် ၎င်းတို့၏ သာယာမှု ခံစားချိန်များကို လျှင်မြန်စွာ ဖြတ်တောက်ပစ်လိုက်ရုံမျှမက သေးဘဲ နောက်ထပ် အသီးအပွင့်ကို ဆောင်ကြပြီးလျှင် အနာဂတ် ဆင်းရဲခြင်းတို့ကိုလည်း ဖြစ်ပေါ်စေမည်ဖြစ်၏။

နာမ်ဓာတ်အင်အားဖြစ်သော မှန်ကန်သော သတိရှိမှုကို နားလည်၍ အသုံးပြုတတ်သော မသာယာမှုကို ခံစားနေရသူတို့သည် တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုတို့ကို မဖြစ်ပေါ်စေနိုင်ရန် မိမိတို့၏ ဆင်းရဲခြင်းကို အေးချမ်းအောင် လုပ်ကြမည်ဖြစ်၏။ အဆိုပါ သူမျိုးတို့သည် မိမိတို့ ခံစားနေရသော မသာယာမှုကို သီးခံ၍ အခြားသူတို့အပေါ်တွင် သနားကြင်နာစိတ်ထားမည်သာဖြစ်၏။ အကယ်၍ မိမိတို့၏ မသာယာမှုကို ပပျောက်စေရန် သို့မဟုတ် ယုတ်လျော့စေရန် လျောက်ပတ်သော နည်းကို ရှာနိုင်သည်တိုင်အောင်ပင် ထိုသူမျိုးတို့သည် မသာယာမှုတို့၏ သဘောကို နားလည်အောင် ဆင်ခြင်ပြီးလျှင် ထိုမသာယာမှုတို့ကို သီးခံ၍ နေမည်သာဖြစ်၏။ ထိုသူမျိုးတို့သည် မိမိတို့၏ မသာယာမှုကို ပျောက်ပျက်အောင် အားထုတ်ပြီးလျှင် အခြားသူတို့အပေါ်တွင် သနားကြင်နာစိတ်ထား၍ သူတပါးကို ကူညီရန် တတ်နိုင်က ကူညီကြပေမည်ဖြစ်၏။ အဆိုပါ သူမျိုးတို့သည် မိမိတို့ ခံစားနေရသော မသာယာမှုကို သာယာမှုအဖြစ်သို့ ပြောင်းလွဲပစ်ပြီးလျှင် မိမိတို့၏ မသာယာမှုကို ခံစားနေရရင်းနှင့်ပင် ချမ်းသာစွာ နေကြ၏။ ဤနည်းဖြင့် ထိုသူမျိုးတို့ အဖို့

တွင် မသာယာမှုသည် ချက်ချင်းသာယာမှုအဖြစ်သို့ ရောက်၏။ ထိုသူမျိုးတို့သည် မိမိတို့၏ နောင်အကျိုး၌ မိမိတို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ စင်ကြယ်မှု မျိုးစေ့ မြောက်မြားစွာကို ပို့ကြ၏။ ထိုမျိုးစေ့တို့သည် မိမိတို့ မသာယာမှုခံစားနေရသော အချိန်ကိုလည်း အများကြီး လျော့ပါးသွားစေပြီးလျှင် အနာဂတ်တွင်လည်း မိမိတို့၏ မျက်မှောက်စင်ကြယ်မှု မျိုးစေ့များ ပွင့်သီးလာကြသဖြင့် ချမ်းသာမှုကို ရမည်ဖြစ်၏။

## နာမ်ဓါတ်၏ ဖွဲ့လန်းချက်များအသီး သီးကြပုံ

မျိုးစေ့တမျိုးသည် မိမိနှင့် အမျိုးတူသော အပင်ပေါက်၍ မိမိနှင့် အမျိုးတူသော အသီးကို ဆောင်၏။ ထိုနည်းတူပင် စင်ကြယ်မှုဖွဲ့လန်းချက်မျိုးစေ့နှင့် မစင်ကြယ်မှုဖွဲ့လန်းချက်မျိုးစေ့တို့သည် မိမိတို့နှင့် အမျိုးတူသော အပင်ပေါက်၍ မိမိတို့နှင့် အမျိုးတူသော အသီးကို ဆောင်ကြ၏။ ဥဒါဟရဏ်ဆိုသော် မေတ္တာစိတ်ပြည့်ဝသော စင်ကြယ်မှုဖွဲ့လန်းချက်မျိုးစေ့တို့သည် များမြောင်သော သာယာမှုနှင့် ချမ်းသာမှုများဟု ဆိုအပ်သော တုန့်ပြန်မှုများကို ဖြစ်ပေါ်စေ၏။ ထိုနည်းအတူပင် မုန်းတီးစိတ်ပြည့်ဝသော မစင်ကြယ်မှုဖွဲ့လန်းချက်မျိုးစေ့တို့သည် ထိပ်လန့်မှု၊ ကြောက်ရွံ့မှု၊ အားငြော့မှု၊ အောက်ကျမှုဟု ဆိုအပ်သော တုန့်ပြန်မှုများကို ဖြစ်ပေါ်စေ၏။

စင်ကြယ်မှုနှင့်ငင်း၊ မစင်ကြယ်မှုနှင့်ငင်း ပတ်သက်သော မရေမတွက်နိုင်လောက်အောင် အဆင့်အတန်းကွဲပြားခြားနားသော ဖွဲ့လန်းချက် အာရုံပြန်မှုတို့သည် မျိုးစေ့များအဖြစ်နှင့် အသက်ရှင်မှု အလျှင်အတွင်းသို့ ဝင်၍အကြဲ စိုက်ကြပြီးလျှင် ပွင့်ကြ၊ သီးကြ၏။ အဆိုပါမျိုးစေ့အားလုံးတွင် ထူးခြားသော အင်အားများ ရှိကြ၍ ထူးခြားသော အပင်ကို ပေါက်စေ၍ ထူးခြားသော အသီးကို ဆောင်ကြ၏။ ထို့ကြောင့် စင်ကြယ်မှု မျိုးစေ့နှင့် မစင်ကြယ်မှု မျိုးစေ့များကိုတကျစွာ ဖော်ပြခြင်း၌ မဖြစ်ကောင်း။ သို့ရာတွင် ကျွန်ုပ်တို့ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သော အာရုံခံစားမှုတို့အရ ဘဝမက်မှုမျိုးစေ့၊ မုန်းတီးမှုမျိုးစေ၊ မနာလိုမှုမျိုးစေ့၊ မေတ္တာစိတ်မျိုးစေ့၊ သနားကြင်နာစိတ်မျိုးစေ့ စသဖြင့် အကြမ်းအားဖြင့်သာ အဆင့်အတန်း ခွဲခြားဖော်ပြနိုင်၏။ ဖွဲ့လန်းချက်ဟုခုသည် မျိုးစေ့အဖြစ်နှင့် ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်းသို့ ဝင်ရောက်လာသည့်အခါတွင် ကျွန်ုပ်တို့တွင်

ဖြစ်ပေါ်သော အာရုံခံစားမှု အမျိုးအဝားအရ ထိုမျိုးစေ့မှ မည်သည့်အပင်ပေါက်၍ မည်သည့်အသီးသီးလိမ့်မည်ဟု ဘင်ကြို၍ ပြောနိုင်၏။ သို့ရာတွင် ထိုမျိုးစေ့၏ ဘုန်းပြန်မှုသည် မည်မျှလောက် အင်အားရှိလိမ့်မည်ဟု သိနိုင်ရန်အတွက်မူ ထိုမျိုးစေ့တို့၏ အင်အားပမာဏကို အတိအကျသိအောင် စပ်ဆေးကြည့်မှ ဖြစ်နိုင်၏။

## နာမ်ဓါတ်နှင့် အချိန်အနန္တကိစ္စ

ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ အင်အားတခုဘည်းသာရှိ၏။ ထိုအင်အားသည် ခပ်သိမ်းသော သတ္တဝါတို့၌ ဘိဘိကျကျ အညီအမျှရှိ၏။ ထိုအင်အားသည် အသက်ရှင်မှု အလျှင်အတွင်း၌ ရောဂရှက်၍ နေသော အဖြူတန်းထဲ၌ နေသည့် ဖြစ်ခြင်း၊ ဘည်ခြင်း၊ ပျက်ခြင်း သုဝ်ရွားမှုဖြစ်၏။ ရုပ်ဓါတ်ကိုင်း ရုပ်ဓါတ်တိုင်း၌ပင် ဤအင်အားသည် အနည်းငယ်စီ အနည်းငယ်စီ ရှိ၏။ ဤအင်အားသည် နာမ်ဓါတ်ကိုင်း နာမ်ဓါတ်တိုင်းနှင့် ရုပ်ဓါတ်ကိုင်း ရုပ်ဓါတ်ကိုင်းအတွင်း၌ ဘည်ရှိ၏။ ဤနာမ်ဓါတ်ကိုင်း နာမ်ဓါတ်ကိုင်း၌ ရှိသော အင်အားသည် စကြာဝဠာအတွင်း၌ အခြားအင်အားတို့နှင့် ဆက်သွယ်ခြင်း မပြုကြဘဲ ဘသီးဘခြားစီ နေကြ၏။

ဤအင်အားသည် ဖြစ်၊ ဘည်၊ ပျက် မှုကိုသာ ဖြစ်စေသည်မဟုတ်ဘဲ အသီးသီးသော နာမ်ဓါတ်နှင့်ရုပ်ဓါတ်တို့ကို အချိန် (ကာလ) နှင့် ညီသွတ်အောင် ဆောင်ရွက်၍လည်း ပေး၏။ ဤအင်အားသည် အသက်ရှင်မှုအလျင်ကြောင့် ပြောင်းလွဲခြင်းလည်း မရှိ။ ခင်ကြယ်မှုနှင့် မခင်ကြယ်မှုတို့ကြောင့် ပို၍ မြန်သွားခြင်း၊ ပို၍ နှေးသွားခြင်း ဟူ၍လည်း မရှိ။ ဤအင်အားသည် မည်သည့် ပြင်ပအင်အားက မျှ ပြုပြင်၍ ပေးနိုင်သော အင်အား မဟုတ်။ ဘိုးတက်ခြင်း၊ ဆုတ်ယုတ်ခြင်းလည်း ရှိသော အင်အား မဟုတ်။ အလျှင်မြန်နှုန်းလည်း မည်သည့်အခါမျှ ပြောင်းလွဲခြင်း မရှိ။ ဤအင်အားသည် အခါခပ်သိမ်းအပြင်းအ ပြောင့်ညီမျှသော အရှိန်ဖြင့် သွားလာသွားလာပ်ရွားမှုကို ပြုနေသောအင်အားဖြစ်၏။ ဤ ဖြစ်၊ ဘည်၊ ပျက် အင်အားသည် စကြာဝဠာကြီး၏ အပိုင်းအခြား မရှိသော ချိန်သီးဖြင်ပြီးလျှင် သတ္တဝါကိုင်းသတ္တဝါကိုင်း အရာဝတ္ထုကိုင်း အရာဝတ္ထုကိုင်းနှင့် အညီအမျှဖြစ်ပေါ်နေ၍ စကြာဝဠာ တွင်း၌ သတ္တဝါကိုင်း သတ္တဝါကိုင်းနှင့် အရာဝတ္ထုကိုင်း အရာဝတ္ထုကိုင်းကို အချိန် (ကာလ)၏ ခရီးလမ်းကြောင်း၌ ရွေ့လျားနေစေ၏။

## နာမ်ဓာတ်၏ တုန့်ပြန်မှုတို့သည် ရင့်မာရန် နှေး၍ ရှင် ကြာရှည် ခံခြင်း

စင်ကြယ်မှု စွဲလန်းချက်နှင့် မစင်ကြယ်မှု စွဲလန်းချက်တို့သည် ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျင်နှင့် ထိတွေ့လိုက်ကြသည်နှင့် တပြိုင်နက် မိမိတို့ သက်ဆိုင်ရာ ထုထည်ကို ဖြစ်ပေါ် စေကြ၏။ သို့ရာတွင် စွဲလန်းချက်တို့မှ ဖြစ်ပေါ်သော တုန့်ပြန်မှုတို့ကမူ မှန်ကန်သော အစဉ်အတိုင်း တဖြည်းဖြည်းသာ ဖြစ်ပေါ်ကြ၏။ ကျွန်ုပ်တို့ နာမ်ဓာတ်၏ စွဲလန်းချက်တို့သည် အသက်ရှင်မှု အလျင်၏ အင်အားများအတွင်းသို့ ဝင်ရောက်လာ၍ အသက်ရှင်မှုအလျင်က မြေဩဇာကောင်းသော ပျိုးကွက်အဖြစ်နှင့် ဆီး၍ခံယူ၏။ စွဲလန်းမှုတို့သည် အသက်ရှင်မှုအလျင်အတွင်းသို့ ရောက်လာကြသည်နှင့်တပြိုင်နက် အညှောင့် ပေါက်၍ အချိန်တန်သောအခါ တောအုပ်ကြီးအတွင်း၌ သစ်ပင်များ ပေါက်သည့်နည်းတူ အင်အားကောင်းစွာဖြင့် အပင်များဖြစ်လာ၏။ ထိုအပင်များအနက် မသန်သော အပင်များသည် သစ်ပင်ကြီးများ အောက်တွင် ပေါက်၍နေသော သစ်ပင်ငယ်များကဲ့သို့ လှို၍ နေကြပြီးလျှင် အသက်ရှင်မှု အလျင်အတွင်း၌ အခြားအပင်များကို လွှမ်းမိုးသွားနိုင်ရန် အစဉ်မပြတ် အားကုန်ထုတ်ကြ နေကြ၏။

နာမ်ဓာတ်အတွင်း၌ ရှိနေပြီးဖြစ်သော စွဲလန်းချက် အပင်တို့သည် အင်မတန်အားကောင်း နေကြသောအခါ စွဲလန်းချက် အပင်တို့သည် မိမိတို့အင်အားကို အများအပြားသုံးစွဲခွင့် မရကြ။ သို့ရာတွင် ဤကဲ့သို့ လျှို၍ နေရစဉ်အခိုက်၌ ထိုစွဲလန်းချက်တို့သည် မိမိတို့၏ ပါရင်းအင်အားကို တိုးတက် အောင်လုပ် နေကြ၏။ အချိန်ကြာ၍ အထက်က လွှမ်းမိုး၍နေသော အပင်တို့သည် အရွယ်ရောက်၍ အသီးသီးပြီး နောက် ကွယ်ပျောက်သွားကြသောအခါတွင် အောက်ခြေ၌ အင်အားစုဆောင်း၍ နေကြသော စွဲလန်းချက်အပင်တို့သည် မိမိတို့အင်အားကို ကျယ်ပြန့် အောင်လုပ်နိုင်ရန် နေရာရကြသဖြင့် အခွင့်အခါရတိုင်း ကျယ်ပြန့် အောင်လုပ်ကြ၏။ ဤကဲ့သို့ဖြစ်နေခိုက်တွင် အသက်ရှင်မှုအလျင်အတွင်းသို့ မျိုးစေ့အသစ်များ နောက်ထပ် ရောက်လာကြပြီးလျှင် အချင်းချင်း အပြိုင်အဆိုင် အင်အားဖြန့်ကြ၏။

စွဲလန်းချက် မျိုးစေ့များ ဝင်လာသည့်အချိန်မှာ အလွန်လျှင် တိုတောင်း လှ၏။ သို့ရာတွင် သူတို့ကြီးပွားပွင့်သီးကြသောအချိန်မှာ အလွန်ရှည်ကြာ၏။ ပို၍ အင်အားကောင်းသော စွဲလန်းချက်တို့သည် ပို၍လျှင်မြန်စွာနှင့် ပို၍ထုထည် ကောင်းစွာ ကြီးပွားကြ၏။ အကယ်၍ ပို၍ရင့်မာ၍ ပို၍အင်အားကြီးသော စွဲလန်းမှု

အပင်များ၌ နေနှင့်ခြင်းစသော အကြောင်းမျိုးကြောင့် အဆိုပါ မျိုးစေ့တို့သည် အသက်ရှင်မှုအလျှင်အတွင်း၌ အသီးသီးရန် နှောင့်နှေး၍ နေကြရသည့်ဖြစ်မှု ထိုမျိုးစေ့တို့သည် ကုန်လွန်သွားသည့်အချိန်များကို ထေမိရန်အတွက် ကြောက်ခမန်း လန့်ခမန်း ပို၍ လျှင်မြန်စွာ ကြီးပွားကြ၏။ ဤအကြောင်းများကြောင့် ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အတွင်း၌ ဖွဲလန်းချက်အပင်တို့သည် အခါခပ်သိမ်း ထူပြောလျက် ရှိ၏။ ထို့ကြောင့် ဖွဲလန်းချက်အပင်အပေါက်အရောက် နည်းပါးသည်ဟုမည်သည့်အခါတွင်မျှ မတွေ့နိုင်။

မည်သည့်အခါ၌မဆို ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အတွင်း၌ အငယ်၊ အလတ်၊ အကြီး စသော ဖွဲလန်းမှုအပင်တို့သည် အလွန်လျှင် များပြားလှ၏။ ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ လွန်ခဲ့သော အနှစ်ကုဋေကုဋေါ ရောက်လာပြီးနောက် အပင်မပေါက်ဘဲ နေကြသေးသော ဝင်ကြွယ်မှုမျိုးစေ့နှင့် မဝင်ကြွယ်မှုမျိုးစေ့များလည်း ရှိကြသေး၏။ ထိုနည်းအတူပင် ကျွန်ုပ်တို့ အသက်ရှင်နေကြစဉ် အတွင်း၌ ဝင်လာကြသည့် ဝင်ကြွယ်မှုမျိုးစေ့နှင့် မဝင်ကြွယ်မှုမျိုးစေ့တို့သည်လည်း နောင်နှစ်ပေါင်းများစွာကြာသည့်တိုင်အောင် မပွင့်မသီးဘဲနှင့် နေကြလိမ့်မည်ဖြစ်၏။ အထူးသဖြင့် ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ ဝင်လာကြသော အားပျော့သော မျိုးစေ့တို့သည် နောက်မှ ရောက်လာသော အားကောင်းသော မျိုးစေ့တို့မှ ပေါက်ကြသော အပင်များကို လွှမ်းမိုး၍သွားနိုင်ရန်အတွက် အချိန်ကာလရှည်လျားစွာ စောင့်၍နေရမည်ဖြစ်၏။

## ရာဇသတ်ဥပဒေနှင့် အပြစ်ဒါဏ်

ရင့်မာမှုအစဉ်နှင့် ဖွဲလန်းမှုတို့၏ အင်အား အပြင်းအပျော့ အစဉ်သည် အတူတူဖြစ်ကြောင်းကို ဖော်ပြခဲ့ပြီ။ ဥဒါဟရုဏ်ဆိုသော် အကယ်၍ လူတယောက်သည် ကြီးမားသော ရာဇဝတ်မှုမျိုးကဲ့သို့သော မကောင်းမှုကြီးတခုကို ကြူးလွန်ခဲ့မည်ဆိုလျှင် ဖွဲလန်းချက်မျိုးစေ့သည် ထိုလူ၏ နာမ်ဓါတ်အသက်ရှင်မှုအလျှင်အတွင်းသို့ ရောက်၍ မကြာမီပင် ရုံးတင်တရားစွဲခံရခြင်း၊ ရုံးက အပြစ်ဒါဏ်စီရင်လိုက်ခြင်း အဖြစ်ဟူသော အသီးကို သီးကြလိမ့်မည်ဖြစ်၏။ အကယ်၍ ထိုသို့မဟုတ်ဘဲ ထိုသူသည် အတိတ်က ဝင်ကြွယ်မှုသို့မဟုတ် ကောင်းမှုဖွဲလမ်းချက်များ၏ အသီးကိုစားသုံးနေရုံနိုက်ဖြစ်၍

ထိုစင်ကြယ်မှုစွဲလန်းချက်တို့၏ အင်အားကလည်း ကောင်းသဖြင့် ထိုလူ၏ မစင်ကြယ်မှုမျိုးစေ့များကို အသက်ရှင်မှုအလျင်၏ အောက်ဖယ်၌ နစ်မြုပ်နေစေနိုင်မည်ဆိုလျှင် ထိုလူသည် မိမိ၌ အကျိုးပြုနိုင်မည့် ဆင်ဇွေ့ရန် ရှောင် ပရိယာယ်ကို အသုံးပြုခြင်းအားဖြင့် ရိုးကအပြစ်ဒဏ် ပေးခြင်းကို အောင်မြင်စွာ ရှောင်တိမ်းနိုင်လိမ့်မည်။

ရာဇဝတ်မှုကြူးလွန်သဖြင့် လျှင်မြန်စွာ အပြစ်ဒဏ် ပေးခြင်းခံရသူသည် ကံကောင်း၏။ အဘယ့်ကြောင့်ဆိုသော် မိမိကြူးလွန်သည့်အပြစ်အတွက် မိမိနာမ်ဓါတ်၏ အသက်ရှင်မှုအလျင်အတွင်းသို့ မိမိပို့လိုက်သော မစင်ကြယ်မှုမျိုးစေ့တို့က လျှင်မြန်စွာ ပေါက်လာသော အပင်တို့ကို ရာဇဝတ်မှုကြူးလွန်ပြီးနောက်တွင် လျှင်မြန်စွာခံစားရသော အပြစ်ဒါဏ်၏ ဆင်းရဲမှုတို့က ဖယ်ရှား၍ပယ်လိုက်သောကြောင့်ဖြစ်၏။ သို့ရာတွင် ရာဇဝတ်မှုကြူးလွန်ပြီးနောက် အပြစ်ဒဏ်မခံရသူသည်ကား ကံဆိုး၏။ အဘယ်ကြောင့်ဆိုသော် ထိုသူသည် မိမိ၏ အသက်ရှင်မှုအလျင်အတွင်း၌ မစင်ကြယ်မှုမျိုးစေ့တို့ကို အရှည်အကြာ ဖုံးကွယ်ထားခြင်းဖြင့် မိမိခံစားရမည့် မသာယာမှုများကို ကြာခမန်း လန့်ခမန်း တိုးပွားလာစေသောကြောင့် ဖြစ်၏။ ထို့ပြင် ကြီးမားသော မစင်ကြယ်မှုတို့သည် နောက်ဆုံးတွင် အသီးကို ဆောင်ရမြဲဖြစ်သည့်အတိုင်း ထိုသူ၏ မစင်ကြယ်မှုမျိုးစေ့တို့သည် နောက်ဘဝ၌ အသီးကို ဆောင်ကြသောအခါ ထိုသူခံစားရမည့် ဆင်းရဲမှုမှာ မျက်မှောက်ဘဝတွင် ခံစားရမည့် ဆင်းရဲမှုထက် အဆပေါင်းများစွာ တိုး၍လာမည်ဖြစ်၏။

ကောင်းမှုကို ပြုလုပ်၍ ကောင်းကျိုးခံစားရသူတို့လည်း အထက်ပါသဘောတရားအတိုင်းပင် ဖြစ်၏။ ကောင်းမှုကို ပြုလုပ်၍ ချက်ချင်းဆုရသောသဘောဖြင့် ကောင်းကျိုးကိုခံစားရသူသည် မိမိ၏ ကောင်းမှုများအတွက် ကောင်းကျိုးစ၍ ခံစားရခြင်းဖြစ်၏။ သို့ရာတွင် အကယ်၍ မိမိ၏ အသက်ရှင်မှုအလျင်အတွင်း၌ ဆန့်ကျင်ဘက် အင်အားများကြီးမားစွာရှိနေခြင်းကြောင့် မိမိ၏ ကောင်းကျိုးကို ချက်ချင်း မခံစားရခဲ့သည်ရှိသော် နောက်ဆုံးတွင် ထိုလူခံစားရမည့် ကောင်းကျိုးတို့မှာ နောင်ဘဝများကျမှပင် ခံစားရသည်ဖြစ်စေ မိမိ၏ ကောင်းကျိုးခံစားမှုကို ရွှေ့ဆိုင်းထားရသည်နှင့် ကာမိလောက်အောင် တိုးပွား၍လာမည်ဖြစ်၏။ ဤကဲ့သို့ဖြစ်ရခြင်းမှာ ထိုလူ၏ စင်ကြယ်မှုမျိုးစေ့တို့သည် အသက်ရှင်မှုအလျင်အတွင်း၌ စောင့်ဆိုင်းနေကြရင်းနှင့် အင်အားတိုးပွားလျက် နေကြခြင်းကြောင့်ဖြစ်၏။ ထိုမျိုးစေ့တို့သည် ပွင့်သီးရန် အစာကို ရကြသည်နှင့်တပြိုင်နက် ပို၍ ကြီးမားသော အင်အားတို့ဖြင့် ပွင့်သီးကြ၏။

## နွားမိဝါတ်၏ အင်အားဘို့သည် ချက်ချင်းပြန်၍ ပြည့်ကြခြင်း

စင်ကြယ်မှုနှင့် မစင်ကြယ်မှု ဗွဲလန်းချက်နှစ်ခုလုံးဘို့သည် ပွင့်သီးနိုင်ရန် အမြဲတန်း ဘိုးပွား၍ နေကြ၏။ ၎င်းတို့အနက် အင်အားအကြီးဆုံးဖြစ်သော ဗွဲလန်းချက်ဘို့သည် အမြဲတန်း အရေးသာကြ၏။ ထို့ကြောင့် ဘွန်ုပ်တို့ အသက်ရှင်မှု အလျှင်အဘွင်းသို့ ရောက်လာကြသည့် အားပြောသော ဗွဲလန်းချက်တို့သည် ရင့်မာဘို့ အခွင့်ကို အင်မတန်ရခဲ၏။ နွားမိဝါတ်အဘွင်း၌ နှစ်ပေါင်းကုဋေကုဋာ ကြာသည့်ဘိုင် အောင်ပင် မလျှပ်မရှက်နိုင်သောအခြေဖြင့် တိမ်မြုပ်၍ နေကြရ၏။ သို့ရာဘွင် အဆိုပါ ဗွဲလန်းချက်အားလုံးသည် နှစ်ပေါင်း ကုဋေကုဋာ ကြာပြီးသည့် နောက်အဖို့၌ပင် အချိန်(ဘာလ)၏ ကူညီမှုဖြင့် အင်အားလုံလောက်စွာ ပြည့်ဘင်းလာပြီးလျှင် ကြီးမားသော အင်အားဘို့ဖြင့် ရင့်မာပွင့်သီးကြ၏။

နွားမိဝါတ်၏ အသက်ရှင်မှုအလျှင်အဘွင်း၌ ရှိနေသော ဗွဲလန်းမှု အင်အားဘို့သည် ကြီးမားလှသဖြင့် မည်သည့် အသက်ရှင်နေခိုက်အချိန်အဘွက်မဆို ဘုန့်ပြန်မှုအင်အား၊ မလုံမလောက် ဖြစ်၍ နေသည်ဟု မရှိ။ ထိုကဲ့သို့ ဖြစ်နေခြင်းမှာ အကြောင်းနှစ်ကြောင်း ကြောင့်ဖြစ်၏။ ဘကြောင်းမှာ အသက်ရှင်မှု အလျှင်အဘွင်း၌ ပွင့်သီးအံ့ဆဲဆဲ ဖြစ်သော ရင့်မာသော ဗွဲလန်းချက်များသည် အမြဲရှိနေခြင်းဖြစ်၏။ အခြားအကြောင်းမှာ အင်အားဘစုသည် မိမိ၏ အင်အားကို ကုန်ခမ်းစေလိုက်သည့်အခါဘွင် အခြားအင်အားများက ဘိုးပွားလာကြခြင်း ဖြစ်၏။ ဤနည်းဖြင့် ဗွဲလန်းချက်တို့၏ ဘည်ရာဖြစ်သော အသက်ရှင်မှုအလျှင်အဘွင်း၌ ဟင်းလင်းဖြစ်၍ နေခြင်းဟူ၍မရှိနိုင်တော့။ အသက်ရှင်မှုအလျှင်သည် မြေညီ၏ ထက်သန်လှသဖြင့် မည်သည့်အခါ၌မဆို ဗွဲလန်းချက် အထုအထည်တို့သည် လုံလောက်စွာရှိကြ၏။ ထို့ပြင် အသက်ရှင်မှုအလျှင်အဘွင်း၌ ဗွဲလန်းချက်အထုအထည်ဘို့မှာ ဘူပြောလှသဖြင့် အသက်ရှင်မှုအလျှင်အင်အားတို့၏ အစဉ်သည် အမြဲဘန်း ချောမောပြေပြစ်စွာရှိ၏။

## အဆင့်အတန်းမြင့်သော သတ္တဝါများနှင့်မကောင်းမှု

နွားမိဝါတ်သည် မကောင်းသော ကြံစီမှုများဘက်ကို အမြဲဆွဲငင်ဘတ်သော သဘောရှိ၏။ ထို့ကြောင့် မကောင်းမှုကိုလုပ်လိုခြင်းမှာ ဘွန်ုပ်တို့၏ ဓမ္မဘာသဘော ဖြစ်၏။ မိမိဘို့၏ ဘုံအဆင့်အတန်းမြင့်လေလေ ဤမကောင်းလုပ်ချင်သော အင်အား

သည့် ကြီးမား လေ လေဖြစ်၏။ ဤနည်းဖြင့် လူသားတို့နှင့် အခြားအဆင့်အတန်းမြင့်သော သတ္တဝါတို့သည် ကောင်းမှုထက် မကောင်းမှုကို ပို၍လုပ်လိုသောဆန္ဒရှိတတ်ကြ၏။ ဘုန်ဝိတ်တို့သည် ဘုန်ဝိတ်တို့၏ သိမှု သို့မဟုတ် ဆင်ခြင်မှု၏ စေ့ဆော်ချက်ဖြင့်သာလျှင် ကောင်းမှုတို့ကို ပြုကြ၏။ သို့ရာတွင် သိမှုနှင့်မပြည့်စုံသော သတ္တဝါတို့သည် ပင်ကိုယ်ဆန္ဒအတိုင်း မကောင်းမှုတို့ကို ဆက်၍ လုပ်နေကြ၏။ သူတို့၏ စိတ်ထဲတွင် ကောင်းမှုနှင့် မကောင်းမှုတို့မှာ အတူတူပင်ဖြစ်၏။ သို့ရာတွင် နာဝိဝါတ် ဖွံ့ဖြိုးခြင်း မရှိသော သတ္တဝါတို့သည် မကောင်းမှုကို ပို၍နှစ်သက်ကြ၏။ လူတို့အဖို့တွင် မကောင်းမှုသည် ပို၍ကြောက်မက်ဖွယ် ကောင်း၏။ အဘယ့်ကြောင့်ဆိုသော် မည်မျှလောက်ပင် နားလည်မှု မရှိသူပင်ဖြစ်စေ သော်လည်း ထိုသူ၏ အတွင်းသိမှုက ကောင်းမှုနှင့် မကောင်းမှုကို ခွဲခြားတတ်သော ကြောင့်ဖြစ်၏။ ဤအချက်တွင် ဘိရစ္ဆာန်နှင့် အခြား အောက်တန်းကျသော သတ္တဝါတို့က လူသားတို့ထက် သာ၏။ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် ယေဘုယျအားဖြင့် ကောင်းမှုနှင့် မကောင်းမှုကို ခွဲခြား၍ သိနိုင်စွမ်းမရှိကြသော ကြောင့် ဖြစ်၏။

ဘိရစ္ဆာန်တို့ ပြုလုပ်သော မကောင်းမှုမှ ဖြစ်ပေါ်လာသော မစင်ကြယ်မှုဖွဲ့လန်းချက်တို့သည် ထိုဘိရစ္ဆာန်တို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ လူတို့ပြုလုပ်သော မကောင်းမှုမှဖြစ်ပေါ်သော မပင်ကြယ်မှုဖွဲ့လန်းချက်တို့သည် ထိုလူတို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ ကြောက်မက်ဖွယ်ကောင်းစွာ ဝင်လာကြသကဲ့သို့ ကြောက်မက်ဖွယ်ကောင်းစွာ ဝင်မလာကြ။ အကြောင်းမူကား ဘိရစ္ဆာန်တို့သည် မကောင်းမှုများကို ပြုလုပ်ကြရာတွင် သိမှု သို့မဟုတ် သတိရှိမှုကို များစွာအသုံးမပြုသော ကြောင့်ဖြစ်၏။ သို့ရာတွင် လူတို့သည်မူကား မကောင်းမှုကို ပြုလုပ်သောအခါတွင် သိမှုကို အသုံးပြုလျက်သာလျှင်ပြုလုပ်ကြ၏။ ဘိရစ္ဆာန်အချင်းချင်းပင် တဦး၏ သိမှုနှင့် တဦး၏ သိမှု အပြင်းအပြောသည် မတူကြ။ နိမ့်ကျသတ္တဝါတို့၏ သိမှုသည် ဖွံ့ဖြိုးခြင်းမရှိသော သတ္တဝါတို့ထက် ပို၍ ကြောက်မက်ဖွယ် ကောင်း၏။ ဤအချက်သည် လူသားတို့၏ ဂုဏ်အင်္ဂါရပ်ဖြစ်သည်ကို နောင်တွင် တွေ့ရလတ္တံ့။

## ကြံစည်မှု၏မကောင်းသော ဖွဲ့လန်းချက်များ၏ အင်အား အပြင်းအပြော

သိမှုအဆင့်အတန်း အမြင့်ဆုံးဖြစ်သော သူတို့ကို အဦးထား၍ မကောင်းသောကြံစည်မှု အင်အားတို့၏ အပြင်းအပြော ပုံစံများကို ဖော်ပြပေအံ့။ နာဝိဝါတ်အဖွံ့ဖြိုးဆုံးဖြစ်သော သူတို့၏ မကောင်းသော ကြံစည်မှုတို့၏ ဖွဲ့လန်းချက်တို့၏ အင်

အားသည် အလွန်လျှင်ကြီးမား၏။ ပညာအတတ်ဆုံး သို့မဟုတ် ယဉ်ကျေးမှုအရှိဆုံးဆိုသော သူတို့သည် ဤအတန်းအစားတွင် ပါဝင်သည်ဟု ယူဆကြအံ့။ ယဉ်ကျေးမှုနည်းပါးသော သူတို့တွင် ဖြစ်ပေါ်သော မကောင်းမှုကို ကြံစည်ခြင်းတို့သည် အသက်ရှင်မှုအလျှင်အတွင်းသို့ အင်အားဖြေ့သော မကောင်းမှုစွဲလန်းချက်များကိုသာ ဝို့နိုင်၏။ ယဉ်ကျေးမှု အနည်းပါးဆုံးဖြစ်သော သူတို့တွင် ဖြစ်ပေါ်သော မကောင်းမှုကို ကြံစည်ခြင်းတို့သည် အင်အားအဖြေ့ဆုံးဖြစ်သော မကောင်းကြံစီမှု စွဲလန်းချက်တို့ကိုသာ ဝို့နိုင်၏။ ဤကဲ့သို့ လူတို့တွင် သိမှုချွတ်ယွင်းသလောက် မကောင်းကြံစီမှု စွဲလန်းချက်အင်အား လျော့ပေါ့သွားသည့်နည်းအတိုင်းပင် ဘိရိစ္ဆာန်နှင့် အခြားအဆင့်အဘန်းနိမ့်သော သတ္တဝါတို့တွင်လည်း မကောင်းကြံစီမှု စွဲလန်းချက်အင်အားသည် သိမှုချွတ်ယွင်းသလောက် လျော့ပေါ့သွား၏။

အကြီးဆုံးဖွံ့ဖြိုးမှုရှိသော ဘိရစ္ဆာန်တို့၏ မကောင်းကြံစီမှု စွဲလန်းချက်တို့သည် ထိုတိရစ္ဆာန်တို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ ထိုက်လျှောက်စွာ ပြင်းထန်သော မကောင်းမှု စွဲလန်းချက်တို့ကို ဝို့၏။ ဖွံ့ဖြိုးမှုဟာဝက်မျှသာရှိသော တိရစ္ဆာန်တို့၏ မကောင်းကြံစီမှုစွဲလန်းချက်တို့သည် ပြင်းထန်မှု နည်းပါးသော မကောင်းမှုစွဲလန်းချက်တို့ကိုသာ ဖြစ်ပေါ်စေနိုင်၏။ အနည်းဆုံးဖွံ့ဖြိုးမှုရှိသော ဘိရစ္ဆာန်တို့၏ မကောင်းကြံစီမှုစွဲလန်းချက်တို့သည် အင်အားဖြေ့ညံ့သော မကောင်းမှုစွဲလန်းချက်တို့ကိုသာ ဖြစ်ပေါ်စေနိုင်၏။ ထို့ကြောင့် မကောင်းမှုစွဲလန်းချက်တို့၏ လျော့ပေါ့သွားမှုအခြင်ကို ထောက်ထား၍ အခြားမြွေတကောင်ကို ဝါးမြိုသော မြွေ၏ ရက်စက်ခြင်းသည် အခြားလူတယောက်ကို သတ်သော လူတယောက် လောက် ကြောက်စရာ မကောင်းဟု ခိုင်မာစွာဆိုနိုင်၏။ ယဉ်ကျေးမှုရှိသော လူတယောက်က မိမိထက် အခြေအနေနိမ့်ကျသော အခြားလူတယောက်အပေါ်တွင် ကြူးလွန်သော မကောင်းမှုအငယ်ကလေးများသည် သိမှုမရှိသော သို့မဟုတ် ယဉ်ကျေးမှုမရှိသော လူတယောက်ကြူးလွန်သော ရာဇဝတ်မှုအကြီးစားတခုလောက်ပင် မနှစ်သက်ဘွယ် ဖြစ်၏။

<u>အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ မစင်ကြယ်မှုအဆောက်အအုံသည် သေးခြင်း</u>

မစင်ကြယ်မှု အင်အားလျော့ပေါ့မှုသည် နိမ့်နိုင်သမျှ နိမ့်သော အခြေသို့ ရောက်အောင် လျော့ပေါ့တတ်သော သဘောရှိ၏။ သို့ရာတွင် အနိမ့်ဆုံးအခြေသို့မူကား မည်သည့်အခါတွင်မျှ မရောက်။ သတ္တဝါတို့၏ အဆင့်အဘန်းသည်

နိမ့်ကျ၍ သွားဘိုင်းသွားတိုင်း မစင်ကြယ်မှု အင်အားသည်လည်း နိမ့်ကျ၍ နိမ့်ကျ၍ သွား၏။ အဘယ့်ကြောင့်ဆိုသော် သတ္တဝါတခုသည် အဆင့်အတန်း နိမ့်ကျသွားသောအခါ ထိုသတ္တဝါ၏ သိမှုသည်လည်း အဆင့်အတန်း နိမ့်နိမ့်ကျ၍သွားသောကြောင့် ဖြစ်၏။ ဤနည်းဖြင့် ထိုသတ္တဝါ၏ ကြံစီမှုကို ဖြစ်စေနိုင်သော အင်အားသည်လည်း လျော့ပေါ့၍သွား၏။ အဆင့်အတန်း အနိမ့်ဆုံးဖြစ်သော သတ္တဝါတို့သည် ပြောပလောက်သော ကြံစီမှု မရှိဘဲဖြင့်သာလျှင် ခဝိသိမ်းသော အမှုတို့ကို ပြုကြ၏။ ဤနည်းဖြင့် ထိုသတ္တဝါတို့သည် မိမိတို့၏ အသက်ရှင်မှု အလျင်အဘွင်း၌ မစင်ကြယ်မှုစွဲလန်းချက်များကို မဖြစ်ပေါ်စေကြ။ အကယ်၍ ထိုသတ္တဝါတို့သည် မိမိတို့၏ အားပြော့သော ကြံစီမှု တိုင်းတို့ဖြင့် မိမိတို့၏ အသက်ရှင်မှု အလျင်အဘွင်း၌ မစင်ကြယ်မှုစွဲလန်းချက်များကို ဖြစ်ပေါ်ကြစေသည်ဘိုင်အောင်ပင် မိမိတို့၏ အသက်ရှင်မှု အလျင်အဘွင်း၌ အလွန်လျှင်ပြော့တော့တော့စွဲလန်းချက်များကိုသာလျှင် ဖြစ်ပေါ်စေကြမည်ဖြစ်ပြီးလျှင် ကြီးမားသော မစင်ကြယ်မှုစွဲလန်းချက်တို့ကို ဖြစ်ပေါ်စေကြမည်မဟုတ်။( အဆင့်အတန်းအနိမ့်ကျဆုံးသော သတ္တဝါများသည်ပင်လျှင် ဃဘုယျအားဖြင့် မိမိတို့ပြုလုပ်သော အမှုများအတွက် အင်အားပြော့သော ကြံစီမှုများကို အသုံးပြုကြ၏။ )

အဆင့်အတန်းနိမ့်သော သတ္တဝါတို့ နာမ်ဓါတ်၏ အသက်ရှင်မှု အလျင်အဘွင်း၌ ကြီးမားသော မစင်ကြယ်မှု အထုအထည်ဘို့သည် အခြေအမြဲ မြဲတွင် အင်အားကောင်းစွာနှင့် ရှိနေကြ၏။ အားပြော့သော မစင်ကြယ်မှု အသစ်တို့ ဝင်လာသောအခါ ထိုမစင်ကြယ်မှုဘို့သည် ငုတ်လျှိုးကာ အပွင့်အသီး မဆောင်ဘဲ နေကြ၏။ အကြောင်းခဝိသိမ်းကို ခြုံ၍ပြောမည်ဆိုလျှင် အဆင့်အတန်းနိမ့်သော သတ္တဝါဘို့တွင် မစင်ကြယ်မှု အထုအထည် နည်းပါးစွာသာ ရှိသည်ဟု ဆိုနိုင်၏။ အဆင့်အတန်းအနိမ့်ဆုံးဖြစ်သော သတ္တဝါတို့တွင် မစင်ကြယ်မှု အထုအထည် မရှိသလောက်ပင် နည်းပါး၏။ အသက်ရှင်မှုအလျင်သည် မည်သည့်အခါတွင်မျှ မစင်ကြယ်မှု စွဲလန်းချက်များနှင့်ချည်းပြည့်လျှံ၍မနေနိုင်သဖြင့် အဆင့်အတန်း အနိမ့်ဆုံး သတ္တဝါတို့သည် စကြာဝဠာတွင်း၌ အနိမ့်ဆုံး ဘုံသို့ထိ အောင် ကျဆင်းသွားခြင်း မရှိ။

<u>အထက်ဘုံသို့ တက်ခြင်းနှင့် အောက်ဘုံသို့ သက်ခြင်း</u>

မစင်ကြယ်မှု အထုအထည်ဘို့သည် သတ္တဝါအသီးသီးတို့၏ ဘုံအဆင့်အတန်းကို နိမ့်ကျစေနိုင်သော်လည်း မည်သည့်သတ္တဝါအားမျှ အကြွင်းမဲ့ ပျက်စီးသွားခြင်းကို မဖြစ်စေနိုင်။ အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ စင်ကြယ်မှုအင်အားသည်

အလွန်ပင်နည်းပါး၏။ ထို့ရာတွင် ထိုမျှနည်းပါးသော အင်အားကပင် အသက်ရှင်မှု အလျင်အတွင်းသို့ မစင်ကြယ်မှု အင်အားများ အကြွင်းမဲ့ ဝင်၍ မလာနိုင်အောင် ကာကွယ်ပေး၏။ ဤနည်းဖြင့် နာမ်ဓါတ်အသီးသီးသည် အကြွင်းမဲ့ ပျောက်ကွယ်သွားခြင်း ဘေးမှ လွတ်ကြ၏။ ပြီးလျှင် နာမ်ဓါတ်အသီးသီးတို့သည် အဆင့်အတန်းနိမ့်သော ဘဝများ၌ အရှည်အကြာ အဆင်းရဲခံကြရပြီးသည့် နောက်အဖို့တွင် မစင်ကြယ်မှု အထုအထည်များမှ လွတ်မြောက်ခွင့်ရကြ၍ စင်ကြယ်မှု၏ အကျိုးကို ခံစားကြရ၏။ အဘယ့်ကြောင့်ဆိုသော် စင်ကြယ်မှုအင်အားတို့သည် တိုးပွားလာကြပြီးနောက် နာမ်ဓါတ်အသီးသီး တို့အား အဆင့်အတန်းမြင့်သော ဘဝသို့ ပို့ကြလိမ့်မည်ဖြစ်သော ကြောင့်ဖြစ်၏။

အချိန်ကာလ ကုန်လွန်သောအခါတွင် အနိမ့်ကျဆုံးဘဝသို့ ရောက်၍နေကြသော နာမ်ဓါတ်တို့သည်ပင်လျှင် စင်ကြယ်မှုအင်အား အသစ်များကို ပြန်၍ရကြ၏၊ အဆင့်အတန်းနိမ့်သော သတ္တဝါတို့သည် ယေဘုယျအားဖြင့် အဆိုပါ စင်ကြယ်မှုအင်အားများကို တွယ်ဖက်နေကြပြီးလျှင် အဆင့်အတန်းမြင့်သော ဘဝများ အမျိုးမျိုးသို့ ရောက်၍သွားကြ၏။ အချို့သည် အမြင့်ဆုံးဘဝအထိ ရောက်ကြပြီးလျှင် များစွာတို့သည် လမ်းတဝက်တွင် ပြန်၍ကျသွားကြ၏။ ကျွန်ုပ်တို့ တွေ့ကြုံနေကြသော များစွာကုန်သော သတ္တဝါများအနက် အချို့မှာ အမြင့်ဆုံးဘဝသို့ တက်နေကြသော သတ္တဝါများဖြစ်ပြီးလျှင် အချို့မှာ အမြင့်ဆုံးဘဝသို့ မရောက်နိုင်၍၄င်း၊ လမ်းပျောက်သွား၍၄င်း၊ နိမ့်ရာဘဝသို့ ပြန်ကျနေကြသော သတ္တဝါတို့သည် အနိမ့်ဆုံးဘဝသို့ ထိအောင် ကျကြပြီး နော နောင် အချိန်ကာလရှည်ကြာသောအခါတွင် မြင့်သောဘဝသို့ ပြန်၍တက်ကြလိမ့်မည် ဖြစ်၏။ မြင့်ရာဘဝသို့ တက်၍ နေကြသော သတ္တဝါတို့သည် အမြင့်ဆုံးဘဝသို့ ဆိုက်ရောက်ကြပြီးလျှင် ထိုဘဝ၌ပင် အမြဲတည်နေကြလိမ့်မည်ဖြစ်၏။ အမြင့်ဆုံးဘဝသည် ဘေးကင်း၍ ခိုင်မာ၏။ အမြင့်ဆုံးဘဝသို့ရောက်သောအခါ နိမ့်ရာဘဝသို့ လျှောကျခြင်း အလျင်းမရှိတော့။ နိမ့်ရာဘဝသို့ လျှောကျသော သတ္တဝါတို့သည် မည်သည့်အစဉ်ဖြင့် လျှောကျရမည်ဟူ၍၄င်း၊ မြင့်ရာဘဝသို့ တက်သောသတ္တဝါတို့သည် မည်သည့် အစဉ်ဖြင့် တက်ရမည်ဟူ၍၄င်း သတ်မှတ်ထားခြင်းမရှိ။ နိမ့်ရာဘဝသို့ လျှောကြနေသော သတ္တဝါတို့သည် အနိမ့်ဆုံးဘဝသို့ မရောက်မှီတွင် အင်အားပြည့်တင်းလာပြီးလျှင် မြင့်ရာဘဝသို့ ပြန်တက်နိုင်၏။ ဤနည်းအတိုင်းပင် မြင့်ရာဘဝသို့ တက်သော သတ္တဝါတို့သည်လည်း အားထုတ်မှုကို စွန့်လွှတ်ခြင်းကြောင့် နိမ့်ရာဘဝသို့ ပြန်၍ လျှောကျ

နိုင်၏။ အားထုတ်မှုနှင့် ပွမ်းရည်ရှိသော ဘဝဖြစ်မှုအစဉ်ကို နားလည်သော သတ္တဝါတို့သည် အစဉ်မပြတ် အခြေခိုင်မာ နေပြီးလျှင် အမြင့်ဆုံးဘဝသို့ ရောက်သည် တိုင်အောင် မြင့်သော ဘဝမှ လျှောမကျစေရန် အားထုတ်ကာ နေကြ၏။ သို့ရာတွင် တဏှာမက်မှု၊ မုန်းတီးမှုတို့ဖြင့် မူးယစ်နေကြသော သိမှုမရှိသော သတ္တဝါတို့သည် မိမိတို့ဘဝ၏ ရှေ့ရှုရာအရပ်ကို မသိကြသဖြင့် စကြာဝဠာ၏ ယေဘုယျ အင်အားများကို ခံယူကြပြီးလျှင် နိမ့်ကျသော ဘဝတွင်နေကြ၏။ ( နောက်အခန်းတွင် စကြာဝဠာ၏ ယေဘုယျအင်အားများ အကြောင်းကို အကျယ်တဝင့် ဖော်ပြအံ့။ )

## လူသားတို့ ရောက်နေသော ဘဝစခန်း

စကြာဝဠာအတွင်း၌ မရေမတွက်နိုင်လောက်အောင် များပြားသော သတ္တဝါတို့အနက် လူသားတို့သည် အဆင့်အတန်းအမြင့်ဆုံးဖြစ်သော ဘဝသို့ သွ●းရာလမ်း ဘက်တွင် အမြင့်ဆုံး ရောက်နေကြသော သတ္တဝါအမျိုးအစား အနည်းငယ်တို့အနက် တမျိုးအပါအဝင်ဖြစ်၏။ ကျွန်ုပ်တို့ လူသားတို့သည် အဆင့်အတန်းအမြင့်ဆုံးဘဝနှင့် နီး၍ နေကြပြီ။ နောက်တဆင့် တက်လိုက်လျှင် ရောက်ကြတော့မည်။ အကယ်၍ ကျွန်ုပ်တို့သည် ယခုဘဝတွင် အမြင့်ဆုံးဘဝသို့ မရောက်နိုင်ကြသေးသည့်တိုင်အောင်ပင် အမြင့်ဆုံးဘဝသို့ရောက်မည့် သာယာသောလမ်းပေါ်သို့ ဦးတိုက် ရောက်နိုင်ကြပြီ။ အဆိုပါလမ်းအတိုင်း ဆက်၍ သွားကြပါမူ ဘဝ၏ အထွဋ်သို့ မကြာမီ ရောက်ကြပြီးနောက် လူဘဝဟု ဆိုအပ်သော ကျွန်ုပ်တို့ ရောက်နေကြပြီးဖြစ်သည့် မြင့်●သော ဘဝမှ အောက်သို့ လျှောကျမည့်ဘေးကို ရှောင်နိုင်ကြလိမ့်မည်။

ထို့ကြောင့် ယခု ကျွန်ုပ်တို့ အရေးတကြီး ဆောင်ရွက်ရန်တာဝန်မှာ ကျွန်ုပ်တို့၏ ယခုလက်ရှိဘဝမှ မည်သည့်နည်းနှင့်မျှ လျှောကျမသွားစေရန် ဖြစ်၏။ ဤသို့ဖြစ်နိုင်စေရန်အတွက် ကျွန်ုပ်တို့သည် ဘဝ၏ ဖြစ်စဉ်ကို နားလည်၍ လူတိုင်း လူတိုင်းသည် မိမိတို့ဘဝအသီးသီးအတွက် ပဲ့ကိုင်များဖြစ်ကြသည်ကို သဘောပေါက်ကြရန် လို၏။ လူတိုင်းလူတိုင်းသည် အဆင့်အတန်း နိမ့်ကျသောဘဝမှ လွတ်မြောက်အောင် မည်ကဲ့သို့ ပဲ့ကိုင်ရမည်ဟု သိဘို့လို၏။ လူတိုင်းလူတိုင်းသည် မိမိတို့ဘဝလမ်းစဉ် မြေပုံကို နားလည်ကြ၍ အဆင့်အတန်းမြင့်သော ဘဝသို့ ရောက်စေမည့် မိမိတို့၏ နောက်ဆုံးခရီးစခန်းသို့ ဆိုက်ရောက်မည့်လမ်းကို မျက်ခြေမပြတ်အောင် သတိထားကြဘို့ လို၏။

ဤကမ္ဘာပေါ်ရှိ သတ္တဝါများအနက် လူသားတို့သည် အမြတ်ဆုံးဖြစ်သည်ဟု ဆိုသည့်အခါတွင် တိရစ္ဆာန်တို့ကဲ့သို့သော အခြားသော သတ္တဝါတို့ကလည်း မိမိတို့သည်သာလျှင် အမြတ်ဆုံးဖြစ်သည်ဟု ယူဆကြဟန်ရှိသည့် အချက်ကြီးကိုလည်း သတိပြုဘို့လို၏။ အကယ်၍ ထိုသတ္တဝါတို့က မိမိတို့သည်သာလျှင် အမြတ်ဆုံးဖြစ်သည်ဟု မယူဆကြပါလျှင် အကယ်မှာလျှင် ထိုသတ္တဝါတို့သည် မိမိတို့ အမျိုးပျောက်ကွယ်မသွားစေခြင်းအကျိုးငှါ ဖြစ်ငးထန်၍ရဲရင့်စွာ ဘိုက်ခိုက်ကြပါမည်နည်း။ ဤကဲ့သို့ ဖြစ်ရခြင်းမှာ သတ္တဝါတိုင်းက မိမိတို့၏ အမျိုးသည်သာလျှင် အမြတ်ဆုံးဖြစ်သည်ဟု ယုံကြည်ကြသော ထောင်လွှားမှုရှိခြင်းကြောင့် ဖြစ်ပုံဟန်တူ၏။ လူအချင်းချင်းထဲ၌ အမျိုးမျိုးကွဲပြားမှု ရှိနေခြင်းမှာလည်း ထိုကဲ့သို့ ထောင်လွှားမှုရှိနေခြင်းကြောင့်ပင် ဖြစ်နိုင်၏။ ထို့ကြောင့် သတ္တဝါအမျိုးအမျိုး အစားစားရှိနေကြသည့်အနက် လူသားတို့သည် မည်သည့်အခြေ၌ ရှိကြသည့်အကြောင်းကို ကိုယ်ကျိုးမတက် ပုဂ္ဂလဒိဋ္ဌာန်မပါဘဲနှင့် သေသေချာချာ စစ်ဆေးကြည့်ရှုဘို့ လို၏။

## ဝင်ကြွယ်သော သတ္တဝါတို့သည် ကြီးမားသောအောင်မြင်မှုများ ဖြစ်ခြင်း

အပြင်က လူဟာ ယောက်၏ အမြင်ဖြင့် လူသားတို့ကို ကြည့်၍ ပြောရမည်ဆိုလျှင် ဤကမ္ဘာအတွင်း၌ ရှိကြသော သတ္တဝါအမျိုးမျိုးအနက် လူသားတို့၏ အခြေမှာ အမြင့်ဆုံးဖြစ်သည်ဟု မှန်ကန်စွာဆိုနိုင်၏။ ထိုသို့ဆိုနိုင်ခြင်းမှာ ကျွန်ုပ်တို့တွင် အခြားသတ္တဝါများနှင့် ခိုက်ရန်ဖြစ်ပွါးသည့် အခါ၌ နိုင်အောင်ဘိုက်ခိုက်နိုင်သော လက်နက် ကိရိယာများလုပ်နိုင်သော အပွမ်းရှိခြင်းကြောင့်မဟုတ်။ ကျွန်ုပ်တို့တွင် အခြားသတ္တဝါများထက်သာသော ဆင်ခြင်မှုအင်အားရှိခြင်း၊ ကောင်းမှုနှင့် မကောင်းမှုကို ခွဲခြားဟတ်ခြင်း၊ ဘဝ၏ ဘိုးတက်ရာဘိုးဟက်ကြောင်းကို စိမ်ဘတ်ခြင်းတို့ကြောင့်ဖြစ်၏။ အဆင့်အတန်းနိမ့်သော သတ္တဝါတို့ တွေ့ကြုံရသည့် အခက်အခဲများကို စဉ်းစားကြည့်မည်ဆိုလျှင် ကျွန်ုပ်တို့ လူဘဝသည် ထင်ရှားသော အောင်မြင်မှုကြီးတခု သို့မဟုတ် အလွန်မြင့်မားသော အောင်မြင်မှုကြီးတခု ဖြစ်သည်မှာ သေချာ၏။ ယခုကျွန်ုပ်တို့ ရောက်ရှိနေကြသည့် လူ့ဘဝအဆင့်အတန်းသည် ရှည်လျားသော အတိတ်ကာလအတွင်း၌ ယေဘုယျအားဖြင့် ခဲယဉ်းကြိုးစွာ ကျင့်သုံးလာခဲ့ကြသော ကျွန်ုပ်တို့ ကိုယ်ကိုင်၏ အားထုတ်မှုကြောင့် ရရှိလာသော အဆင့်အတန်းဖြစ်ကြောင်းကို ဆင်ခြင်၍ကြည့်မည်ဆိုလျှင် ကျွန်ုပ်တို့သည် ဘာကယ်ပင် ဝမ်းမြောက်ထိုက်ကြ၏။

အသက်ရှင်မှုအလျင်အင်အား အလွန်ကောင်းသော နဝမ်ဝါတ်များသည် သာလျှင် လူ့ဘဝကို ရနိုင်ကြ၏။ လူတိုင်းလူတိုင်း၏ အသက်ရှင်မှုအလျင်အဘွင်း၌အတိတ်ကာလမှ ပါလာသော ကြီးမားသော ကောင်းမွှာရင့်မာနေသော စင်ကြယ်မှု အဆီအနှစ် ဖွဲ့လန်းချက် အထုအထည်ကြီးများ ရှိကြ၏။ ယခုကျွန်ုပ်တို့ လူ့ဘဝကို ရနေကြခြင်းမှာ အဆိုပါ စင်ကြယ်မှုအင်အားတို့ ပွင့်သီးနေကြခြင်းပင်ဖြစ်၏။ ယခု လူ့ဘဝကို ရနေကြသော သတ္တဝါတို့တွင် ရှိနေကြသည့် စင်ကြယ်မှုမြင့်မားပုံကို ဗုဒ္ဓက အမြဲတန်းထင်ရှားစွာ ဖော်ပြခဲ့၏။ ဗုဒ္ဓသည် တရားဟောသည့်အခါတိုင်း လူသားတို့သည် အလွန်မြင့်သော စင်ကြယ်မှု(သာဓု) ရှိသည့် သတ္တဝါများဖြစ်သည်ဟု ဟောခဲ့ခြင်းဖြင့် ဤအချက်သည် ထင်ရှား၏။

လူသားတို့ နဝမ်ဝါတ်၏ အသက်ရှင်မှုအလျင်အဘွင်း၌ မစင်ကြယ်မှုများထက် စင်ကြယ်မှုများက များ၏။ လူ့ဘဝသည် အဆင့်အတန်းအမြင့်ဆုံးဖြစ်သော ဘဝ၏ အထွဋ်အထိပ် မဟုတ်သေးသော်လည်း ထိုအထွဋ်အထိပ်နှင့် နီးကပ်လျက်ရှိ၏။ လူသားတို့၏ အသက်ရှင်မှုအလျင်အဘွင်း၌ မစင်ကြယ်မှုဖွဲ့လန်းချက် အနည်းငယ်ရှိ၏။ ထိုဖွဲ့လန်းချက်တို့သည် အထွဋ်အထိပ်သို့ ရောက်မှုအတွက် အန္တရာယ်များဖြစ်၏။

## အဆင့်အတန်းမြင့်သော သတ္တဝါတို့တွင် ကြီးမားသော မစင်ကြယ်မှုများရှိခြင်း

အဆင့်အတန်းနိမ့်သော ဘဝသို့ နိမ့်ကျသွားနေကြသည့် သတ္တဝါတို့၏ မစင်ကြယ်မှုဖွဲ့လန်းချက်တို့၏ သဘောကို ဖော်ပြခဲ့ရာတွင် မစင်ကြယ်မှုအင်အားတို့ ဆုတ်ယုတ်သွားဟန်ကို ဖော်ပြခဲ့ပြီ။ အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ ဖြစ်စဉ်မှာ အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ ဖြစ်စဉ်နှင့် ပြောင်းပြန်ဖြစ်၏။ အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ အသက်ရှင်မှုအလျင်သည် မစင်ကြယ်မှုအင်အားတို့ကိုအလွန်ကြိုက်နှစ်သက်၏။ အဘယ့်ကြောင့်ဆိုသော် အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ မစင်ကြယ်မှုဖွဲ့လန်းချက်တို့သည် အင်အားကြီးမားစွာဖြင့် လျှင်မြန်စွာ ပေါက်ပွားကြသောကြောင့်ဖြစ်၏။ သတ္တဝါတခုသည် အဆင့်အတန်းမြင့်သော ဘဝသို့ တက်သွားလေလေ ထိုသတ္တဝါ၏ အသက်ရှင်မှု အလျင်အဘွင်း၌ရှိသော မစင်ကြယ်မှုဖွဲ့လန်းချက်တို့သည် ပို၍အင်အားပြင်းထန်လာလေလေ ဖြစ်၏။

စင်ကြယ်မှု ဖွဲ့လန်းချက်အင်အားတို့က လူသားတို့အား မိမိတို့၏ အဆင့်အတန်းမြင့်သောဘဝ၌ ဆက်လက်တည်နေရန် စောင့်ထိန်း၍ ပေးနေခိုက်တွင် မိမိတို့၏ အတိတ်က ပါလာသောအင်အား ပြော့သည့် တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှု ဖွဲ့လန်းချက်တို့သည် မိမိတို့ နာမ်ဓါတ်အတွင်း၌ထွက်ပေါ်လာကြပြီးလျှင် ထိုနာမ်ဓါတ်ကို လွှမ်းမိုးကြ၏။ ထိုမစင်ကြယ်သော ဖွဲ့လန်းချက်တို့က လူသားတို့အား အဆင့်အတန်းမြင့်သော ဘဝသို့ မတက်နိုင်အောင် ဆွဲငင်ထားကြ၏။ တခါတရံတွင် အဆင့်အတန်းနိမ့်ကျသောဘဝသို့ပင် ဆွဲချကြ၏။ အချို့လူသားတို့သည် ပေါ်ပေါက်လာသော အခြေကို သေချာစွာစဉ်းစား၍ ဖြေဖြတ်ခြင်းဖြင့် အဆိုပါ မစင်ကြယ်မှုအင်အားတို့မှ ရုန်းထွက်နိုင်ကြ၏။ သို့ရာတွင် များစွာကုန်သော လူသားတို့မှာ မစင်ကြယ်မှုတို့၏ ဒဏ်ကို မခံနိုင်သဖြင့် အရေးနိမ့်၍ နိမ့်ရာဘဝသို့ လျောကျကြ၏။

## မသာယာမှုကို တွန်းလှန်မှု

မစင်ကြယ်မှုဖွဲ့လန်းချက်တို့ ကြီးပွားလာခြင်းသည် မသာယာမှုကိုသာ ဖြစ်စေနိုင်သည့် အကြောင်းကို အလျှင်းသင့်သည့်အခါတိုင်း အထက်တွင် ဖော်ပြခဲ့ပြီ။ မသာယာမှုသည် မိမိ၏ ပကတိသဘောအားဖြင့် မသက်ရှင်မှုအလျင်အတွင်း၌ နောက်ထပ်မျိုးစေ့များကို မဖြန့်ပေါ်စေနိုင်။ အကယ်၍ ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ မသာယာမှုမျိုးစေ့များ နောက်ထပ်ရောက်လာသည်ဖြစ်လျှင် ထိုသို့ရောက်လာခြင်းကို သတိရှိမှုအနည်းငယ်ဖြင့် ပိတ်ပင်ထားနိုင်၏။ မစင်ကြယ်မှုတို့ ပွင့်သီးလာခြင်းကို စင်ကြယ်မှုအင်အားဖြင့် တွန်းလှန်ဖြိုဖျက်နိုင်၏။ ထို့ကြောင့် လူသားတို့သည် မစင်ကြယ်မှုတုန့်ပြန်ချက်များဖြစ်ပေါ်လာမည့်အရေးကို စင်ကြယ်မှုအလုပ်များကို လုပ်ခြင်းဖြင့် တင်ကြိုပြင်ကာကွယ်နိုင်၏။

အကယ်၍ ကျွန်ုပ်တို့သည် လျောက်ပတ်သော နည်းများကို အသုံးပြုကြမည်ဆိုလျှင် ယေဘုယျအားဖြင့် မသာယာမှုဟု ဆိုအပ်သော အသီးကို မဆောင်မီ မစင်ကြယ်မှုဖွဲ့လန်းချက်အင်အားများကို အကြွင်းမဲ့ ဖျက်ဆီးပစ်နိုင်၏။ ထို့ပြင် အကယ်၍ အချို့သော မစင်ကြယ်မှုဖွဲ့လန်းချက်အင်အားများသည် ထကြွသော မသာယာမှုဟု ဆိုအပ်သော အသီးများကို ဆောင်ကြသည့်တိုင်အောင်ပင် ကျွန်ုပ်တို့သည် ထိုမသာယာမှုများကို သတိရှိစွာနှင့် ခံစားကြပြီးလျှင် မသာယာမှုဝေဒနာတို့ကို အစွမ်းကုန် လျော့ပါးအောင် လုပ်နိုင်ကြ၏။ အဆိုပါနည်းမျိုးကို အသုံးပြုခြင်းအားဖြင့်

ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျှင်အဘွင်း၌ ရှိနေကြသော မဝင်ကြယ်မှု ပွဲလန်းချက် အထုအထည်တို့၏ ဒဏ်ကို တွန်းလှန်နိုင်ကြ၏။ ထို့ပြင် ထိုအခိုက်၌ပင် အသက်ရှင်မှု အလျှင်အဘွင်း၌ ကျန်ရှိနေသည့် ဝင်ကြယ်မှုပွဲလန်းချက် အထုအထည်တို့ကို ထိုက် လျှောက် ဗွာ ဘိုးပွား စေနိုင်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့ အသက်ရှင်မှု အလျှင်၏ အင်အားကို ထိုက် လျှောက် ဗွာ ဘိုးပွားလာ စေနိုင်၏။

ထို့ကြောင့် ကျွန်ုပ်တို့၏ ဘာဝနာမှာ ဝင်ကြယ်မှု ပွဲလန်းချက် အထုအထည် ကြီးပွားလာအောင် လုပ်ဖို့ဖြစ်ပြီးလျှင် ကျွန်ုပ်တို့ အသက်ရှင်မှု အလျှင်အဘွင်း၌ ကျန်ရှိနေသော မဝင်ကြယ်မှုပွဲလန်းချက် အထုအနည်တို့ကို ပျောက်ဖျက်ပစ်ကြရန် ဖြစ်၏။ ဤနည်းဖြင့် မဝင်ကြယ်မှုအင်အားတို့၏ ဝန်ထုပ်သည် ပေါ့၍သွားနိုင်၏။ မဝင်ကြယ်မှုပွဲလန်းချက်အထုအထည်တို့ကို လျော့ပေါ့သွားစေရန်အတွက်နှင့် ဝင်ကြယ်မှုပွဲလန်းချက်အထုအထည်တို့ ဘိုးပွားလာစေရန်အတွက် အကောင်းဆုံးဖြစ်သော နည်းမှာ မဝင်ကြယ်မှုအင်အားများနှင့် ဝင်ကြယ်မှုအင်အားများရှိနေပုံအကြောင်းနှင့်ဝဝလျှင်း၍ ကောင်းစွာသဘော ပေါက်ရန် လုပ်ကြဖို့ဖြစ်၏။ သာယာမှုနှင့် မသာယာမှုတို့သည် ကျွန်ုပ်တို့ အတိတ်ကပြုခဲ့သော အမှုတို့မှ ဝမ္ဘာဘာအတိုင်းဖြစ်ပေါ်လာကြသော အခြင်းအရာများဖြစ်သည့်အကြောင်းနှင့်ဘာဝ ကျွန်ုပ်တို့အတို့ အနာဂတ်တွင် ဖြစ်ပေါ်မည့်သာယာမှုနှင့် မသာယာမှုတို့မှာ ယခု ကျွန်ုပ်တို့ပြုလုပ်နေကြသော အလုပ်များအလိုက်သာ ဖြစ်ကြလိမ့်မည်ဖြစ် ကြောင်းတို့ကို ကောင်းစွာ နားလည်ဖို့လို၏။

<u>မသာယာမှုနှင့် သာယာမှုတို့ကို နားလည်ခြင်း</u>

ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ နာမ်ပါ်အတွင်း၌ သာယာမှုနှင့် မသာယာမှုတို့သည် မည်ကဲ့သို့သော အပဉ်ဖြင့် ဖြစ်ပေါ်ကြ ကြောင်းကို ကောင်းစွာ နားမလည် နိုင်ကြသည့်တိုင်အောင်ပင် အယုတ်သဖြင့်အားဖြင့် မသာယာမှုဖြစ်ပေါ်သော အခိုက်နှင့် သာယာမှုဖြစ်ပေါ်သောအခိုက်တို့ကို ခြားနားရှ သိအောင်အားထုတ် အပ်၏။ မသာယာမှုတို့သည် မည်သည့် အရာများဖြစ်သည်ကို၄င်း၊ သာယာမှုတို့သည် မည်သည့် အရာများဖြစ်သည်ကို၄င်း၊ ကျွန်ုပ်တို့သည် ကောင်းစွာနားလည်ကြဖို့ လို၏။ ထိုသို့ နားလည်ကြပြီးသည့်နောက်အဖို့တွင် ကျွန်ုပ်တို့သည် သတိရှိစွာဖြင့် ပြုမူကြဖို့ လို၏။

ကျွန်ုပ်တို့သည် မစင်ကြယ်မှုကို ပြုလုပ်ကြသည့်အခါတိုင်း အခါတိုင်း ထိုသို့ မပြုလုပ်ကြမီ ရှေးအဖို့တွင် မသာယာမှုကို ခံစားကြရ၏။ ဥပမာဆိုသော် ပတ်ဝန်းကျင်သိမှုအာရုံ ပြည့်စုံစေရန်အတွက် ဘဝမက်ခြင်း၊ သူတပါးအပေါ်တွင် မုန်းတီးစိတ် ပေါ်ခြင်း၊ သို့မဟုတ် ပျင်းရိ ပျော်တန်ခြင်း စသည်တို့ဖြစ်၏။ ထိုအခြေမျိုးသို့ ကျွန်ုပ်တို့၏ နာမ်ဓါတ် ရောက်နေခြင်းသည် မည်သည့်အခါတွင်မဆို ဆင်းရဲ၏။ သို့ရာတွင် ကျွန်ုပ်တို့သည် ထိုသို့ ဆင်းရဲသည့်အဖြစ်ကို မသိကြသဖြင့် စောင့်စည်းမှု ကင်းမဲ့စွာဖြင့် ယာယီသက်သာမှုကို ရရန်ပြုမူကြ၏။ ထိုကဲ့သို့ ပြုမူခြင်းသည် ကျွန်ုပ်တို့အား ဘဝမက်ခြင်း၊ မုန်းတီးခြင်း၊ သိမှုမရှိခြင်း ညွှန်အတွင်းသို့ တိုး၍ နစ်မြုပ်စေပြီးလျှင် ဆင်းရဲခြင်းတို့ကို ပို၍ ရောက်လာစေ၏။

ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ ကြံစည်မှုတို့က တစုံတခုသော အမှုကိုပြုရန် စေ့ဆော်၍ ပေးသောအခါတွင် ကျွန်ုပ်တို့သည် တခဏတာမျှ ဆိုင်းငံ့၍ ကျွန်ုပ်တို့အား စေ့ဆော်ပေးနေသောအရာသည် မည်သည့်အရာဖြစ်သည့်အကြောင်းကို ဆင်ခြင်အပ်၏။ ကျွန်ုပ်တို့အား စေ့ဆော်ပေးနေသောအရာသည် မည်သည့်အရာဖြစ်သည့်အကြောင်းကို သိနိုင်ရန်အတွက် အကောင်းဆုံးဖြစ်သောနည်းမှာ ကျွန်ုပ်တို့ နာမ်ဓါတ်အတွင်း၌ ထိုအခိုက်အတန့်တွင် ပြင်ပေါ်နေသော အာရုံသည် မည်သည့်အာရုံမျိုးဖြစ်သည်ကို စစ်ဆေးကြည့်ရှုခြင်းဖြစ်၏။ အကယ်၍ အဆိုပါအာရုံသည် ဘဝမက်မှုအာရုံ၊ မုန်းတီးမှုအာရုံ၊ သို့မဟုတ် မသိမှုအာရုံဖြစ်သည်ကို တွေ့ရမူ၊ သို့မဟုတ် ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် ဘဝမက်မှု၊ မုန်းတီးမှု၊ မသိမှု အခြေတွင် ရောက်နေကြောင်းကို တွေ့ရမူ၊ ထိုအာရုံက ကျွန်ုပ်တို့အား တစုံတခုသောအမှုကို ပြုလုပ်အောင် စေ့ဆော်ပေးသော အဖြစ်သို့ ရောက်ခွင့်မပေးဘဲ ထိုအာရုံကို ပျက်ပျယ်၍သွားစေအပ်၏။

## "သိမှု" ကို ပိတ်ပင်သော အနှောက်အယှက်များ

ကျွန်ုပ်တို့တွင် တစုံတခုသောအလုပ်ကို ပြုလုပ်ရန် စေ့ဆော်မှု ပေါ်လာသည့်အခါတိုင်းတွင် ထိုသို့ပြုလုပ်ရန် အလုပ်မှာ မည်သည့်အလုပ်မျိုး ပင်ဖြစ်စေကာမူ ကျွန်ုပ်တို့သည် အမြဲတမ်းအားဖြင့် ထိုသို့ ပြုလုပ်မည့်အလုပ်ကို တခဏတာမျှ ဆင်ခြင်စဉ်းစားအပ်၏။ အကယ်၍ ကျွန်ုပ်တို့အား စေ့ဆော်ပေးနေသော အရာမှာ မေတ္တာစိတ်ငြိမှု၊ သနားကြင်နာစိတ်ငြိမှု၊ သို့မဟုတ် သိမှုဟု ဆိုအပ်သော

သာယာသော အာရုံတို့ဖြစ်ကြမူ ထိုသို့တခဏတာမျှ ဆင်ခြင်စဉ်းစားခြင်းသည် ကျွန်ုပ်တို့ လုပ်ရန် ရည်စူးသောအလုပ်ကို ပို၍ပြင်းထန်သော အင်အားဖြင့် လုပ်နိုင်စေရန် အထောက်အပံ့ပြုလိမ့်မည်။ ကောင်းမှုကို ဖြစ်ပေါ် စေနိုင်သော ကျွန်ုပ်တို့၏ ကြံစိမှုများသည် ယေဘုယျအားဖြင့် ပေါ်လာပြီးနောက် ချက်ခြင်း ပျောက်ကွယ်သွားတတ်၏။ သို့ရာတွင် အဆိုပါကြံစိမှုများကို ခင်မင်သော သူတို့သည် မိမိတို့ နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အဟွင်း၌ ဝင်ကြယ်မှုဖွဲ့လန်းချက်များဖြစ် ပေါ်လာနိုင်စေရန်အတွက် အဆိုပါကြံစိမှုတို့ကို မြောက်များစွာ ဖြစ်ပေါ် စေနိုင်၏။ ဤနည်းဖြင့် မှန်ကန်စွာ နားလည်ခြင်း သို့မဟုတ် "သိမှု" (အမောဟ) သည် ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အဟွင်း၌ ဝင်ကြယ်မှုဖွဲ့လန်းချက် အထုံအထည်များတိုးပွားလာ စေရန်အတွက် အထောက်အပံ့ပြုနိုင်ပြီးလျှင် မစင်ကြယ်မှု အထုံအထည်တို့ကိုလည်း လျော့ပါးသွား စေနိုင်၏။

သိမှုသည် အမြဲတန်းအားဖြင့် နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အဟွင်း၌ မသိမှု( မောဟ ) ပျောက်ပသွားရာမှ ဖြစ်ပေါ်လာ၏။ သို့ရာတွင် သတ္တဝါအားလုံး၏ နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အဟွင်း၌ မသိမှုသည် ခိုင်မာစွာ အမြစ်တွယ်၍နေသောကြောင့် မသိမှုကို ပျောက်ပသွားအောင်လုပ်ဖို့အလုပ်မှာ အလွန်လျှင် ခဲယဉ်း၏။ ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်ကို မသိမှုအညစ်အကြေးတို့က ထူထပ်စွာ ဖုံးအုပ်ထား၏။ ထိုအညစ်အကြေးတို့ကို ပျောက်ပစေနိုင်သော အင်အားဟူ၍ သိမှုအင်အား တခုသာရှိ၏။ သို့ရာတွင် သိမှုအင်အားတို့အဖို့တွင် မသိမှုအင်အားတို့ကို တွန်းလှန်ရခြင်းမှာ အလွန်ခက်ခဲသော အလုပ်ဖြစ်၏။ အခြေခိုင်နေသော ဓလေ့ထုံးပံများ၊ အယူမှားမှုများ၊ အာရုံ့ပါနေမှုများ၊ စိတ်ဓါတ်ယိုယွင်းမှုများ၊ ကိုယ်ကာယ မကျန်းမာမှုများ စသည့် အခက်အခဲတို့သည် ယေဘုယျအားဖြင့် တိုက်ဖျက်၍မရနိုင်လောက်အောင် ကြီးမားလှသဖြင့် သိမှုကို ပိုးတက်အောင်လုပ်ဖို့ အလုပ်သည် အင်မတန်ခဲယဉ်း၏။ "သိမှု" ဆိုသောစကားဖြင့် " ဟုတ်မှန်သည့် အတိုင်းသိမှု သို့မဟုတ် ပညာ " ဟု သာဆိုလို၏။

## မှန်ကန်သော သတိရှိမှု

မှန်ကန်သော သိမှု သို့မဟုတ် မှန်ကန်သော သတိရှိမှု( သမာသမာဓိ ) သည် အဆိုပါအခက်အခဲအားလုံးကို အောင်နိုင်စေရန်အတွက် အကောင်းဆုံးနည်း ဖြစ်၏။ ဥဒါဟရဏ်ဆိုသော် မိမိတို့သည် အခြားသူများထက် မြင့်မြတ်သည်ဟု အထင်

ရောက်နေကြသူတို့အား မွေးဖွားခြင်း၊ ကြီးရင့်ခြင်း၊ နာခြင်း၊ အင်အားဆုတ်ယုတ်ခြင်း၊ သေခြင်း ဝသော ထင်ရှားသည့် ဓမ္မတာသဘာဝရားများကို သိစေမှုသည် အဆိုပါသူတို့အား မိမိတို့၏ အခြေမှန်ကို လှင်မြန်စွာ သဘော ပေါက်စေနိုင်သော အကြောင်းဖြစ်၏။ မှန်ကန်သော သိမှုသည် ရုပ်ပိုင်းဆိုင်ရာ အခြေနှင့် နာမ်ပိုင်းအခြေနှစ်ခုလုံးအား အချိန်မလွန်မီတွင် မှာမှုရှိအောင် ပြုပြင်၍လည်း ပေးနိုင်၏။ ဤနည်းဖြင့် အရေးကြီးသော နာမ်ပိုင်း အင်အားနှင့် ရုပ်ပိုင်းအင်အားတို့ကို ဖြစ်ပေါ်လာနိုင်စေ၏။ ထိုအင်အားများ မရှိလျှင် သိမှုကို ရနိုင်မည်မဟုတ်။

စင်စစ်အားဖြင့် သိမှုသည် ပညာပင်ဖြစ်၏။ မည်သည့်အခက်အခဲတို့သည်မျှ ပညာနှင့် ရင်မဆိုင်နိုင်ကြ။ ပညာသည် မလှုထိုးတို့၏ သဘောကို ဖေါက်ထွင်း၍ မြင်နိုင်၏။ ယုတ်ညံ့သော အကျင့်တို့မှ သက်သာရာရစေ၍ ကောင်းသော အကျင့်တို့ကိုလည်း တိုးတက်စေ၏။ လူနိုင်တို့အား နာမ်ပိုင်းအင်အားကို ရောရုပ်ပိုင်းအင်အားကိုပါ ပေးနိုင်၏။ ပညာသည် လူနိုင်တို့၏ နာမ်ပိုင်းနှင့် ရုပ်ပိုင်းတို့တွင် ဖြစ်ပေါ်တတ်သော ယုတ်ညံ့မှုကိုလည်း တန့်တားနိုင်၏။ ပြီးလျှင် လူနိုင်တို့အား အလွန့်အလွန်ထင်ရှားသော သတိပေးမှုကိုလည်း ပြုနိုင်၏။ ထိုသတိပေးမှုကို လိုက်နာခြင်းဖြင့် လူနိုင်တို့သည် မျက်မှောက်ချမ်းသာမှုကိုလည်း ရနိုင်၍ အနာဂတ်တွင် အဆင့်အတန်းမြင့်သော ဘဝကိုလည်း ရနိုင်၏။

## ကာယကံ လေ့ကျင့်မှု

ဗုဒ္ဓသည် မှန်ကန်သော သတိရှိမှုကို အလွန့်အလွန် အရေးကြီးသည်ဟု ယူဆသဖြင့် မှန်ကန်သော သတိရှိမှုကို ရစေတတ်သော ကာယကံ လေ့ကျင့်နည်းများကို ပြဋ္ဌာန်းပေးခဲ့၏။ ထိုလေ့ကျင့်နည်းများအနက် အသက်ရှူမှု(အာနာပါန သတိ)သည် လူကြိုက်အများဆုံးနည်း ဖြစ်၏။ ဤနည်းမှာ နေ့စဉ်နေ့စဉ် အနည်းဆုံး ငါးမိနစ်ခန့်မျှ အသက်ရှူမှုကို သိအောင်လုပ်ရသော နည်းဖြစ်၏။ ထွက်လေဝင်လေဖြစ်သော အသက်ရှူခြင်း ကာယကံအလုပ်ကို သိမှုသည် မိမိတို့၏ အာရုံစူးစိုက်မှု အင်အားတို့ကို တိုးတက်စေရုံသာမကဘဲ ကျန်းမာခြင်းကိုလည်း ဖြစ်စေနိုင်၏။

ကာယကံမှု ကောင်းကျိုးတက်ကဆုံလျှင် ရုံဘန်ရုံခါ အသက်ရှူခြင်း သိမှုအကျင့်သည် မိမိတို့အသက်ရှူခြင်းနှင့်ပတ်သက်သည့် အလေ့အထ ချွတ်ယွင်းချက်များကို တွေ့ရှိပြီး ပြုပြင်နိုင်စေရန် အထောက်အပံ့ကို ပြု၏။ ယခုအခါတွင် အားလုံးသိကြသည့်အတိုင်း

ပင် အသက်ရှူခြင်းသည် သွေးစင်ကြယ်မှုအကျိုးကို တိုက်ရိုက် ပေး၏။ အသက်ရှူခြင်းသည် နှလုံး၏ တာဝန်နှင့် သက်ဆိုင်၏။ နှလုံးသည် တာဝန် ကြေပြွန်နေသောအခါတွင် သွေးအားသည် တိုးတက်လာကြ၏။ ဤနည်းဖြင့် တိုးတက်သော ကျန်းမာမှုကို မလွဲတမ်းရနိုင်၏။ ထို့ကြောင့် ရံဖန်ရံခါ ကျွန်ုပ်တို့၏ အသက်ရှူခြင်းကို သိမှုသည် အသက်ရှူခြင်းနှင့်ပတ်သက်သော ချွတ်ယွင်းချက်များကို ပြုပြင်နိုင်၏။ အသက်ရှူခြင်း တိုးတက်ကောင်းမွန်လာသောအခါတွင် ကျွန်ုပ်တို့သည် ပို၍ ကောင်းသော ကျန်းမာမှုနှင့် ပို၍ ကောင်းသော နေထိုင်မှုကို ရကြ၏။

ဤလေ့ကျင့်နည်းကို တစ်ဆင့်တိုး၍ ကောင်းအောင်ပြုလုပ်သော သဘောဖြင့် ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်း၌ အခြားအင်္ဂါများနှင့် ပတ်သက်၍လည်း သိမှုလေ့ကျင့်နည်းများကို ပြုလုပ်နိုင်၏။ ဥဒါဟရုဏ်ဆိုသော် ကျွန်ုပ်တို့၏ လမ်းလျှောက်ခြင်းနှင့် ပတ်သက်၍ သော်၎င်း၊ ထိုင်နေခြင်းနှင့်ပတ်သက်၍ သော်၎င်း၊ သိမှုရှိအောင် လေ့ကျင့်နိုင်၏။ ထိုကဲ့သို့ သိမှုရှိလာသောအခါတွင် ကျွန်ုပ်တို့ ကိုယ်ခန္ဓာနှင့်ပတ်သက်သော ချွတ်ယွင်းချက်မှန်သမျှကို ကျွန်ုပ်တို့သိ၍လာကြမည်ဖြစ်၏။ အကယ်၍ ထိုချွတ်ယွင်းချက်တို့သည် ပြုပြင်ပေးဘို့လိုသော ချွတ်ယွင်းချက်များဖြစ်ကြလျှင် သိမှုရှိနေသည့်အတွက်နှင့်ပင် ထိုချွတ်ယွင်းချက်တို့ကို ပြုပြင်ရာ ပြုပြင်ကြောင်းသည် ဖြစ်၍လာလိမ့်မည်။ အကယ်၍ ကျွန်ုပ်တို့၏ ချွတ်ယွင်းချက်များသည် အဟောင်ခိုင်မာ၍ နေကြလျှင် အထိုက်အလျောက်ကြိုးစား၍ ပြုပြင်ခြင်းဖြင့် ထိုချွတ်ယွင်းချက်တို့သည် လိုအပ်သော ကောင်းသောအကျင့်များအဖြစ်သို့ ရောက်လာကြလိမ့်မည်။ ထို့ပြင် ကျွန်ုပ်တို့၏ ချွတ်ယွင်းချက်များကို စွဲမြဲစွာ သိမှုရှိနေခြင်းသည် ထိုချွတ်ယွင်းချက်များကို ပြုပြင်ရန် အင်အားကို တိုးတက်၍လာစေလိမ့်မည်။ သို့ရာတွင် အကယ်၍ ကျွန်ုပ်တို့၏ ချွတ်ယွင်းချက်များသည် ပြုပြင်၍ ရနိုင်မည့် ချွတ်ယွင်းချက်များ မဟုတ်ပါမူ ထိုချွတ်ယွင်းချက်များကို မှန်ကန်သော သိမှုဖြင့် ခံယူတတ်အောင် ပြုကျင့်ကြရလိမ့်မည်။

## နာမ်ဓါတ်အား တိုးပွားစေမှု

ကျွန်ုပ်တို့ ကိုယ်ခန္ဓာ၏ တာဝန်များနှင့်ပတ်သက်သော သိမှုမှ ဖြစ်ပေါ်လာသော ကောင်းကျိုးတို့သည် ကျွန်ုပ်တို့ ရရှိနိုင်သော ကောင်းကျိုးများ အနက် အကြီးကျယ်ဆုံးသော ကောင်းကျိုးများဖြစ်ကြ၏။ မှန်ကန်သော သိမှုသည် ထိုသိမှုကို ကျွန်ုပ်တို့ ကိုယ်ခန္ဓာ၏ တာဝန်များအတွက်သာ အသုံးပြုသည်တိုင်အောင်ပင်

ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်၏ အင်အားကိုလည်း တိုးတက်လာစေ လိမ့်မည်။ အာရုံတခုတည်းနှင့် ဖြောင့်မတ်စွာ စူးစိုက်နိုင်သော အင်အားကြီးမားသော နာမ်ဓါတ်တို့သည် ထိုးဖေါက်နိုင်သော သတ္တိ၊ ခုတ်ယူနိုင်သော သတ္တိ၊ ပညာကို ပို၍ ဆောင်နိုင်သော သတ္တိ ရှိကြ၏။

လူသားတို့တွင် ရှိသော နာမ်ဓါတ်သည် အမြဲတန်းလမ်း ဖြောင့်မှ သွေဖီလိုသော သဘောရှိ၏။ ကျွန်ုပ်တို့သည် မည်သည့်အကြောင်းကိုမျှ လိုက်လျှောက်စွာ အချိန်ရှည်ကြာအောင် မကြံစည်နိုင်ကြ။ ကျွန်ုပ်တို့သည် အလုပ်တခုကို လုပ်၍ နေကြသည့်အချိန်၌ပင် ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် အခြားသို့ ရောက်၍ နေတတ်၏။ ကျွန်ုပ်တို့ကို အနှောက်အယှက်ပြုသည့်အရာများ ရှိချင်မှ ရှိမည်ဖြစ်သော်လည်း ကျွန်ုပ်တို့ နာမ်ဓါတ်ကိုယ်တိုင်၏ အတွင်း၌ ရှိသော အမျိုးမျိုးသော အင်အားတို့သည် ကျွန်ုပ်တို့၏ ကြံစည်ချက်များကို အဖက်ဖက်သို့ ဆွဲငင်၍ နေကြလိမ့်မည်။ ဤကဲ့သို့ ဖိတ်ပြန့်လွင့်မှုတို့ များလေလေ၊ ကျွန်ုပ်တို့သည် နက်နဲစွာ ကြံစည်ဖို့ ခက်လေလေဖြစ်၏။ ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် ပြန့်လွင့်မှုနည်းပါး လေလေ ကျွန်ုပ်တို့သည် လေးနက်စွာ ကြံစည်နိုင်လေလေ ဖြစ်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့၏ သိမှုအလုအထည်သည်လည်း ပို၍ကြီးမား လာလိမ့်မည်။ ကျွန်ုပ်တို့ နာမ်ဓါတ်၏ ပြန့်လွင့်တတ်သော သဘောသည် ကျွန်ုပ်တို့ သိမှု၏ တိုးတက်ကြောင်းကို ပိတ်ပင်၏။ မှန်ကန်သော သိမှု၏ အကျိုးကား အဆိုပါပြန့်လွင့်မှုကို ပျောက်ပစေခြင်းဖြစ်ပြီးလျှင် နာမ်ဓါတ်အားသိမှုသို့ ရောက်အောင် ထိုးဖေါက်သွားနိုင်သော အင်အားကို ဖြစ်ပေါ်စေခြင်း ဖြစ်၏။

မှန်ကန်သော ပညာသင်ကြားမှု၊ မှန်ကန်သော သုံးသပ်မှု၊ မှန်ကန်သော နှလုံးသွင်းမှုတို့သည်လည်း အထက်ပါ ကောင်းကျိုးများကို ဖြစ်စေနိုင်၏။ သုံးသပ်မှု နှလုံးသွင်းမှုတို့ကို လေ့ကျင့်လိုသူများအတွက် မှန်ကန်သော သိမှုသည် ကောင်းသော အခြေခံပင်ဖြစ်၏။

## မှောင်ကြွယ်မှုများကို ပျောက်ပယ်ခြင်း

ကျွန်ုပ်တို့၏ သိမှုသည် နောက်ဆုံး၌ ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်သမျှသော ခံစားမှု အာရုံပြန်ချက်အားလုံးကို သိနိုင်သော အခြေသို့ ပို့ပေးလိမ့်မည်။ ကျွန်ုပ်တို့၏ သိမှုသည် အထူးသဖြင့် ကျွန်ုပ်တို့၏ နှလုံးတွင်း၌

ဖြစ်ပေါ်ကြသော အမျိုးမျိုးသော အာရုံတို့ကို စောင့်၍ကြည့်နေပြီးလျှင် မစင်ကြယ်သော အာရုံပြန်မှုများကို တွေ့သည့်အခါတွင် အုပ်ထိန်းပေး၍၊ စင်ကြယ်မှု အာရုံပြန်မှုများကို တွေ့သောအခါတွင် တိုးပွား၍ ခိုင်မြဲအောင် လုပ်ပေးရမည်။ ထို့ကြောင့် မှန်ကန်သော သိမှုအကျင့်သည် ကျွန်ုပ်တို့အား မစင်ကြယ်မှုများကို သုတ်သင်ရာတွင် အထောက်အပံ့ပြု၍ စင်ကြယ်မှုများကို တိုးပွားစေ၏။

မှန်ကန်သော သိမှုသည် ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အတွင်းတွင် စင်ကြယ်သော အာရုံပြန်မှုတို့ကို တိုးပွားစေ၏။ ထိုအာရုံပြန်မှုတို့သည် အသက်ရှင်မှု အလျှင်အတွင်းသို့ မျိုးစေ့များအဖြစ်နှင့် ဝင်လာကြ၏။ မှန်ကန်သော သိမှုသည် မစင်ကြယ်သော အာရုံပြန်မှုတို့ ပြန်ပေါ်ခြင်းကိုလည်း ပိတ်ပင်၏။ ဤနည်းဖြင့် အသက်ရှင်မှုအလျှင်အတွင်းသို့ မစင်ကြယ်မှု မျိုးစေ့များ နောက်ထပ် ရောက်မလာစေရန် ကာကွယ်ပေး၏။ ဤနည်းဖြင့်ပင်လျှင် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျှင်အတွင်း၌ မစင်ကြယ်မှုမျိုးစေ့တို့ အဆက်မပြတ် ဝင်လာခြင်းကိုလည်း ပျောက်ပစေ၏။ ပြီးလျှင် မှန်ကန်သော သိမှုကို အသုံးပြုခြင်းဖြင့် စင်ကြယ်မှုမျိုးစေ့တို့ အစဉ်မပြတ် ပွားများနေခြင်းကိုလည်းဖြစ်စေနိုင်၏။

## ဘုံများပြဋ္ဌာန်းမှု

အသက်ရှင်မှုအလျှင်အတွင်းသို့ ရောက်လာကြသောအခါ စင်ကြယ်မှု အင်အားတို့သည် အသက်ရှင်မှုအလျှင်ကို အင်အားဖြည့်တင်းပေး၏။ ရုပ်ဓါတ်ရှိသတ္တဝါတို့၏ အသက်ရှင်မှုအလျှင်အတွင်း၌ စင်ကြယ်မှုအင်အားနှင့် မစင်ကြယ်မှုအင်အား နှစ်ခုလုံးသည် ရှိကြ၏။ ထိုအင်အားနှစ်ခုသည် အချိုးအဝေးကွဲပြားခြင်း၌သာ ခြားနားခြင်းရှိကြ၏။ မိမိတို့၏ အသက်ရှင်မှုအလျှင်၏ အင်အားအလိုက်သာလျှင် အသီးသီးသော နာမ်ဓါတ်တို့သည် မိမိတို့ ဘဝခရီးရပ်နားရန် စခန်းများတွင် မိမိတို့နေရန်အဆောက်အအုံများကို ဆောက်လုပ်နိုင်ကြ၏။ အကယ်၍နာမ်ဓါတ်တခု၏ အသက်ရှင်မှုအလျှင်သည် လူသားတယောက်၏ ကိုယ်ခန္ဓာကို တည်ဆောက်နိုင်လောက်သော အင်အားရှိသည်ဖြစ်မူ ထိုနာမ်ဓါတ်သည် လူသားတယောက်အဖြစ်နှင့် အခြေစိုက်၏။ အကယ်၍ ထိုနာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်၏ အင်အားမှာ တိရစ္ဆာန်တကောင်ဖြစ်နိုင်လောက်ရုံသာ ရှိသည်ဖြစ်မူ ထိုနာမ်ဓါတ်သည် တိရစ္ဆာန်တကောင်အဖြစ်နှင့် အခြေစိုက်၏။ အကယ်၍ ထိုနာမ်ဓါတ်၏ အသက်ရှင်မှုအင်အား လက်ကျန်သည် ပိုးမွှားတကောင်ဖြစ်လောက်ရုံသာ အင်အားရှိသည်ဖြစ်မူ ထိုနာမ်ဓါတ်သည် ပိုးမွှားတကောင်အဖြစ်နှင့် အခြေစိုက်၏။

ကျွန်ုပ်တို့ နာဖ်ပါဟ်၏ အသက်ရှင်မှုအလျှင်အတွင်း၌ ဤကမ္ဘာတွင်းတွင် ကျွန်ုပ်တို့ ပဋိသန္ဓေယူကြစဉ် အခိုက်၌ ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်၏ အတိတ်မှ စုဆောင်းလာခဲ့သော လက်ကျန်အင်အားသည် လူသား၏ ကိုယ်ခန္ဓာနှင့် နေနိုင်လောက် အောင်ရှိသဖြင့် ကျွန်ုပ်တို့သည် လူသားများအဖြစ်နှင့် မွေးဖွားလာကြခြင်းဖြစ်၏။ ထိုအင်အားကုန်ခမ်းသွားသောအခါတွင် ကျွန်ုပ်တို့သည် သေကြလိမ့်မည်။ ကျွန်ုပ်တို့သည် လူဘဝနှင့် နေကြစဉ်တွင် ကျွန်ုပ်တို့၏ အသက်ရှင်မှုအလျှင်အတွင်းသို့ ဝင်ကြွယ်မှုနှင့် မဝင်ကြွယ်မှု နှစ်ခုလုံးသည် ဝင်လာကြသဖြင့် ယခုကျွန်ုပ်တို့၏ အသက်ရှင်မှု အင်အားလက်ကျန်မှာ ကျွန်ုပ်တို့ ပဋိသန္ဓေယူသောအချိန်က လက်ကျန်နှင့် မတူတော့။ ကျွန်ုပ်တို့အား လူသတ္တဝါအဖြစ်နှင့် ပဋိသန္ဓေယူခြင်းကို ဖြစ်စေသော အင်အားသည် ကုန်ခမ်းသွား၏။ ထို့ကြောင့် အကယ်၍ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ သက်တမ်းအတွင်း၌ လူသတ္တဝါတို့နှင့် ထိုက်တန်သော ကြံစီမှုများကိုလည်း မဖြစ်ပေါ်စေကြ။လူသတ္တဝါတို့နှင့် ထိုက်တန်သော အလုပ်များကိုလည်း မလုပ်ကြဟုဆိုလျှင် ကျွန်ုပ်တို့တွင် လူ့ဘဝကို ပြန်၍ရဘို့ မျှော်လင့်ချက်ရှိကြလိမ့်မည် မဟုတ်။

## ရုဝ်ဒါဟ်၏ သညာဝါ ဘုံအမျိုးမျိုး

နောက်ဘဝတွင် ကျွန်ုပ်တို့ဘာဖြစ်မည်ဆိုသော အချက်မှာ ကျွန်ုပ်တို့၏ မျက်မှောက်ဘဝ၏ နောက်ဆုံးအချိန်၊ တနည်းဆိုသော် ကျွန်ုပ်တို့ သေသောအချိန်တွင် ကျွန်ုပ်တို့ အသက်ရှင်မှုအလျှင်အတွင်း၌ ကျန်ရှိနေသော အင်အားအလိုက်သာလျှင်ဖြစ်၏။ အကယ်၍ ထိုအချိန်တွင် ကျွန်ုပ်တို့ အသက်ရှင်မှု အလျှင်၏ လက်ကျန်အင်အားမှာ ကျွန်ုပ်တို့အား နောက်ဘဝတွင် လူသတ္တဝါအဖြစ်နှင့် ပဋိသန္ဓေယူနိုင်လောက်အောင် ကြီးသည်ဖြစ်မူ ကျွန်ုပ်တို့သည် လူသတ္တဝါအဖြစ်နှင့် ပဋိသန္ဓေယူကြလိမ့်မည်။ အကယ်၍ ကျွန်ုပ်တို့၏ အင်အားသည် လူသတ္တဝါဖြစ်နိုင်ရန်အတွက်ထက် ပို၍နေမည်ဆိုလျှင် ကျွန်ုပ်တို့သည် နတ်ဘုံကဲ့သို့သော ရုပ်ပါဟ်၌ ဘုံသို့တက်၍ ပဋိသန္ဓေယူကြလိမ့်မည်။ အကယ်၍ ကျွန်ုပ်တို့၏ အင်အားသည် လူသတ္တဝါအဖြစ်နှင့်ပြန်၍ ပဋိသန္ဓေယူနိုင်လောက်အောင် မကြီးဟုဆိုလျှင် ကျွန်ုပ်တို့သည် တိရစ္ဆာန်တမျိုးမျိုးအဖြစ်နှင့် ပဋိသန္ဓေယူကြလိမ့်မည်။ အကယ်၍ ကျွန်ုပ်တို့၏ လက်ကျန်အင်အားသည် အလွန်ပင် နည်းပါးသည်ဖြစ်မူ ကျွန်ုပ်တို့သည် အောက်အပါ(ယ်)ဘုံ၊ ဒုက္ခဘုံ၊ ငရဲဘုံ တခုခုတွင် ပဋိသန္ဓေယူကြလိမ့်မည်။ အင်အားနည်းသော လျှပ်စစ်ဓါတ်မီးပွင့်တို့ကို အင်

အားကြီးသော လျှပ်စစ်ဓါတ်အားနှင့် ထွန်း၍မရသည့်နည်းတူ ဝင်ကြွယ်မှုဖွဲ့လန်းချက် အထုအထည်ကြီးမားသော အသက်ရှင်မှု အလျှင်ရှိသည့် နာမ်ဓါတ်တို့သည် အဆင့်အတန်း နိမ့်သော သတ္တဝါ၏ ကိုယ်ခန္ဓာတွင် သန္ဓေမယူနိုင်။ ထိုနည်း အတူပင် အင်အားကြီး သော လျှပ်စစ်ဓါတ်မီးပွင့်တို့ကို အင်အားသေးသော လျှပ်စစ်ဓါတ်အားဖြင့် ထွန်း၍ မဖြစ်နိုင်သကဲ့သို့ပင် မစင်ကြယ်မှုဖွဲ့လန်းချက် အထုအထည်တို့ကြောင့် အင်အား ပြော၍နေသော အသက်ရှင်မှုအလျှင်ရှိသည့် နာမ်ဓါတ်တို့သည် အဆင့်အတန်းမြင့်သော သတ္တဝါ တို့၏ ကိုယ်ခန္ဓာတွင် ပဋိသန္ဓေ မယူနိုင်။

## အဆင့်အတန်းမြင့်သော ဘဝသို့ ရောက်ရန်ကြိုးစားဖို့လိုခြင်း

လူသတ္တဝါတို့၏ အသက်ရှင်မှုအလျှင်သည် အင်အားကောင်းသော လက်ကျန် စင်ကြယ်မှု အထုအထည် မြောက်မြားစွာကို မျက်မှောက်ဘဝသို့ ယူဆောင်ခဲ့သော်ငြား ထိုအလျှင်အတွင်း၌ မစင်ကြယ်မှု အထုအထည် အနည်းငယ်ကျန်ရှိနေသေးကြောင်းကို ဖေါ်ပြခဲ့ပြီ။ အကယ်၍ ကျွန်ုပ်တို့တွင် ထိုသို့သော မစင်ကြယ်မှုအကြွင်းအကျန် မရှိခဲ့သည် ဖြစ်မူ ကျွန်ုပ်တို့သည် ဤပကြာဝဠာအတွင်း၌ ပို၍ကောင်းသော ကမ္ဘာ၌ ပို၍ ကောင်းသောအခြေ၌သာ ပဋိသန္ဓေယူကြမည်ဖြစ်၏။ ကျွန်ုပ်တို့၏ စင်ကြယ်မှုအကြွင်း အကျန်နှင့် မစင်ကြယ်မှု အကြွင်းအကျန်အမျိုးအစားမှာ ကျွန်ုပ်တို့အား ဤကမ္ဘာ တွင် လူသတ္တဝါအဖြစ်နှင့် ပဋိသန္ဓေယူနိုင်ရေးအတွက် အနေတော်ပင်ဖြစ်၏။ ပိုလည်းမပို၊ လိုလည်း မလို ဖြစ်၏။ ကျွန်ုပ်တို့သည် နိုင်ငံအမျိုးမျိုး နယ်အမျိုးမျိုး၌ မွေးဖွားကြခြင်းမှာ ကျွန်ုပ်တို့ ပဋိသန္ဓေယူနိုင်ရန်တွင် ပြင်ပေါ်လာသည့် တုန့်ပြန်မှု အင်အားများသည် လွတ်လပ်စွာ ကြီးရင့်သီးပွင့်နိုင်ရန်အတွက် ကျွန်ုပ်တို့၏ အသက်ရှင် မှုအလျှင်က အဆိုပါ ပတ်ဝန်းကျင်များကို အလိုရှိခြင်းကြောင့်ဖြစ်၏။

အကယ်၍ ကျွန်ုပ်တို့သည် အဆင့်အတန်းပို၍မြင့်သောဘဝတို့၌ ပဋိသန္ဓေ ယူလိုကြသည်ဖြစ်မူ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျှင်အတွင်း၌ မစင်ကြယ် မှု အချိုးအစားကို လျော့ပါးသွားအောင် အားထုတ်ကြပြီးလျှင် စင်ကြယ်မှုအချိုးအစား တိုးပွားလာအောင် ကြိုးစားကြရမည်ဖြစ်၏။ ကျွန်ုပ်တို့တွင် ပဋိသန္ဓေယူစဉ် စင်ကြယ်မှု အထုအထည်ကြီးမားစွာ ပါလာခဲ့သော်လည်း ကျွန်ုပ်တို့၏ အသက်ရှင်မှု အလျှင်အတွင်း၌ ဘဝမက်မှု၊ မုန်းတီးမှု၊ မသိမှု စသည်တို့သော မစင်ကြယ်မှု အထု အထည် အတော်များများ ဆိုက်ရောက်လျှက်နေ၏။ ထိုမစင်ကြယ်မှုတို့သည် မျိုးစေ့

များဖြင့်ကြ၍ အချို့က ပေါက်ပွား၍ ပွင့်သီးကြသဖြင့် ကျွန်ုပ်တို့သည် မသာယာသော အာရုံများကို ခံစားကြရ၏။ အဆိုပါ မသာယာမှုအာရုံတို့သည် မှန်ကန်သော သိမှု၏ အကူအညီဖြင့် ဂရုစိုက်၍ ဆောလျင်စွာ ကုသလျှင် အလျှင်အမြန် ပျောက်ကွယ် သွားနိုင်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့ ခံစားရသော မသာယာမှုတို့ကို အနည်းပါးဆုံး အဖြစ်သို့ ရောက်အောင် လျော့ပါးသွားစေနိုင်၏။ အဆိုပါ မသာယာမှုမျိုးစေ့ တို့သည် အကယ်၍ လွတ်လပ်စွာကြီးပွားခွင့် ရကြသည်ဖြစ်မူ ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အတွင်းသို့ နောက်ထပ်မျိုးစေ့များ မရောက်ရောက်အောင် လုပ်ကြဦးမည်သာ ဖြစ်၏။

## မဝင်ကြွယ်မှုတို့ကို ဝင်ကြွယ်မှုတို့ဖြင့် ကြားမှဖြတ်၍တားခြင်း

တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုဟူသော မဝင်ကြွယ်မှုတို့ကို ပျောက်ပသွားစေရန် နည်းမှာ မေတ္တာစိတ်ဖွံ့ခြင်း၊ သနားကြင်နာမှုဖွံ့ခြင်း၊ သိမှုဖွံ့ခြင်းဟုဆိုအပ်သော ဝင်ကြွယ်မှုအင်အားများဖြင့် ကြားမှဖြတ်၍တားခြင်းဖြစ်၏။ မေတ္တာစိတ်ဖွံ့ခြင်းသည် တပ်မက်မှုကို ပျောက်ပစေနိုင်၏။ သနားကြင်နာစိတ်ဖွံ့ခြင်းသည် မုန်းတီးမှုကို ပျောက်ပစေနိုင်၏။ သိမှုဖွံ့ခြင်းသည် မသိမှုကို ပျောက်ပစေနိုင်၏။ တပ်မက်မှုနှင့် မုန်းတီးမှုတို့သည် မသိမှုမှ တဆင့်ပွားလာသော အရာများဖြစ်၏။ မေတ္တာစိတ်ဖွံ့ခြင်းနှင့် သနားကြင်နာစိတ်ဖွံ့ခြင်းသည် သိမှုမှ တဆင့် ပွားလာသော အရာများဖြစ်၏။ ထို့ကြောင့် မဝင်ကြွယ်မှုနှင့် ဝင်ကြွယ်မှုတို့တိုက်ပွဲသည် နောက်ဆုံးတွင် မသိမှုနှင့် သိမှုတို့တိုက်ပွဲတွင် ဆုံး၏။

တပ်မက်မှု၊ မုန်းတီးမှု၊ မသိမှုဟု ဆိုအပ်သော မဝင်ကြွယ်မှုတို့သည် ကျွန်ုပ်တို့နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အတွင်း၌ အခြားသော အင်အားတို့နှင့် သမအောင် ပေါင်းစပ်နေကြသဖြင့် ထိုမဝင်ကြွယ်မှုတို့ကို အကြွင်းမဲ့ ပျောက်ပသွားအောင်လုပ်ဖို့ အင်မတန်ခဲယဉ်း၏။ အကယ်၍ ကျွန်ုပ်တို့ နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အတွင်း၌ မဝင်ကြွယ်မှုတို့သည် ကြီးမားစွာ ပွိုင်း၍ နေကြသည်ဖြစ်မူ ထိုမဝင်ကြွယ်မှုတို့ကို ခွဲခြား၍ ဘင်ဘဒေသကို ဖျောက်ဖျက်ပစ်ရန် မခဲယဉ်း။ သို့ရာတွင် ထိုမဝင်ကြွယ်မှုတို့၏ အမျိုးအစားသည် အလွန့်အလွန် လျော့ပါး၍ သွားသော အခါတွင် ထိုမဝင်ကြွယ်မှုတို့သည် အလွန်နိုင်မြဲစွာ အမြစ်တွယ်၍ နေကြ၏။ ကျွန်ုပ်တို့၏ နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အတွင်း၌ မဝင်ကြွယ်မှုတို့ အမျိုးအစား နည်းပါး

သွားလေလေ ထိုမဝင်ကြယ်မှုဟို့သည် အမြင်နိုင်မသလောလေလေဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် အမှိုးအစားအင်မတန်နည်းပါး၍နေသော မဝင်ကြယ်မှုဟို့၏ဘာဝန်မှာ သတ္တဝါတို့အား ရုပ်ပါက်ဌ ဘဝတွင် ချည်နှောင်ထားကြဖို့ဖြင်သောကြောင့်ဖြစ်၏။

မဝင်ကြယ်မှုဟို့သည် အဆိုပါနည်းအတိုင်း အင်အား အင်မတန်နည်းပါးနေသည့်အခါ၌ပင် မိမိတို့နာမ်ပါက်အတွင်း၌ မဝင်ကြယ်မှုတို့ကို အကြွင်းမဲ့ပျောက်ကွယ်သွားအောင် လုပ်လိုသူတို့အတွက် ဆေးနည်းမှာ သိမှုအဆိအနှင်အင်အားတို့ကို မျှားနိုင်သမျှ များအောင်အသုံးပြုခြင်းဖြစ်၏။ ဤနည်းဖြင့် မဝင်ကြယ်မှုဟို့၏ချည်နှောင်မှုအင်အားသည် လုံးဝပျက်ပြယ်သွားသော အခြေသို့ ရောက်နိုင်၏။

## ပြည့်ဝသော သိမှု

မေတ္တာပိဿဌမှုသည် ဘဝိမက်မှု အညစ်အကြေးတို့၏ ချည်နှောင်မှုအင်အားကို ပျောက်ပသွားစေနိုင်၏။ သနားကြင်နာပိဿဌမှုသည် မုန်းတီးမှုအညစ်အကြေးတို့၏ ချည်နှောင်မှုအင်အားတို့ကို ပျောက်ပသွားစေနိုင်၏။ သိမှုသည် မသိမှုအညစ်အကြေး၏ ချည်နှောင်မှုအင်အားတို့ကို ပျောက်ပသွားစေနိုင်၏။ မသိမှု၏ ချည်နှောင်မှုအင်အားကျိုးပေါက်သွားသောအချိန်တွင် အသက်ရှင်မှုအလျင်သည် အကြီးကျယ်ဆုံးသော အောင်မြင်မှုကိုရ၏။ ထိုအခါတွင် အသက်ရှင်မှုအလျင်သည် မဝင်ကြယ်မှုအင်အားအားလုံးမှ အကြွင်းမဲ့ကင်းလွတ်သွားပြီးလျှင် ပြည့်ဝသော သိမှုရှိသော (အရဟတ်) ဘဝသို့ ရောက်၏။

မဝင်ကြယ်မှုအင်အား၏ နောက်ဆုံးဖြစ်သော ချည်နှောင်မှုသည် အမြဲတန်းတိုးပွား၍နေသော ဝင်ကြယ်မှုအင်အား၏ ဒဏ်ကြောင့် ကျိုးပြတ်သွားသောအခါတွင် နာမ်ပါက်၏ ဝင်ကြယ်မှုအင်အားသည် အလွန့်အလွန်တိုးပွား၍ အလွန့်အလွန်ဘန်ခိုးကြီးလာသဖြင့် အသက်ရှင်မှုအလျင်အတွင်း၌ နောက်ဆုံးအကြွင်းအကျန်ဖြစ်သော မဝင်ကြယ်မှုဟို့သည် ဝင်ကြယ်မှုမိုးသောက်အတွင်း၌ ပြောကျ၍သွား၏။ အဆိုပါအသက်ရှင်မှုအလျင်မျိုးထဲတွင် အဘယ်မည်သော မဝင်ကြယ်မှုအရိပ်အရောင်အကြွင်းအကျန်သည်မျှ မနေနိုင်။ မဝင်ကြယ်မှုအကြွင်းအကျန်အခြေခံမရှိသဖြင့် မဝင်ကြယ်မှုမျိုးစေ့အသင်တို့သည် မဖြင့်ပေါ်နိုင်တော့သောကြောင့် အသက်ရှင်မှုအလျင်သည် မိမိဆောင်ယူလာခဲ့သော မဝင်ကြယ်မှုအင်အားများမှ သာမတုဘ်ဘဲ အနာဂတ်တွင်ဖြင့်ပေါ်မည့် မဝင်ကြယ်မှုမျိုးစေ့များဖြင့်ပေါ်ခြင်းမှလည်း အပြီးတိုင်လွတ်ကင်းသွား၏။

## နိဗ္ဗာန်

ဤနည်းဖြင့် စင်ကြယ်၍သွားသော အသက်ရှင်မှုအလျှင်ရှိကြသော နာမ်ဓါတ်တို့တွင် စင်ကြယ်မှုအင်အားတို့သည် ပြည့်လျှံ၍ လာကြ၏။ အဘယ်၍ ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် အဆိုပါ အခြေအနေမျိုးသို့ ရောက်ရှိလာအောင် လုပ်ခဲ့ကြသည် ဖြစ်မူ၊ ကျွန်ုပ်တို့သည် ထိုအခြေအနေ၌ အချိန်ကာလအပိုင်းအခြားမရှိ ဆက်၍ နေနိုင်ကြမည်ဖြစ်၏။ ထိုအခါတွင် မသာယာမှုနှင့် ဆင်းရဲမှုတို့ဖြင့် ပေါ်ရသော အကြောင်းများသည် မရှိကြတော့ပြီဖြစ်သဖြင့် ကျွန်ုပ်တို့တွင် မသာယာမှုနှင့် ဆင်းရဲမှုတို့ လုံးဝရှိကြတော့မည်မဟုတ်။ ထို့ပြင် အဆင့်အတန်းနိမ့်သော ဘဝ၌ နောက်ထပ် ပဋိသန္ဓေယူရမည့် ဘေးလည်း ရှိတော့မည်မဟုတ်။ အဘယ့်ကြောင့် ဆိုသော် ထိုအခါတွင် အဆင့်အတန်းနိမ့်သော ဘဝသို့ဆွဲချမည့် မစင်ကြယ်မှုတို့သည် ဖြစ်ပေါ်နိုင်ကြတော့မည်မဟုတ်သော ကြောင့်ဖြစ်၏။ ထိုအခါတွင် ကျွန်ုပ်တို့သည် မကောင်းမှုတို့ကိုလည်း ကျူးလွန်ကြတော့မည်မဟုတ်သည့်ပြင် စင်ကြယ်မှုအင်အားတို့ကိုလည်း ဆည်းပူးဘို့ လိုတော့မည် မဟုတ်တော့။

အဆိုပါဘဝသည် မစင်ကြယ်မှုတို့ ကင်းစင်သော ဘဝဖြစ်၏။ ထို့ကြောင့် ထိုဘဝသည် မသာယာမှုနှင့် ဆင်းရဲမှုတို့ ကင်းစင်သော ဘဝဖြစ်၏။ ထိုဘဝသည် စင်ကြယ်မှုပြည့်လျှံနေသော ဘဝဖြစ်၏။ ထို့ကြောင့် ယင်းဘဝသည် ချမ်းသာမှုအများဆုံးရသော ဘဝဖြစ်၏။ ထိုဘဝတွင် အတန်းအစားခွဲခြားမှုမရှိ။ ထိုဘဝတွင် သခင်လည်းမရှိ။ ကျွန်လည်း မရှိ။ ကံကောင်းသူလည်း မရှိ။ ကံဆိုးသူလည်း မရှိ။ ထိုဘဝကို ရကြသူမှန်သမျှသည် သခင်နှင့် ကံကောင်းသူချည်းဖြစ်ကြ၏။ ထိုဘဝကို ရကြသူမှန်သမျှသည် အရာရာတွင် ညီမျှကြ၍ သူတို့၏ ချမ်းသာမှုသည်လည်း တညီတည်းဖြစ်၏။ ထိုတည်ငြိမ်သော ဘဝသည် ဘဝ၏ အထွဋ်အထိပ်ဖြစ်၏။ ထိုဘဝသည် ဘဝ၏ အထွဋ်အထိပ်ပေါ်တွင်ရှိသော ငြိမ်းချမ်းသော ကုန်းပြင်ဖြစ်၏။ ထိုဘဝမှ မည်သူသည်မျှ အပြစ်အမျိုးမျိုး ပြောင်းလဲခြင်းရှိသော အဆင့်အတန်းနိမ့်သော အောက်ဘဝသို့ ပြန်၍ မကျတော့။ ထိုဘဝသည် အမြဲတန်း အပွင့်ပွင့်၍ နေသော ဘဝနှင့် နာမ်ဓါတ်တို့၏ ပန်းပွင့် နိဗ္ဗာန် ဘဝဖြစ်၏။

## အခန်း ၆

## ရုပ်ဓါတ်၌ သတ္တဝါဖြစ်ပေါ်ပုံ

ပြီးခဲ့သော အခန်း ငါးခန်းကို လေ့လာခဲ့ကြရပြီဖြစ်သဖြင့် သတ္တဝါတို့ မည်ကဲ့သို့ ဖြစ်ပေါ်ကြပုံနှင့် စကြဝဠာ၏ အကြောင်းကို ဆက်၍စစ်ဆေးကြကုန်အံ့။ ကျွန်ုပ်တို့သည် စကြဝဠာအတွင်း၌ နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့ ပေါင်းစပ်ထားသော သတ္တဝါတို့အကြောင်းကို ဆိုခဲ့ပြီ။ ယခုအခါတွင် အဆိုပါ သတ္တဝါတို့က ရုပ်ဓါတ်၌ စကြဝဠာကြီးကို မည်ကဲ့သို့ဖြစ်ပေါ်စေကြသည့်အကြောင်းကို ကြည့်ရှုကြကုန်အံ့။

ကျွန်ုပ်တို့သည် မြေဓါတ် ( ပထဝီ )၊ မီးဓါတ် ( တေဇော )၊ ရေဓါတ် ( အာပေါ ) နှင့် လေဓါတ် ( ဝါယော ) ဟု ဆိုအပ်သော မဟာဘုတ်ဓါတ်ကြီး လေးပါးကို ဖြစ်ပေါ်လာအောင်လည်း မလုပ်နိုင်။ ပျောက်ပျက်သွားအောင်လည်း မလုပ်နိုင်။ ကျွန်ုပ်တို့သည် ရုပ်ဓါတ်၌ အရာဝတ္ထုများကိုသာ ဖြစ်ပေါ်လာအောင် လုပ်နိုင်၍ ရုပ်ဓါတ်၌ အရာဝတ္ထုများကိုသာလျှင် ပျောက်ပျက်အောင် လုပ်နိုင်၏။ သို့ရာတွင် မည်သည့် အင်အားကသည်မျှ စကြဝဠာအတွင်း၌ မဟာဘုတ်ဓါတ်အသစ်တို့ကို နောက်ထပ် ဖြစ်ပေါ်လာအောင်လည်း မလုပ်နိုင်။ ၎င်းပြီးသား မဟာဘုတ်ဓါတ်တို့ကိုလည်း ပျောက်ပျက်သွားအောင် မလုပ်နိုင်။ ဤအခြေခံ အမှန်သဘောကို သဘောပေါက်ဖို့ လို၏။

## အရာဝတ္ထုတို့ ဖြစ်ပေါ်ခြင်းနှင့်ပျက်စီးခြင်း

ဥဒါဟရုဏ်ဆိုသော် ကျွန်ုပ်တို့သည် ပျဉ်ကို ပျဉ်စများကို လျှောက်ပတ်စွာ ပေါင်းခြင်းအားဖြင့် စားပွဲခုံတခုကို ဖြစ်ပေါ်လာစေနိုင်၏။ အရာဝတ္ထုဟု ဆိုအပ်သော စားပွဲခုံသည် ကျွန်ုပ်တို့ ပြုလုပ်၍ ဖြစ်လာသော အရာဝတ္ထုတခု ဖြစ်သည်မှာ မှန်၏။ သို့ရာတွင် သစ်ပင်ကို ခုတ်ဖြတ်၍ ကျွန်ုပ်တို့၏ အလုပ်ခွင်သို့ ယူဆောင်လာခြင်းမှတပါး ကျွန်ုပ်တို့သည် သစ်သားဖြစ်ပေါ်လာအောင် မလုပ်နိုင်ကြ။ ဝင်စမ်းအားဖြင့် သစ်သားကို ဖြစ်ပေါ်စေသောအရာမှာ သစ်ပင်သာလျှင် ဖြစ်၏။ သစ်ပင်ကိုယ်တိုင်ကလည်း ဘာမျှမရှိဘဲနှင့် သစ်သားကို ဖြစ်ပေါ်ခဲ့စေခြင်းမဟုတ်။ သစ်ပင်သည် မိမိ၏ ပတ်ဝန်းကျင်မှ မဟာဘုတ်ဓါတ်များကို

စုပ်ယူခြင်းဖြင့် မြေဓါတ်၊ ရေဓါတ်၊ လေဓါတ်နှင့် မီးဓါတ် လုံလောက်စွာရ၏။ ထို့ကြောင့် မြေဓါတ်၊ ရေဓါတ်၊ လေဓါတ်နှင့် မီးဓါတ်တို့က သစ်သားကို ဖြစ်ပေါ်စေသည်ဟု ဆိုနိုင်၏။ သစ်ပင်က မိမိ၏ ပိုင်နက်အတွင်းသို့ ရောက်လာသော မဟာဘုတ်ဓါတ်များကို သစ်သားဖြစ်၍လာစေရန် လျောက်ပတ်သော အစဉ်၊ လျောက်ပတ်သော အချိုးအစားနှင့် စုပေါင်းပေးခြင်းသာဖြစ်၏။

ထို့ကြောင့် မဟာဘုတ်ဓါတ်ကြီးလေးခုအပေါ်က ကျွန်ုပ်တို့ စားပွဲခုံလုပ်သော သစ်သားဖြစ်ပေါ်လာစေရန် လိုသော ပစ္စည်းရင်းများကို ပေး၏။ ကျွန်ုပ်တို့ လုပ်သော စားပွဲခုံကို ဖျက်ဆီး၍ပင် နိုင်၏။ ဘနည်းဆိုသော် ထိုစားပွဲခုံကို သူ့ဟာသူ ပစ်၍ထားသည့်တိုင်အောင်ပင် ထိုစားပွဲခုံသည် တဖြည်းဖြည်းခြင်းနှင့် ဆွေး၍ ပျောက်ကွယ်သွားမည်သာဖြစ်၏။ ကျွန်ုပ်တို့ပြုလုပ်သော စားပွဲသည် ဆွေး၍ ပျောက်ကွယ်သွားမည်ဖြစ်သော်လည်း ထိုစားပွဲခုံ၏ သစ်သားထဲ၌ရှိသော မဟာဘုတ်ဓါတ်တို့သည် ဆွေးမြေ့ပျက်စီးပြီးလျှင် စကြာဝဠာမှ အကြွင်းမဲ့ ပျောက်ကွယ်၍ သွားလိမ့်မည် မဟုတ်။ သစ်သားထဲတွင်ရှိသော မဟာဘုတ်ဓါတ်အသီးသီးသည် ကျွန်ုပ်တို့ မျက်စေ့အောက်မှ ပျောက်ကွယ်သွားပြန်ဖြစ်သော်လည်း ထိုဓါတ်တို့သည် ပကတိအတိုင်းသာလျှင် စကြာဝဠာအတွင်း၌ ဆက်၍ရှိနေကြလိမ့်မည်သာ ဖြစ်၏။ စားပွဲခုံသည် ဆွေးမြေ့၍ ကျွန်ုပ်တို့ မျက်စေ့အောက်မှ ပျောက်ကွယ်သွားသောအခါတွင် သစ်သားထဲ၌ ရှိသောမဟာဘုတ်ဓါတ်တို့သည် နီးကပ်လျက်ရှိသော၊ လေထုကဲ့သို့သော နေရာသစ်သို့ ပြောင်းရွှေ့၍သွားကြ၏။ အကယ်၍ ကျွန်ုပ်တို့သည် စားပွဲခုံကို မီးနှင့် ရှို့၍ ပစ်ကြမည်ဆိုသည့်တိုင်အောင်ပင် အထက်ပါနည်းအတိုင်းပင် ဖြစ်လိမ့်မည်ဖြစ်၏။ ဘနည်းဆိုသော် စားပွဲခုံ၏ သစ်သားထဲ၌ရှိသော မဟာဘုတ်ဓါတ်တို့သည် သစ်သားအဖြစ်နှင့် စုပေါင်း၍မနေကြတော့ဘဲ ပတ်ဝန်းကျင် အရာဝတ္ထုများအတွင်းသို့ ပြောင်းရွှေ့သွားကြမည်ဖြစ်၏။ ယေဘုယျအားဖြင့် မဟာဘုတ်ဓါတ်တို့သည် သစ်ပင်၏ ပိုင်နက်အတွင်းသို့ မိမိတို့မရောက်ခင်က စုပေါင်း၍ နေခဲ့ရာ အရာဝတ္ထုများအတွင်းသို့ ပြန်၍ ရောက်သွားကြမည်ဖြစ်၏။

## ပျက်စီးခြင်းသည် ဖြစ်ပေါ်ခြင်းနောက်မှ လိုက်ခြင်း

စကြာဝဠာအတွင်း၌ အရာဝတ္ထုတို့ဖြစ်ပေါ်လာပုံနှစ်နည်းရှိ၏။ ပထမနည်းမှာ အရာဝတ္ထုတို့ကို လူသားတို့က သို့မဟုတ် တိရစ္ဆာန်တို့၊ ပိုးမွှားတို့စသော အခြားသတ္တဝါများက ဖြစ်ပေါ်လာအောင် လုပ်ခြင်းဖြစ်၏။ ဒုတိယ

နည်းမှာ အရာဝတ္ထုတို့သည် မိမိတို့ဟာ မိမိတို့ အလိုအလျောက်ဖြစ်ပေါ်လာကြခြင်း ဖြစ်၏။ လူသားတို့က မိမိတို့၏ နေအိမ်များ လက်နက်ကိရိယာများကို လုပ်၏။ ထို နည်းအတူပင် တိရစ္ဆာန်တို့ ပိုးမွှားတို့က ရုပ်ဝတ္ထုအမျိုးမျိုးကို လုပ်ကြ၏။ ဥပမာ ဆိုသော် ခြများ ပျားများက မိမိတို့ နေထိုင်ရန်နှင့် ပစ္စည်းသိုမှီးရန် နေရာ များကို စံနစ်တကျလုပ်ကြ၏။ လူသားတို့ လုပ်သမျှ အရာများကို လူသားတို့က ဖျက်ဆီး ပစ်နိုင်၏။ တိရစ္ဆာန်နှင့် ပိုးမွှားတို့ကလည်း အခွင့်အခါရမည်ဆိုလျှင် လူသားတို့ လုပ်ထားသမျှ အရာတို့ကို ဖျက်ဆီးပစ်နိုင်၏။ အကယ်၍ လူသားတို့ပြုလုပ်ထားသော အရာတို့သည် လူသားတို့၏ ရန်ကြောင့်၎င်း၊ တိရစ္ဆာန်တို့၊ ပိုးမွှားတို့၏ ရန်ကြောင့် ၎င်း၊ ပျက်စီးခြင်း မရှိသည့်ပင်ဖြစ်စေကာမူ အချိန်ကာလ လျောက်ပတ်စွာ ရှည် ကြာသောအခါတွင် သဘာဝအကြောင်းတရားတို့၏ ဒဏ်ကြောင့် ပျက်စီးရမည်သာ ဖြစ်၏။

ထိုနည်းအတူပင် အခြားသတ္တဝါတို့ ပြုလုပ်ထားသော အရာဝတ္ထုအသီးသီး တို့သည် ပျက်စီးကြရမည်သာဖြစ်၏။ လူသားတို့က ခြတောင်ပို့နှင့် ပျားအုံကို ဖျက်ဆီး ချင် ဖျက်ဆီးကြလိမ့်မည်။ ထိုသို့မဟုတ်လျှင်လည်း အခြားသတ္တဝါတို့က ဖျက်ဆီးကြလိမ့်မည်။ အကယ်၍ မည်သည့်သတ္တဝါကမျှ မဖျက်ဆီးသည့်တိုင် အောင်ပင် အချိန်တန် သောအခါတွင် ရာသီဥတုအခြေအနေကြောင့် ပျက်စီးကြရမည်သာဖြစ်၏။ စကြာဝဠာအတွင်း၌ လူသားတို့ ပြုလုပ်သော အရာဝတ္ထုတို့နှင့် အခြားသတ္တဝါတို့ပြုလုပ်သော အရာဝတ္ထု တို့သည် ပျက်စီးခြင်းဟု ဆိုအပ်သော ယေဘုယျလမ်းသို့ မရှောင်မလွဲ ရောက် ကြရမည်သာ ဖြစ်၏။

## အရာဝတ္ထုတို့ကို ပြုလုပ်ခြင်း၏ အကျိုးသက်နှစ်ခု

ဘျူနိုဝ်တို့ ပြုလုပ်သမျှတို့သည် စကြာဝဠာအား အကျိုးနှစ်မျိုးကို ဖြစ်စေ၏။ ဘျူနိုဝ်တို့က စာပွဲခုံကို ပြုလုပ်ကြသောအခါတွင် သစ်ပင်သည် သစ်သားကို ဆုံးရှုံးရ၏။ ထို့ကြောင့် စာပွဲခုံကို ပြုလုပ်သောအခါတွင် အကျိုးနှစ်ခု ပေါ်လာ၏။ ပထမ အကျိုး မှာ စကြာဝဠာအတွင်း၌ စာပွဲခုံဟု ဆိုအပ်သော အရာဝတ္ထုတခု တိုးလာခြင်း ဖြစ်၏။ ဒုတိယ အကျိုးမှာ စာပွဲခုံလုပ်သည့်အတွက် စကြာဝဠာအတွင်း၌ ရှိနေ ရင်းဖြစ်သော သစ်ပင်မှ သစ်သားဟု ဆိုအပ်သော အရာဝတ္ထုတခု လျော့သွားခြင်း ဖြစ်၏။ တနည်းဆိုသော် ဘျူနိုဝ်တို့က စာပွဲခုံကို ပြုလုပ်လိုက်သဖြင့် တနေရာတွင် စကြာ ဝဠာအတွင်း၌ စာပွဲခုံတခုတိုးလာ၍ တနေရာတွင် သစ်ပင်မှ သစ်သားတခု လျော့ သွား၏။ ဘျူနိုဝ်တို့က စာပွဲခုံပြုလုပ်ခြင်းဟူသော အမှုတွင် အကျိုးနှစ်ခုရှိ၏။

မိမိ၏ ဒြဗ်အတွင်းမှ ရုံ့ကိုဟူး၍ အုတ်လုပ်သော သူတယောက်သည် မိမိ၏ ပြုလုပ်မှု၏ အကျိုးနှင့်ခုဂ် မိမိမျက်စေ့အောက်တွင် တွေ့နိုင်၏။ အုတ်တချပ်တချပ် ပြုလုပ်တိုင်းပြုလုပ်တိုင်း အုတ်လုပ်သမား၏ ဒြဗ်တွင်းက မြေတွင်းကြီးသည် ကျယ်၍ကျယ်၍ လာ၏။ အကယ်၍ ထိုသူသည် အုပ်ချပ်ပေါင်း မြောက်မြားစွာကို ပြုလုပ်မည်ဆိုလျှင် ထိုသူ၌ ကြီးမားသော အုတ်ပုံကြီးသာ ရလိမ့်မည်မဟုတ်ဘဲ သူ၏ ဒြဗ်ထဲ၌ ကြီးမားသော တွင်းကြီးသည်လည်း ပေါ်လာလိမ့်မည်ဖြစ်၏။ ထိုအုတ်လုပ်သမားသည် အုတ်ချပ် အမြောက်အများတို့သာ အလိုရှိ၍ သူ၏ ဒြဗ်ထဲ၌ မြေတွင်းကြီးဖြစ်လာသည်ကို အလိုရှိ လိမ့်မည်မဟုတ်ဟု ယူဆကြအံ့။ သို့ရာတွင် ထိုသူသည် သူ၏ ဒြဗ်ထဲ၌ မြေတွင်းကြီးတခု မဖြစ်စေဘဲနှင့် အုတ်များကို ပြုလုပ်နိုင်လိမ့်မည်မဟုတ်။ ထိုအုတ်လုပ်သမားတွင် အုတ်များဟူသော အရာဝတ္ထုဟုခုတည်းကိုသာ အလိုရှိ၏။ သို့ရာတွင် ထိုအုတ်လုပ်သမား သည် သူ့ဒြဗ်ထဲ၌ တွင်းကြီးဖြစ်ပေါ်လာခြင်းဟူသော အခြားသောအရာဝတ္ထုကို မဖြစ် စေဘဲနှင့် သူ၏ လိုရင်းအရာဝတ္ထုကို ရနိုင်လိမ့်မည်မဟုတ်။

အရာဝတ္ထုတို့ကို တနေရာရာတွင် ပုံလိုက်ခြင်းသည် အခြားတနေ ရာရာတွင် ဟင်းလင်းပြင်ဖြစ်စေခြင်း အကြောင်းဖြစ်၏။ ထို့ကြောင့် ကျွန်ုပ် တို့သည် အရာဝတ္ထုအမျိုးမျိုးကို ပြုလုပ်ကြသောအခါတွင် ကျွန်ုပ်တို့သည် အရာဝတ္ထုတို့နှင့် ဖီလာဖြစ်သော အကျိုးတို့ကိုလည်း ဖြစ်စေ၏။ ထိုအုတ်လုပ်သမား၏ ဒြဗ်တွင်းက မြေတွင်းကြီးသည် လျောက်ပတ်စွာ အချိန်ကြာသောအခါတွင် သူပြုလုပ်ထားသော အုတ်ချပ်များ၏ နည်းတူ ပျောက်ကွယ်သွားရမည်သာ ဖြစ်၏။ ထို့ကြောင့် အမြဲတန်း မှန်ကန်၍ မပြောင်းလဲနိုင်သော သဘောတရားတခုရှိ၏။ ထိုသဘောတရားသည် ကား အခြားမဟုတ်။ ပြုလုပ်ထားသမျှ သို့မဟုတ် ဖြစ်ပေါ်ခဲ့သမျှသော အရာဝတ္ထု တို့သည် အမြဲတန်း ပျက်စီးခြင်း သို့မဟုတ် ကွဲပျက်ခြင်း သဘောတရားရှိခြင်း ဖြစ်၏။

## အစရှိသော အခြင်းအရာနှင့် အစမရှိသော
## အခြင်းအရာ

ကျွန်ုပ်တို့၏ ရုပ်ဝါဒကောင်ဟု ဆိုအပ်သော ကိုယ်ခန္ဓာသည် အဆင့်အမျိုး မျိုးဖြင့် ဖြစ်ပေါ်လာ၏။ ထိုကဲ့သို့ ဖြစ်ပေါ်လာခြင်းအကြောင်း ကြောင့်ပင်လျှင် ထိုကိုယ်ခန္ဓာသည် အဆင့်ဆင့် ပျက်စီးခြင်း၏ အကြောင်းဖြစ်၏။ ကျွန်ုပ်တို့သည်

ဤရူပဓာတ်ရှိ ဘဝ၌ ပဋိသန္ဓေယူလာကြခြင်းသည်ပင် ကျွန်ုပ်တို့သည် အနှေးနှင့် အမြန်အားဖြင့် ဤရူပဓာတ်ရှိ ဘဝမှ သေကြရန်အကြောင်းဖြစ်၏။ အစတိုင်းအစတိုင်းသည် အဆုံးနှင့် ခိုင်မြဲစွာ တွဲလျက်ရှိ၏။ လူသတ္တဝါတို့သည် မွေးခြင်းနှင့် ကြုံ၏။ ထို့ကြောင့် သူတို့သည် သေခြင်းနှင့် ဆုံးကြ၏။ ဤကမ္ဘာ မြေကြီးနှင့် ဤစကြဝဠာတို့တွင် အစသည် ရှိ၏။ ထို့ကြောင့် ၎င်းတို့တွင် အဆုံး ရှိကြရမည်သာဖြစ်၏။ အစရှိသော အရာမှန်သမျှတို့သည် ရုပ်ဓာတ်ရှိ အရာဝတ္ထုပင်ဖြစ်စေ၊ ရုပ်ဓာတ်ရှိသတ္တဝါပင်ဖြစ်စေ အမြဲတမ်း အဆုံးနှင့် တွဲလျက်ရှိကြ၏။ မည်မျှလောက် အစွမ်းရှိသော သတ္တဝါတို့သည်မျှ ဤစကြဝဠာ၏ ဖြစ်ပျက်သဘောတရားကို ပြောင်းလဲခြင်းငှါ မတတ်ကောင်း။

စကြဝဠာအတွင်း၌ အစမရှိဘဲ တည်နေသော အရာများလည်း ရှိသေး၏။ အစမရှိသောအရာတို့တွင် အဆုံးမရှိနိုင်။ ထိုအရာတို့သည် မည်သည့်အခါမျှ ဖြစ်ခြင်းမရှိ။ ထို့ကြောင့် ထိုအရာတို့သည် မည်သည့်အခါမျှ မဖြစ်ခြင်းဟူ၍လည်း မရှိ။ ထိုအရာတို့သည် စကြဝဠာ၏ ရေတွက်ပိုင်းခြား၍ မရသော ဂုဏ်များဖြစ်၏။ ထိုအရာတို့အထဲတွင် မြေဓာတ်၊ ရေဓာတ်၊ လေဓာတ်နှင့် မီးဓာတ်ဟု ဆိုအပ်သော မဟာဘုတ်ဓာတ်ကြီး လေးခု ပါဝင်၏။ မဟာဘုတ်ဓာတ်တို့သည် ပြုလုပ်၍ ပေါ်လာကြသည် မဟုတ်။ မည်သည့်အခါမျှလည်း ပြုလုပ်၍ သို့မဟုတ် ဖြစ်ပေါ်စေ၍မရ။ ထို့ကြောင့် မဟာဘုတ်ဓာတ်များကို မည်သည့်အခါတွင်မျှ ဖျက်ဆီး၍မရသည့်ပြင် ထိုဓာတ်များသည် မိမိတို့အလိုအလျောက်လည်း မည်သည့်အခါတွင်မျှ ပျက်စီးခြင်း ကွဲပျက်ခြင်းဖြစ်လိမ့်မည် မဟုတ်။

မဟာဘုတ်ဓာတ်ကြီး လေးခုသည် ထပ်တလဲလဲဖြစ်ပေါ်မှုစက်ဝန်းသဘောအရ အခါခပ်သိမ်းတည်နေကြ၏။ ထိုဓာတ်ကြီး လေးခုတို့သည် အတိတ်ကလည်း တည်ရှိနေခဲ့၍ ယခု ပစ္စုပ္ပန်၌လည်း တည်နေဆဲဖြစ်ကြပြီးလျှင် အပိုင်းအခြားမရှိသော အနာဂတ်တွင်လည်း တည်ရှိနေကြမည်ဖြစ်၏။ ထိုဓာတ်ကြီးတို့သည် မပျက်စီးနိုင်။ အဘယ့်ကြောင့်ဆိုသော် ထိုဓာတ်ကြီးတို့သည် ပြုလုပ်ဖန်တီး၍ ဖြစ်ပေါ်လာသော အရာများမဟုတ်သောကြောင့် ဖြစ်၏။ ထိုဓာတ်ကြီးတို့၏ တည်နေခြင်းသည် အဆုံးသို့ ရောက်လိမ့်မည် မဟုတ်။ အဘယ့်ကြောင့်ဆိုသော် ထိုဓာတ်ကြီးတို့၏ တည်နေခြင်းတွင် မစမရှိသောကြောင့်ဖြစ်၏။ ဤအခြေအနေတို့သည် စကြဝဠာအတွင်း၌ အပိုင်းအခြားမရှိသော အခြင်းအရာအားလုံးတို့၏ ဂုဏ်ထူးများဖြစ်၏။

## မဟာဘုတ်ဓါတ်တို့ကို ဖျက်ဆီး၍ မရခြင်း

ယခုအခါတွင် မိုးရွာခြင်းသဘောကို အထိုက်အလျောက်သိကြ၏။ မိုးကောင်းကင်သည် ကမ္ဘာမြေမျက်နှာပြင်မှ မိမိစုပ်ယူသော မဟာဘုတ်ဓါတ်များဖြင့် ရေကို ဖြစ်ပေါ်စေ၏။ ထို့ပြင် မိုးကောင်းကင်သည် ရေကို ဖြစ်ပေါ်စေရန် အတွက် အခြားဂြိုလ်များနှင့်ကြယ်များမှ မဟာဘုတ်ဓါတ်အနည်းငယ်ကိုလည်း စုပ်ယူကောင်းစုပ်ယူမည်ဖြစ်၏။ မိုးကောင်းကင်သည် မဟာဘုတ်ဓါတ်များကို စုပ်ယူ၍ ထိုဓါတ်များကို ကျွန်ုပ်တို့က ရေဟု ခေါ်နေကြသည့် အရာဝတ္ထုအဖြစ်သို့ ရောက်အောင် ပြုန်၍ ပေါင်းစပ်ပေးခြင်းမှတပါး ပကတိဖြစ်သော မဟာဘုတ်ဓါတ်များ ဖြစ်ပေါ်လာအောင်မတတ်နိုင်။ မိုးကောင်းကင်မှ မိုးရေ၊ နှင်းပေါက်နှင့် နှင်းခဲများအဖြစ်နှင့် မြေကြီးပေါ်သို့ကျလာသော ရေအားလုံးတွင် မိုးကောင်းကင်က စုပ်ယူထားသော မဟာဘုတ်ဓါတ်အားလုံး ပါ၏။ ထိုဓါတ်တို့အထဲတွင် မိုးကောင်းကင်ကိုယ်တိုင်က ပြုလုပ်သော မဟာဘုတ်ဓါတ်ဟူ၍ အလျဉ်းမပါ။ ကမ္ဘာတဝန်းလုံး၌ ရေအားလုံးတွင် ပြုလုပ်၍ ဖြစ်ပေါ်လာသော မဟာဘုတ်အလျဉ်းမပါ။ မဟာဘုတ်ဓါတ်တိုင်း ဓါတ်တိုင်းသည် အမြဲထာဝရ တည်နေကြ၏။ မဟာဘုတ်ဓါတ်တို့တွင် အစလည်း မရှိ၊ အဆုံးလည်း မရှိ။ ကျွန်ုပ်တို့ တွေ့မြင်နေသမျှတို့မှာ ထိုဓါတ်တို့၏ လှည့်လည်နေမှုသာဖြစ်၏။

အခန်းနှစ် (သက်မဲ့ရုပ်ဓါတ်များအကြောင်း) တွင် ရေသည် အရာဝတ္ထုတခုသာဖြစ်ကြောင်း၊ မဟာဘုတ်ဓါတ်တခုမဟုတ်ကြောင်းကို ဆိုခဲ့ပြီ။ အရာဝတ္ထုတို့သည် ရုပ်ဓါတ်ဝတ္ထုများကဲ့သို့ပင် ပြုလုပ်၍လည်း ဖြစ်ပေါ်လာနိုင်၏။ သူတို့ဟာသူတို့ အလိုအလျောက်လည်း ဖြစ်ပေါ်လာနိုင်၏။ အရာဝတ္ထုအားလုံးသည် ရုပ်ဓါတ်ဝတ္ထုအားလုံးကဲ့သို့ပင် ပြုမူကြပြီးလျှင် ပျက်စီးခြင်း၊ သို့မဟုတ် ကွဲပျက်ခြင်းသဘောကို မလွန်ဆန်နိုင်ကြ။ ရုပ်ဓါတ်ဝတ္ထုနှင့် အရာဝတ္ထုတို့ ပျက်စီးခြင်း သို့မဟုတ် ကွဲပျက်ခြင်းကြောင့် ၎င်းတို့အထဲတွင် ပါဝင်သော မဟာဘုတ်ဓါတ်တို့ ပျက်စီးကွဲပျက်ခြင်းမဖြစ်ကြ။ ရုပ်ဓါတ်ဝတ္ထု သို့မဟုတ် အရာဝတ္ထုတို့ ပျက်စီးခြင်းမှာ ၎င်းတို့အထဲတွင် ရှိကြသော မဟာဘုတ်ဓါတ်အမျိုးမျိုးတို့ အစည်း ပြေသွားကြခြင်းသာဖြစ်၏။ ဥဒါဟရုဏ်ဆိုသော် ရေကဲ့သို့သော အရာဝတ္ထုတခု ပျက်စီးသွားသောအခါတွင် ရေထဲ၌ ပါဝင်သော မဟာဘုတ်ဓါတ်တို့သည် အခြားအရာဝတ္ထုများထဲသို့ ပြောင်းရွှေ့သွားကြ၏။ အကယ်၍

မိမိတို့နှင့် ပေါင်းစပ်ရန် အရာဝတ္ထုများ မရှိခဲ့လျှင် ထိုမဟာဘုတ်ဓါတ်တို့သည် အင်အားများအဖြစ်နှင့် မိမိတို့ဟာ မိမိတို့ တသီးတခြား နေကြ၏။ လေထုထဲတွင် ရှိသော ရေကဲ့သို့သော အရာဝတ္ထုတခု ပျက်စီးသွားသောအခါတွင် ထိုအရာဝတ္ထု ထဲတွင်ပါဝင်သော မဟာဘုတ်ဓါတ်တို့သည် လေ၊ မြေ၊ ရေ၊ မီး စသော အခြား အရာဝတ္ထုတို့နှင့် ပေါင်းစပ်သွားကြ၏။ ရေသည် ပျက်စီးသွားသောအခါ လေထုထဲမှ ထိုရေ ပျောက်ကွယ်သွားသည်ကိုသာ ကျွန်ုပ်တို့က အပေါ်ရိုက မြင်ရသော်လည်း ထိုရေ ထဲတွင်ပါဝင်သော မဟာဘုတ်ဓါတ်တို့သည် အခြားအရာဝတ္ထုများထဲတွင် ဆက်လက်၍ တည်ရှိနေကြသည်သာဖြစ်၏။ ထို့ကြောင့် ရုပ်ဓါတ်တို့ စုပေါင်းနေခြင်းကိုသာ ဖျက်ဆီးပစ်နိုင်၏။ တနည်းဆိုသော် ရေ၏ပုံသဏ္ဌာန်၊ ရေ၏ အရွယ်ပမာဏနှင့် တည်ရှိသော အရာဝတ္ထုကိုသာ ဖျက်ဆီးပစ်နိုင်၏။ ရေအတွင်း၌ ပါဝင်နေသော မဟာဘုတ်ဓါတ်များကိုမူကား ဖျက်ဆီး၍ မပစ်နိုင်။ အခြားအရာဝတ္ထုအားလုံးသည်လည်း ဤနည်းအတိုင်းပင်ဖြစ်ကြ၏။

## <u>မဟာဘုတ်ဓါတ်တို့ကို ဖြစ်ပေါ်လာအောင်ပြုလုပ်၍ မရခြင်း</u>

မဟာဘုတ်ဓါတ်တို့ကို ဖျက်ဆီးပစ်၍မရနိုင်သည့်နည်းတူ မဟာဘုတ်ဓါတ်အသစ်များဖြစ်ပေါ်လာအောင် ပြုလုပ်၍လည်းမရ။ ဥဒါဟရဏ်ဆိုသော် ကျွန်ုပ်တို့သည် မည်သည့်အရာမျှမရှိဘဲနှင့် ရေကိုပြုလုပ်၍မရ။ အကယ်၍ ကျွန်ုပ်တို့သည် ရေကို ပြုလုပ်ကြလိုသည်ဖြစ်မူ ရှေးဦးစွာ ရေဖြစ်စေနိုင်ရန် လိုအပ်သော မဟာဘုတ်ဓါတ်များ ရှိရမည်ဖြစ်၏။ အကယ်၍ ကျွန်ုပ်တို့သည် ရေဓါတ်၊ လေဓါတ်၊ မီးဓါတ်နှင့် မြေဓါတ်တို့ကို အချိုးအစားမှန်ကန်စွာ ပေါင်းစပ်လိုက်လျှင် ကျွန်ုပ်တို့က ရေဟုခေါ်နေကြသည့် အရာဝတ္ထုသည် ဖြစ်ပေါ်လာနိုင်၏။ ထိုသို့မဟုတ်မူ ရေဟုခေါ်သော အရာဝတ္ထုကို ဖြစ်ပေါ်လာအောင် ပြုလုပ်၍ ရလိမ့်မည်မဟုတ်။

ကျွန်ုပ်တို့သည် မည်သည့်အရာဝတ္ထုကိုမဆို မဟာဘုတ်ဓါတ်များကို လျှောက်ပတ်သော အချိုးအစားနှင့် ပေါင်းစပ်ပေးခြင်းဖြင့် ဖြစ်ပေါ်လာစေနိုင်၏။ တနည်းဆိုသော် ကျွန်ုပ်တို့လိုချင်သော အထည်ကို မဟာဘုတ်ဓါတ်ကြီး လေးခုဖြင့် ရက်၍ ယူနိုင်၏။ သို့ရာတွင် မဟာဘုတ်ဓါတ်ကြီး လေးခု ချည်မျှင်မရှိဘဲနှင့်မူကား ကျွန်ုပ်တို့လိုချင်သော အထည်များအနက် မည်သည့်အထည်ကိုမျှ ရက်လုပ်၍ ရလိမ့်မည်မဟုတ်။

ကျွန်ုပ်တို့သည် ရှိနေသော ချည်မျှင်များဖြင့်သာလျှင် အထည်ကို ရက်လုပ်နိုင်၏။ သို့ရာတွင် ထိုချည်မျှင်များကိုမူကား ကျွန်ုပ်တို့သည် ဖြစ်ပေါ်လာအောင် မပြုလုပ်နိုင်ကြ။ ထို့ပြင် ဖျက်ဆီး၍လည်း မပစ်နိုင်ကြ။ ကျွန်ုပ်တို့သည် မဟာဘုတ်ဓါတ်ကြီးလေးခုအဖြစ်နှင့်ရှိနေကြသည့် ချည်မျှင်များ၏ အကူအညီဖြင့် အထည်တခုဖြစ်အောင် ပေါင်းစပ်ယူကြသောအခါတွင် ထိုအထည်သည် ကျွန်ုပ်တို့ ဖန်တီးလိုက်သော အထည်ဖြစ်သည်ဟု ဆိုနိုင်ပြီးလျှင် ထိုအထည်ကိုလည်း ပိုင်ဆိုင်ခွင့်ရှိကြ၏။ သို့ရာတွင် ထိုအကြောင်းကြောင့် ထိုအထည်ထဲတွင် ပါဝင်သော ချည်မျှင်တို့သည်လည်း ကျွန်ုပ်တို့ ဖန်တီးလိုက်သော ချည်မျှင်များဖြစ်သည်ဟုမူကား ဆိုနိုင်လိမ့်မည် မဟုတ်။ ကျွန်ုပ်တို့သည် ချည်မျှင်ဖြစ်အောင်ပြုလုပ်နိုင်သည်ဟု မဆိုနိုင်သဖြင့် ချည်မျှင်များကို စုပေါင်း၍ အထည်ဖြစ်အောင် လုပ်လိုက်သည်ဆိုသော ဂုဏ်ဖြင့်သာ ရောင့်ရဲကြရမည်ဖြစ်၏။

မဟာဘုတ်ဓါတ်ကြီးလေးခုကို စုပေါင်း၍ အချိန်ကာလ အဘော်ရှည်ကြာစွာ အရာဝတ္ထုအဖြစ်နှင့် တည်နေအောင် နှောင်ဖွဲ့၍ ထားနိုင်၏။ သို့ရာတွင် ကျွန်ုပ်တို့သည် နောက်ထပ် မဟာဘုတ်ဓါတ်အသစ်များဖြစ်ပေါ်လာအောင် မူကား မလုပ်နိုင်ကြ။ ထိုမှုမက သေး ထိုမဟာဘုတ်ဓါတ်တို့သည် အရာဝတ္ထုတခုအဖြစ်နှင့် ပေါင်းစု၍ နေကြသည်ဖြစ်စေ၊ မိမိတို့တမိမိတို့ချည်း တသီးတခြားစီ နေကြသည်ဖြစ်စေ ပျောင်း နှမ်းသွားခြင်း မရှိကြ။ မဟာဘုတ်ဓါတ်ကြီးလေးခုတို့သည် ဃဘုယျအားဖြင့် အရာဝတ္ထုတခုမှ တခုသို့ ကူးပြောင်းကာ လှည့်လည် နေကြ၏။ မည်သည့် အရာဝတ္ထုထဲတွင်မျှ အမြဲတန်း မနေကြ။

<u>ရုပ်ဝတ္ထုတို့ ပျက်စီးခြင်း</u>

ဖြစ်ပေါ်စေသမျှသော ရုပ်ဝတ္ထုတို့သည်၎င်း၊ ပြုလုပ်ထားသမျှသော အရာဝတ္ထုတို့သည်၎င်း၊ ရုပ်ဓါတ်ရှိ စကြာဝဠာကိုယ်တိုင်သည်၎င်း၊ အနှေးနှင့်အမြန်အားဖြင့် ပျက်စီးရမည်သာဖြစ်၏။ ရုပ်ဝတ္ထုတို့ ပျက်စီး သောအခါတွင် ထိုရုပ်ဝတ္ထုအတွင်းတွင်ရှိသော အရာဝတ္ထုတို့၏ ပေါင်းစပ်မှုသာလျှင် ပျက်စီး၏။ ထိုရုပ်ဝတ္ထုဖြစ်စေရန် ဖွဲ့စည်းနေကြသော မဟာဘုတ်ဓါတ်တို့ကား ပျက်စီးခြင်းမရှိ။ ရုပ်ဝတ္ထုတို့ ပျက်စီးခြင်းမှာ ထိုရုပ်ဝတ္ထုတို့၏ ပုံသဏ္ဍာန်ပျက်စီးခြင်းသာဖြစ်၏။ ထိုရုပ်ဝတ္ထုတို့ဖြစ်စေရန် ဖွဲ့စည်းနေကြသော မဟာဘုတ်ဓါတ်တို့ ပျက်စီးခြင်းမဟုတ်။ စကြာဝဠာပျက်ခြင်းမှာလည်း ရုပ်ဓါတ်ရှိ စကြာဝဠာ၏ ဖွဲ့စည်းမှုပျက်စီးခြင်းသာဖြစ်၏။ ထိုစကြာဝဠာဖြစ်စေရန် ဖွဲ့စည်းနေကြသော မဟာဘုတ်ဓါတ်တို့ ပျက်စီးခြင်း မဟုတ်။

ထိုနည်းအတူပင် ကိုယ်ခန္ဓာတိုင်း ပျက်စီးရမည်ဖြစ်သည့်အတိုင်း လူသတ္တဝါတို့၏ ကိုယ်ခန္ဓာ ပျက်စီးခြင်းသည်လည်း လူသားတို့၏ ကိုယ်ခန္ဓာ အထုအထည် ပျက်စီးခြင်းသာဖြစ်၏။ ထိုကိုယ်ခန္ဓာအတွင်း၌ မဟာဘုတ်ဓာတ်များ ပျက်စီးခြင်း မဟုတ်။ အခြားသတ္တဝါတို့သည်လည်း ဤနည်းအတိုင်းပင်ဖြစ်၏။ တစုံတခု သော သတ္တဝါတို့၏ ကိုယ်ခန္ဓာ အထုအထည် ပျက်စီးခြင်းသည် ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာ အတွင်း၌ မဟာဘုတ်ဓာတ်တို့ ပျက်စီးခြင်း မဟုတ်။ ရုပ်ဝတ္ထုတို့၊ ရုပ်ဓာတ်၌ သတ္တဝါတို့၊ အရာဝတ္ထုတို့ ပျက်စီး သောအခါတွင် ၎င်းတို့အတွင်း၌ရှိ သော မဟာဘုတ်ဓာတ်အားလုံးသည် ဆက်လက်၍ တည် နေကြ၏။ ရုပ်ဝတ္ထုအသီးသီးတို့ ပျက်စီးခြင်းမှာ မဟာဘုတ်ဓာတ်တို့သည် ထိုရုပ်ဝတ္ထုတို့အတွင်းမှ အခြားရုပ်ဝတ္ထုအတွင်း သို့ ပြောင်းရွှေ့၍ အခြေစိုက်ခြင်း သို့မဟုတ် မိမိတို့ဟာ မိမိတို့ တသီးပုဂ္ဂလ တည် နေကြခြင်းဖြစ်၏။

ထို့ကြောင့် စကြာဝဠာတခုလုံးသည် မည်သည့်အခါတွင်မှ အကြွင်းမဲ့ ပျက်စီး၍မသွားနိုင်။ ယခုမျက်မှောက်စကြာဝဠာသည် တောန်ပျက်စီးရမည် မှန်သည့်အတိုင်း ပျက်စီးလိမ့်မည် ဖြစ်၏။ သို့ရာတွင် စကြာဝဠာဖြစ်ရန် ဖွဲ့စည်း နေကြ သော မဟာဘုတ်ဓာတ်တို့သည်ကား မည်သည့်အခါတွင်မှ ပျက်စီးကြလိမ့်မည်မဟုတ်။ ထိုသို့ဖြစ်ခြင်း ကြောင့် အချိန်ကာလရှည်ကြာ သောအခါတွင် ထိုစကြာဝဠာအတွင်း၌ ပါဝင် နေ သော မဟာဘုတ်ဓာတ်တို့ စုပေါင်း၍ ရုပ်ဓာတ်၌ စကြာဝဠာအသစ် စက် စက်တခုကို ဖြစ်ပေလိမ့်မည် ဖြစ်၏။ ဟင်းလင်းပြင်ဓာတ်အတွင်း၌ ရုပ်ဓာတ်၌ စကြာဝဠာအမျိုးမျိုးသည် ဖြစ်ပေါ်ကြ၏။ သို့ရာတွင် စကြာဝဠာကို ဖြစ်ပေါ် စေ သော မဟာဘုတ်ဓာတ်တို့မှာ မည်သည့်အခါတွင်မျှ မပျက်စီးဘဲ ရှိနေကြသည့် မူလ မဟာဘုတ်ဓာတ်များသာ ဖြစ်၏။ အဆိုပါ မဟာဘုတ်ဓာတ်တို့သည် အမြဲတမ်းတည်ရှိနေကြ၏။ ထို့ကြောင့် စကြာဝဠာအသစ် ဖြစ်ပေါ်ရန် အခြေခံရုပ်ဝတ္ထုတို့သည် လုံးဝ ပျက်စီးခြင်း မရှိဘဲသာ နေကြ၏။ ရုပ်ဓာတ်၌ စကြာဝဠာအသီးသီးတို့ ပြိုပျက် သော အခါတွင် မဟာဘုတ်ဓာတ်တို့သည် လွတ်လပ် သော အင်အားများအဖြစ်နှင့် ဟင်းလင်းပြင်ဓာတ်အတွင်း၌ ညီမျှစွာ ပြန့်၍ နေကြ၏။ မဟာဘုတ်ဓာတ်ကြီး လေးခုတို့၏ ပြုမူပုံကို မျက်မှောက် ခေတ် လောကဓာတ်ပညာ ဓာတ်စမ်းရုံကြီးများတွင် ထင်ရှားစွာ စမ်းသပ်၍ ကြည့်နိုင် သော်လည်း မည်သည့်မဟာဘုတ်ဓာတ်ကိုမျှ ဖျက်ဆီး၍ မရဘဲ ထိုဓာတ်**စမ်းရုံကြီး**များထဲ၌ တစုံတခု သော မဟာဘုတ်ဓာတ်အသစ်ကိုမျှလည်း ဖြစ်ပေါ်လာ အောင် လုပ်၍မရသည့်အကြောင်းကို သတ်ပြအပ်၏။ ဓာတ်စမ်းရုံကြီးများက ပြုလုပ်နိုင် သော အရာမှာ မဟာဘုတ်ဓာတ် အမျိုးမျိုး၏ ဖြပ်ပဥ်ကို ရှာ၍ ထိုမဟာဘုတ်ဓာတ်တို့၏ အတွင်းသဘောတို့ကို ထင်ရှားသည်ထက် ထင်ရှား အောင် လုပ်ပြနိုင်ခြင်း သာ ဖြစ်၏။

## မဟာဘုတ်ဓါတ်တို့ လှည့်လည်မှု

မိုးရွာခြင်းသည် မဟာဘုတ်ဓါတ်ကြီး လေးခုတို့ လှည့်လည်ခြင်းအစဉ်မှ ဖြစ်ပေါ်လာသည့်နည်းတူ မိုးဓါတ်သည်လည်း လှည့်လည်ခြင်းအစဉ်ရှိ၏။ နေသည် မိုးဓါတ်အသစ်များကို ဖြစ်ပေါ်စေသည်မဟုတ်။ နေအဘွင်းနှံ့ရှိသမျှသော မိုးဓါတ်အားလုံးသည် နေ၏ ပတ်ဝန်းကျင်မှ ရရှိသော မိုးဓါတ်များသာဖြစ်၏။ သမုဒ္ဒရာတို့သည် မိုးရေနှင့် မြစ်ရေတို့ကို ခံယူနေရင်းနှင့် ရေခိုးရေငွေ့များကိုလည်း လွှတ်၍နေကြသည့်နည်းတူ နေသည်လည်း မိမိ၏ မိုးဓါတ်များကို အဖက်ဖက်သို့ ဖြန့်ဝေပေးရင်းနှင့် မိမိထံသို့ အနီးအနားရှိ ဂြိုလ်များကြယ်များဆီမှ နောက်ထပ် မိုးဓါတ်များကို ခံယူလျက်ရှိ၏။

နေထံမှ ဤကမ္ဘာမြေကြီးပေါ်သို့ ပို့လွှတ်လိုက်သော မိုးဓါတ်အားလုံးသည် ဤကမ္ဘာမြေကြီးပေါ်မှာချည်း မှု၍မနေ။ အကယ်၍သာ စု၍နေမည်ဆိုပါလျှင် ဤကမ္ဘာမြေကြီးသည် မကြာမီပင် အလျှံပြောင်ပြောင် တောက်နေသော မီးလုံးကြီးဖြစ်သွားရာ၏။ ဤကမ္ဘာမြေကြီး၏ အပူအအေးသည် အမြဲဘန်းမှန်၍နေခြင်းကို ထောက်ထားခြင်းဖြင့် နေထံမှ မိမိဆီသို့ ရောက်လာသော မိုးဓါတ်များကို ဤကမ္ဘာမြေကြီးက အခြားဂြိုလ်များဆီသို့၎င်း၊ နေကိုယ်တိုင်ဆီသို့၎င်း၊ ပြန်၍ပို့နေကြောင်းကို သိနိုင်၏။ ဤနည်းဖြင့် မဟာဘုတ်ဓါတ်အားလုံးသည် အမြဲဘန်းလှည့်လည်နေကြ၏။ သို့ရာတွင် ထိုကဲ့သို့ လှည့်လည်နေကြစဉ်အတွင်း၌ ဂြိုလ်များသို့တိုင်အောင်၎င်း၊ ကြယ်များသို့တိုင်အောင်၎င်း၊ လှည့်လည်နေကြရသည်ဖြစ်စေကာမူ နောက်ထပ် မဟာဘုတ်ဓါတ်အသစ်များကို ဖြစ်ပေါ်စေခြင်းသည် မရှိကြ။ မိမိတို့ ကိုယ်တိုင်ပျက်စီး၍ မိမိတို့၏ အရေအတွက်ကို လျော့ပါးသွားခြင်းကိုလည်း မဖြစ်စေကြ။

## အပိုင်းအခြားမရှိသော အခြင်းအရာအစဉ်

ရုပ်ဝတ္ထုတို့ကို တည်ဆောက်နိုင်၏။ ကျွန်ုပ်တို့ ရရှိနိုင်သော လိုအပ်သော အင်အားများကို အသုံးပြုတတ်မည်ဆိုလျှင် ကျွန်ုပ်တို့သည် ဂြိုလ်အသစ်များကို သော်၎င်း၊ ကြယ်အသစ်များကို သော်၎င်း၊ မတည်ဆောက်နိုင်စရာ အကြောင်းမရှိ။ သို့ရာတွင် တည်ဆောက်ထားသော အရာမှန်သမျှသည် ပျက်စီးရမည်သာဖြစ်၏။ ကျွန်ုပ်တို့သည် မဟာဘုတ်ဓါတ်များကိုမူကား ဖြစ်ပေါ်လာအောင်လည်း မလုပ်နိုင်ကြ။ ပျက်စီး

သွားအောင်လည်း မလုပ်နိုင်ကြ။ ဤကဲ့သို့ ပြ၍ရခြင်းမှာ မဟာဘုတ်ဓါတ်များသည် တည်ဆောက်ထားသော အရာများလည်း မဟုတ်။ တည်ဆောက်၍လည်း ဖြစ်နိုင်သော အရာများလည်း မဟုတ်သောကြောင့် ဖြစ်၏။ အကယ်၍ မဟာဘုတ်ဓါတ်များသည် တည်ဆောက်ထားသော အရာများ သို့မဟုတ် တည်ဆောက်နိုင်သော အရာများ ဖြစ်မူ ၎င်းတို့ကို ဖျက်ဆီး၍ ရနိုင်မည်သာဖြစ်၏။ မဟာဘုတ်ဓါတ်များကို ဖျက်ဆီး၍မရနိုင်သော အချက်ကပင် ထိုမဟာဘုတ်ဓါတ်များသည် တည်ဆောက်ထားသော အရာများ မဟုတ်ကြကြောင်းနှင့် တည်ဆောက်၍ မဖြစ်နိုင်သော အရာများ ဖြစ်ကြောင်းကို ထင်ရှားစေ၏။

တည်ဆောက်ထားသော အရာမဟုတ်သောအရာများနှင့် တည်ဆောက်၍ မဖြစ်နိုင်သော အရာတို့သည် အစမရှိနိုင်။ အကယ်၍ အရာတခုသည် တည်ဆောက်ထားသော အရာဖြစ်မူ ထိုအရာကို တည်ဆောက်ခြင်းသည် ထိုအရာ၏ အစပင် ဖြစ်၏။ သို့မဟုတ် အကယ်၍ အရာတခုသည် တည်ဆောက်၍ ဖြစ်နိုင်သော အရာ ဖြစ်မူ ထိုသို့ဖြစ်နိုင်ခြင်းကပင် ထိုအရာတွင် အစ ရှိကြောင်းကို ဖေါ်ပြ၏။ အရာတခု၌ အစမရှိခြင်းကပင် ထိုအရာ၌ အဆုံးမရှိကြောင်းကို ဖေါ်ပြ၏။ ဤကား စကြာဝဠာ၏ အပိုင်းအခြားမရှိသော ဝမ္ဘာအခြင်းအရာဖြစ်၏။

အခန်းနှစ်တွင် ဖေါ်ပြခဲ့သော ဓါတ် ၂၈ ခုအနက် မဟာဘုတ်ဓါတ်ကြီး (မဟာဘူတ) လေးခုနှင့် အချက်အခြာဖြစ်သော ဟင်းလင်းပြင်ဓါတ် (အာကာသ ရုပ်) တို့သည်သာ အပိုင်းအခြား မရှိသော အခြေ၌ တည်နေကြကြောင်းကို သတိပြုအပ်၏။ ကျန်ဓါတ် ၂၃ ခုသည် အပိုင်းအခြား မရှိသော ဓါတ်များမဟုတ်။ ထိုဓါတ် ၂၃ ခုသည် မဟာဘုတ်ဓါတ်ကြီး လေးခုတို့ ပေါင်းစပ်မှုမှ ဖြစ်ပေါ်လာကြသော ဓါတ်ပွားများဖြစ်ကြပြီးလျှင် ၎င်းတို့သည် မဟာဘုတ်ဓါတ်ကြီး လေးခုတို့ ကွဲပြားသွားသည်နှင့်တပြိုင်နက် ပျောက်ကွယ်သွားကြ၏။ ထို့ကြောင့် အဆိုပါ ဓါတ်ပွားတို့တွင် အစနှင့်အဆုံး ရှိကြ၏။ ၎င်းတို့သည် မဟာဘုတ်ဓါတ်ကြီး လေးခုမှ ဖြစ်ပေါ်လာကြသဖြင့် ပျက်စီးခြင်းကို မလွန်ဆန်နိုင်ကြ။ မဟာဘုတ်ဓါတ်ကြီး လေးခုနှင့် ဟင်းလင်းပြင်ဓါတ်တို့သည် ဓါတ်ပွားများ မဟုတ်ကြ။ ထို့ကြောင့် ၎င်းတို့သည် မပျက်စီးနိုင်ကြ။ အချုပ်ကိုဆိုသော် အဆိုပါ ဓါတ်ကြီးငါးခုသည် အပိုင်းအခြားမရှိသော အခြင်းအရာများဖြစ်ကြပြီးလျှင် အပိုင်းအခြားမရှိသော ဂုဏ်ထူးများနှင့် ပြည့်စုံကြ၏။ ထိုဂုဏ်ထူးတို့မှာ အစမရှိခြင်း၊ ထို့ကြောင့် အဆုံးမရှိခြင်း၊ တည်ဆောက်ထားသော အရာမဟုတ်ခြင်းနှင့် ထို့ကြောင့် တည်ဆောက်၍ မရနိုင်ခြင်းတို့ ဖြစ်၏။

## နာမ်ဓါတ်တွင် အစ မရှိခြင်း

နာမ်ဓါတ်သည်လည်း အစပိုင်းအခြား မရှိသော အခြင်းအရာ ဖြစ်၏။ ပတ်ဝန်းကျင်နှင့်ပတ်သက်သော အာရုံသိမှု အင်္ဂါတို့သည် နာမ်ဓါတ်ကို မသိနိုင်ကြသဖြင့် နာမ်ဓါတ်၏ အပြုအမူကို သိနိုင်ဘို့ခက်၏။ ဥဒါဟရုဏ်ဆိုသော် နာမ်ဓါတ်ကို စမ်းသပ်ကြည့်ရန်အတွက် မျက်မှောက်ခေတ် ဓါတ်စမ်းရုံတို့သည် များစွာ အသုံးကျလိမ့်မည် မဟုတ်။ သို့ရာတွင် ကျွန်ုပ်တို့၏ နာမ်ဓါတ်ကိုယ်ကပင် ဓါတ်စမ်းရုံကြီး ဖြစ်သဖြင့် နာမ်ဓါတ်ကို စမ်းသပ်၍ ကြည့်နိုင်ကြ၏။

အစပိုင်းအခြားမရှိသော အခြင်းအရာအားလုံး၏ နည်းတူ နာမ်ဓါတ်တွင် အစမရှိ။ ထိုသို့ အစမရှိခြင်းကြောင့် နာမ်ဓါတ်တွင် အဆုံးလည်း မရှိ။ နာမ်ဓါတ်အသစ်များဖြစ်ပေါ်လာအောင် လုပ်၍မရ။ ထိုနည်းတူ ရှိနေသော နာမ်များကိုလည်း ဖျက်ဆီးပစ်၍မရ။ နာမ်ဓါတ်တို့သည် မဟာဘုတ်ဓါတ်ကြီး လေးခုနှင့် ဟင်းလင်းပြင်ဓါတ်တို့၏ နည်းတူ အစပိုင်းအခြားမရှိသော အခြင်းအရာမှ ခရီးထွက်ခဲ့ကြပြီးလျှင် မဟာဘုတ်ဓါတ်ကြီး လေးခုနှင့် ဟင်းလင်းပြင်ဓါတ်တို့၏ နည်းတူ အစပိုင်းအခြားမရှိသော အခြင်းအရာဆီသို့ ရှေ့ရှု၍ ခရီးသက် နေ၏။ မည်သည့် အင်အားတို့ကမှ နာမ်ဓါတ်များကို မတည်ဆောက်နိုင်ကြ။ မည်သည့် အင်အားတို့ကမှလည်း နာမ်ဓါတ်များကို ဖျက်ဆီးမပစ်နိုင်ကြ.

## နာမ်ဓါတ်တို့သည် ရုပ်ဓါတ်တို့နည်းတူ လှည့်လည်ကြခြင်း

မဟာဘုတ်ဓါတ်ကြီး လေးခုတို့သည် အရာဝတ္ထုတခုမှ တခုသို့ လှည့်လည်နေကြသည့်နည်းတူ နာမ်ဓါတ်တို့သည်လည်း ဘဝတခုမှ တခုသို့ လှည့်လည်နေကြ၏။ မဟာဘုတ်ဓါတ်ကြီး လေးခုတို့သည် မည်သည့်အရာဝတ္ထုထဲတွင်မျှ အမြဲတန်းမနေနိုင်ကြသည့် နည်းတူ နာမ်ဓါတ်တို့သည်လည်း မည်သည့်အရာဝတ္ထု အစုအဝေးများထဲတွင်မျှ အမြဲတန်းမနေနိုင်ကြ။ အဘယ့်ကြောင့်ဆိုသော် အရာဝတ္ထု အစုအဝေးမှန်သမျှတို့သည် အစများဖြစ်ကြပြီးလျှင် အစမှန်သမျှတို့သည် အမြဲတန်းအားဖြင့် အဆုံးနှင့်တွဲ၍ နေသောကြောင့် ဖြစ်၏။ ထို့ကြောင့် ရုပ်ဓါတ်ရှိ သတ္တဝါတို့အတွင်း၌ အခြေစိုက်၍ နေကြသော နာမ်ဓါတ်တို့သည် တခုသော ရုပ်ဓါတ်အစုအဝေးတွင် အမြဲတန်း မနေနိုင်ကြ။ အနေးနှင့်အမြန်အားဖြင့် ထိုရုပ်ဓါတ်အစုအဝေးကို စွန့်ပစ်ကြရမည်သာဖြစ်၏။

နာမ်ဓာတ်သည် မဟာဘုတ်ဓာတ်ကြီး လေးခုထဲမှ မည်သည့် မဟာဘုတ်ဓာတ်ကြီးတခုထက်မဆို အင်အားပို၍ကြီး၏။ အင်အားအပျော့ဆုံးဖြစ်သော နာမ်ဓာတ်သည်ပင်လျှင် အင်အားအကြီးဆုံးသော မဟာဘုတ်ဓာတ်ကြီးထက်ပို၍ အင်အားကြီး၏။ ဤသို့အားဖြင့် နာမ်ဓာတ်သည် စကြာဝဠာတွင်း၌ရှိသော ခပ်သိမ်းသော အပိုင်းအခြားမရှိသော အခြင်းအရာတို့၏ အချုပ်အချာ ဖြစ်၏။ နာမ်ဓာတ်သည် ထိုအချုပ်အချာအဖြစ်ကို အမြဲတန်း ထိန်းသိမ်းထား၏။ ခပ်သိမ်းသော မဟာဘုတ်ဓာတ်တို့ကို နာမ်ဓာတ်၏ အင်အားက အုပ်ထိန်းထား၏။

နာမ်ဓာတ်နှင့် ရုပ်ဓာတ်တို့၏ အဓိက ခြားနားချက်ကြီးမှာ နာမ်ဓာတ်တို့၏ အင်အားမှာ ပြောင်းလွဲခြင်းသဘော ရှိခြင်းနှင့် ရုပ်ဓာတ်တို့၏ အင်အားမှာ အမြဲတန်းမပြောင်းမလွဲဘဲ နေခြင်းဖြစ်၏။ မီးဓာတ်၊ မြေဓာတ်၊ ရေဓာတ်၊ လေဓာတ် တို့၏ အင်အားတို့သည် မမြဲတန်း တသမတ်တည်း နေကြ၏။ အချိန်ကာလသည် မဟာဘုတ်ဓာတ်တို့၏ အင်အားများကို ပြောင်းလွဲအောင် မလုပ်နိုင်။ ဤနည်းဖြင့် အချိန်ကာလ မည်မျှပင်ကြာကြာ အတိတ်မှာပင်ဖြစ်ဖြစ်၊ အနာဂတ်မှာပင်ဖြစ်ဖြစ်၊ မဟာဘုတ်ဓာတ်ကြီး လေးခုတို့၏ အင်အားများသည် ရှိမြဲတိုင်းသာ တိတိကျကျ ရှိနေကြ၏။ အချိန်ကာလသည် မဟာဘုတ်ဓာတ်ကြီးတို့၏ အင်အားကို တိုးလာအောင်လည်း မလုပ်နိုင်။ လျော့သွားအောင်လည်း မလုပ်နိုင်။

## အချိန်ကာလကြောင့် နာမ်ဓာတ်အင်အား ပြောင်းလွဲခြင်း

သို့ရာတွင် အချိန်ကာလ အလိုက် နာမ်ဓာတ်၏ အင်အားများသည် ပြောင်းလွဲခြင်း ရှိကြ၏။ နာမ်ဓာတ်၏ အင်အားတို့သည် တိုးတက်ခြင်း ဆုတ်ယုတ်ခြင်း သဘော ရှိကြ၏။ နာမ်ဓာတ်တို့သည် မိမိတို့၏ လက်ကျန်အင်အားကို ထိန်းသိမ်းထားကြ၏။ နာမ်ဓာတ်တို့၏ လက်ကျန်အင်အားသည် နာမ်ဓာတ်တခုနှင့်တခု မတူကြ။ နာမ်ဓာတ်တခုတည်းအတွင်း၌ပင် တချိန်နှင့်တချိန် မတူကြ။ ပြီးခဲ့သည့်အခန်းတွင် ဤသို့ နာမ်ဓာတ်အင်အား ပြောင်းလွဲခြင်း အကြောင်းနှင့်တကွ နာမ်ဓာတ်၏ အစဉ်နှင့် နာမ်ဓာတ်၏ တာဝန်များ အကြောင်းကို ဖော်ပြခဲ့ပြီ။ ထို့ကြောင့် ယခုအခါတွင် အဆိုပါ ပြောင်းလွဲခြင်းများက သက်ဆိုင်ရာ သတ္တဝါများနှင့် စကြာဝဠာတခုလုံးအား မည်ကဲ့သို့ အကျိုးသက်ရောက်စေသည့် အကြောင်းကို ဖော်ပြအံ့ ။

မဟာဘုတ်ဓါတ် အသီးသီးတို့တွင် တိကျ သော ပမာဏရှိ သော အင်အား ရှိကြ၏။ မီးဓါတ်တခုတွင် အပူပမာဏ အတိအကျရှိ၏။ ရေဓါတ်တခုတွင်လည်း ယိုစီးမှုပမာဏ အတိအကျရှိ၏။ မြေဓါတ်တခုတွင်လည်း လေးလန်မှုနှင့် မာကြောမှု ပမာဏ အတိအကျရှိ၏။ လေဓါတ်တခုတွင်လည်း ကျယ်ပြန့်မှုပမာဏ အတိအကျ ရှိ၏။ အကယ်၍ အရာဝတ္ထုတခုထဲတွင် ပူခြင်းပို၍ရှိသည်ဖြစ်မူ ထိုအရာဝတ္ထုထဲတွင် မီးဓါတ်များ လွန်ကဲခြင်းသဘောဖြစ်၏။ အကယ်၍ အရာဝတ္ထုတခုသည် အရည်ဖြစ်နေလျှင် ထိုအရာဝတ္ထုထဲတွင် ရေဓါတ်ပို၍ရှိနေခြင်းသဘောဖြစ်၏။ အကယ်၍ အရာဝတ္ထုတခုသည် လေးလန်၍ မာကြောသည်ဖြစ်မူ ထိုအရာဝတ္ထုထဲတွင် မြေဓါတ်ပို၍ ရှိနေခြင်းသဘောဖြစ်၏။ အကယ်၍ အရာဝတ္ထုတခုသည် ပြန့်ကျယ် သော သဘောရှိခဲ့မူ ထိုအရာဝတ္ထုထဲတွင် လေဓါတ်ပို၍ ရှိနေခြင်းသဘောဖြစ်၏။

## အရာဝတ္ထုတို့၏ အင်အားတိုးပွား စေခြင်း

မဟာဘုတ်ဓါတ်အသီးသီးအတွင်း၌ ထိုမဟာဘုတ်ဓါတ်တို့၏ အင်အားသည် တိုးပွားလာခြင်းမရှိ။ မဟာဘုတ်ဓါတ်တခုခု၏ အင်အားကို တိုးပွားလာစေလိုသည်ဖြစ်မူ အမျိုးတူသော မဟာဘုတ်ဓါတ်တို့၏ အရေအတွက်ကို များပြားစွာ စုဆောင်းပေးသော နည်းဖြင့်သာ တိုးပွားလာစေနိုင်၏။ ဤနည်းဖြင့်သာ သက်ဆိုင်ရာ ဓါတ်၏ သဘောကို တိုးပွားလာစေနိုင်၏။ အကယ်၍ အရာဝတ္ထုတခုအတွင်း၌ မီးဓါတ်များ၍ လာစေချင်သည်ဖြစ်မူ ထိုအရာဝတ္ထုထဲသို့ မဟာဘုတ်မီးဓါတ်များ ထပ်၍ဖြည့်ပေးရမည်ဖြစ်၏။ ဤသို့ဖြစ်စေရန်အတွက် ထိုအရာဝတ္ထုကို မီးပေါ်တွင် တင်ပေးရမည် ဖြစ်၏။ ဤနည်းဖြင့် ထိုအရာဝတ္ထုအား မီးတွင်ရှိသော အပူဓါတ်တို့ကို စုပ်ယူစေနိုင်၏။

အကယ်၍ အရာဝတ္ထုတခုတွင် အခြားသဘောတခုခုကို နောက်ထပ် ဖြည့်စွက်ပေးလိုသည်ဖြစ်မူ လျောက်ပတ်သောနည်းဖြင့် သက်ဆိုင်ရာ နောက်ထပ် မဟာဘုတ်ဓါတ်များကို ထည့်ပေးခြင်းနည်းကို အသုံးပြုနိုင်၏။ ထိုနည်းအတိုင်းပင် အကယ်၍ အရာဝတ္ထုတခုမှ အကျိုးသက် သဘော တခုခုကို လျော့ပါးသွားလိုသည်ဖြစ်မူ ထိုအရာဝတ္ထုထဲတွင် ရှိနေသော မဟာဘုတ်ဓါတ်အချို့ကို ထုတ်ပေးရမည်ဖြစ်၏။ ထိုသို့မဟုတ်လျှင်လည်း ထိုအရာဝတ္ထုထဲမှ နှုတ်သည့် မဟာဘုတ်ဓါတ်ကို နှုတ်၍ ထိုအရာဝတ္ထုထဲသို့ ထပ်ထည့်သည့် မဟာဘုတ်ဓါတ်ကို ထပ်ထည့်ပေးရမည်ဖြစ်၏။

## မဟာဘုတ်ပါတ်တို့၏ အကြီးဆုံးအင်အား

ထို့ကြောင့် အရာဝတ္ထုဘာခုအတွင်း၌ အကျိုးသက်ရောက်မှုသဘောများကို ဘိုးဘက်စေလိုသည် သို့မဟုတ် လျော့ပါးစေလိုသည်ဖြစ်မူ၊ ထိုသို့ဖြစ်နိုင်စေရန်အတွက် လိုအပ်သော မဟာဘုတ်ပါတ်တို့၏ အချိုးအစားကို ပြင်ပေါ် အောင်လုပ်ပေးရမည် ဖြစ်၏။ အရာဝတ္ထုတို့အတွင်း၌ မဟာဘုတ်ပါတ်တို့၏ အင်အားကို ဘိုးအောင်လုပ်ပေးခြင်း သို့မဟုတ် လျော့အောင်လုပ်ပေးခြင်းဖြင့် ထိုအရာဝတ္ထုတို့၏ အင်အားကို ပြောင်းလဲစေရန် လုပ်၍မရ။ မဟာဘုတ်ပါတ်တို့ ကိုယ်တိုင်၏ အင်အားကို ဘိုးဘက် အောင်လုပ်၍လည်းမရ၊ လျော့ပါး အောင်လုပ်၍လည်းမရ။ သို့ရာတွင် အမျိုးမျိုးသော မဟာဘုတ်ပါတ်တို့၏ အချိုးအစားကို ပြောင်းလဲပေးခြင်းဖြင့် အရာဝတ္ထုတို့၏ အင်အားကို ပြောင်းလဲပေးနိုင်၏။

အကယ်၍ ကျွန်ုပ်တို့သည် မဟာဘုတ်ပါတ်အသီးသီးတို့၏ အကြီးဆုံးဖြစ်သော အင်အားကို အလိုရှိသည်ဖြစ်မူ မဟာဘုတ်ပါတ်အသီးသီးမှ အလိုမရှိသော မဟာဘုတ်ပါတ်သုံးခုတို့ကို ဖယ်ရှားပေးသောနည်းကို အသုံးပြုနိုင်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် အသီးသီးသော မဟာဘုတ်ပါတ်တို့၏ အရောအရှက်မရှိသော အကြီးဆုံးရနိုင်သမျှသော အင်အားကိုရနိုင်၏။ သို့ရာတွင် အကယ်၍ ကျွန်ုပ်တို့သည် ထို့ထက်ကြီးသောအင်အားကို အလိုရှိမူ မဟာဘုတ်ပါတ်တို့ကို များပြားလာအောင် လုပ်ပေးသောနည်းကို အသုံးပြုနိုင်၏။

ဘနည်းဆိုသော် ကျွန်ုပ်တို့သည် ခင်ကြယ်သော မိးပါတ်နှစ်ခုကို ပေါင်းစပ်ပေးသောအခါတွင် မိးပါတ်ဘခုထက် နှစ်ဆပို၍ အင်အားကြီးသော အင်အားအကြီးဆုံးဖြစ်သော မိးပါတ်ကို ရနိုင်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် မိးပါတ်ဘသန်းကို စုပေါင်း၍ ထိုအထဲမှ အခြားမဟာဘုတ်ပါတ်များကို ဖယ်ရှားပေးသောအခါတွင် မိးပါတ်ဘသန်းနှင့်ညီမျှသော အကြီးဆုံးဖြစ်သော ပူခြင်းကို ရနိုင်၏။ ကျန်မဟာဘုတ်ပါတ်သုံးခုနှင့် ပတ်သက်၍လည်း ဤနည်းအတိုင်းပင်ဖြစ်၏။

## နာမ်ပါတ်၏ အင်အားကို တွက်ချက်ခြင်း

သို့ရာတွင် ဤနည်းကို နာမ်ပါတ်များအတွက် အသုံးမပြုနိုင်။ ကျွန်ုပ်တို့သည် နာမ်ပါတ်နှစ်ခုကို ပေါင်း၍ နာမ်ပါတ်ဘခုထက် နှစ်ဆပို၍ ကြီးသော အင်အားဖြစ်ပေါ်လာအောင်လုပ်၍မရ။ ထိုနည်းအတူပင် နာမ်ပါတ်ဘသန်းကို ပေါင်း

၍ နာမ်ဂလက်တခုထက် အဆပေါင်း သိန်းကြီး သော အင်အားဖြင့် ပေါ်လာအောင်လည်း လုပ်၍မရ ။ အဘယ့်ကြောင့်ဆိုသော် နာမ်ဂလက်တို့သည် တခုနှင့်တခု အင်အားချင်း မတူကြသောကြောင့်ဖြစ်၏။ ထို့ပြင် နာမ်ဂလက်နှစ်ခုကို ပေါင်းခြင်းသည် တခုနှင့်တခု မတူညီသော နာမ်ဂလက်အင်အားခြင်းကို ပေါင်းခြင်းသာ ဖြစ်၏။ ယေဘုယျအားဖြင့် အင်အားကောင်းသော တခုတည်းသော နာမ်ဂလက်၏ အင်အားသည် အင်အားပျော့သော နာမ်ဂလက်အင်အား သိန်းကို ပေါင်းထားသည်ထက် သန်ခိုးကြီး၏။ ဥဒါဟရဏ်ဆိုသော် လူ့သတ္တဝါ **တ** ယောက်၏ နာမ်ဂလက် အင်အားသည် သာမန်မျက်စေ့ဖြင့် မမြင်ကောင်းအောင် သေးငယ်သော ပိုးကောင်ကလေးများ၏ နာမ်ဂလက်ကုဋေကုဋာကို စုပေါင်းထားခြင်းထက် ကြီး၏။

ထို့ကြောင့် မဟာဘုတ်ဂလက်များနှင့် နာမ်ဂလက်တို့၏ အင်္ဂါ ခြားနားချက်မှာ နာမ်ဂလက်က အင်အားကြီးခြင်း ဖြစ်၏။ မဟာဘုတ်ဂလက်ကြီး လေးခုတို့၏ အင်အားသည် တခုနှင့်တခု တူညီကြသော်လည်း နာမ်ဂလက်တို့၏ အင်အားများမှာ တခုနှင့်တခု အင်မတန်ခြားနားလှသဖြင့် စကြဝဠာအတွင်း၌ မရေမတွက်နိုင်လောက်အောင် များပြားသော နာမ်ဂလက်တို့ အနက် တခုနှင့်တခု အတိအကျ အင်အားခြင်းတူညီသော နာမ်ဂလက်ဟူ၍ တခုမျှမရှိ ။ မဟာဘုတ်ဂလက်တခု၏ အင်အား စုစုပေါင်းကို သိလိုလျှင် ထိုဂလက်တို့၏ အရေအတွက်နှင့် ထိုဂလက်တခုစီ တခုစီတို့၏ အင်အားကို မြှောက်၍ ကြည့်ခြင်းအားဖြင့် လွယ်ကူစွာ သိနိုင်၏။ သို့ရာတွင် အကယ်၍ ကျွန်ုပ်တို့သည် နာမ်ဂလက် အစုကြီး တခု၏ အင်အားကိုတွက်ချက်၍ကြည့်လိုသည် ဖြစ်မူ ထိုနာမ်ဂလက်တို့ တခုစီ တခုစီ၏ အင်အားကို ကျွန်ုပ်တို့ သေချာစွာ သိကြသည်ပင် ဖြစ်စေကာမူ နာမ်ဂလက်များရှိသလောက်ကို တခုချင်းတခုချင်း ခွဲခြား၍ တွက်ချက်ကြည့်ရလိမ့်မည်သာဖြစ်၏။

<u>နာမ်ဂလက်နှင့် ရုပ်ဂလက်တို့ ပေါင်းစပ်မှု</u>

မဟာဘုတ်ဂလက်တို့ တခုနှင့်တခု အကြွင်းမဲ့ ရောစပ်၍ မသွားနိုင်စေရန် ဟင်းလင်းပြင်ဂလက်က ကာကွယ်ပေး၏။ သို့ရာတွင် မဟာဘုတ်ဂလက်တို့သည် အခန်းနှစ်တွင် ဖော်ပြခဲ့သည့်နည်းအတိုင်း တခုနှင့်တခု ရောယှက် နေကြ၏။ မဟာဘုတ်ဂလက်ကြီး လေးခုတို့သည် ရောယှက်ကြသည့် အခါတိုင်း ရောယှက်ကြသည့်အခါတိုင်း အာရုံပြန်မှုဖြစ်ကြသော အဆင်း၊ အရသာနှင့်အနံ့တို့သည် အထောက်အပံ့ဂလက်များအဖြစ်နှင့်ဖြင့် ပေါ်လာကြပြီးလျှင် ကျွန်ုပ်တို့၏ အာရုံသိမှု အင်္ဂါများဖြင့် သိနိုင်သော အရာဝတ္ထုများဖြစ်ကာ အလုံးအထည်များဖြစ်လာကြ၏။ သို့ရာတွင် နာမ်ဂလက်တို့သည် ထိုကဲ့သို့ တခုနှင့်တခု ရောယှက်ခြင်း မပြုကြ။

နာမ်ဓါတ်တို့သည် တခုနှင့်တခုအလျှင်း ရောရှက်ခြင်း မပြုကြ။ အသီးသီးသော နာမ်ဓါတ်တို့သည် အမြဲတန်း တသီးတခြားစီ တည်နေကြ၏။ သို့ရာတွင် ရုပ်ဓါတ်၌ စကြာဝဠာအတွင်း၌မူကား နာမ်ဓါတ်တို့သည် ရုပ်ဓါတ်တို့ဖြင့် ပေါင်းစပ်၍နေကြ၏။ ထိုကဲ့သို့ ပေါင်းစပ်ခြင်းမှ နောက်ပွားဓါတ်များဖြစ်ပေါ်၍လာကြသော်လည်း ပတ်ဝန်းကျင်နှင့်သက်ဆိုင်သော အာရုံသိမှုအင်္ဂါများဖြင့် သိနိုင်သော အရာတို့ကိုမူကား မဖြစ်ပေါ်စေကြ။ မဟာဘုတ်ဓါတ်တိုင်း ဓါတ်တိုင်းတွင် ဖြစ်ခြင်း၊ တည်ခြင်းနှင့်ပျက်ခြင်း အလျင်များရှိကြပြီးလျှင် မဟာဘုတ်ဓါတ်အားလုံးတွင်ရှိကြသည့် အလျင်သုံးခု၏ အင်အားသည်လည်း အတူတူပင်ဖြစ်၏။ သို့ရာတွင် နာမ်ဓါတ်တိုင်း နာမ်ဓါတ်တိုင်း၌ အလျင် ၁၂ မျိုးစီရှိ၏။ နာမ်ဓါတ်တခုမှ ဖြစ်ပေါ်လာသောအလျင်တို့၏ အင်အားမှာ ကျန်နာမ်ဓါတ်အားလုံးမှ ဖြစ်ပေါ်သော အလျင်တို့၏ အင်အားနှင့် မတူကြ ။

## မဟာဘုတ်ဓါတ်များနှင့်ပတ်ဝန်းကျင်

နာမ်ဓါတ်၏ တည်ရာဖြစ်သော ပတ်ဝန်းကျင်သည် နာမ်ဓါတ်၏ အင်အားကို တိုးခြင်း၊ လျော့ခြင်းကို ဖြစ်စေနိုင်သော သတ္တိရှိ၏။ သို့ရာတွင် မည်သည့် ရုပ်ဓါတ်တည်ရာဖြစ်သော ပတ်ဝန်းကျင်သည်မျှ ရုပ်ဓါတ်၏ အင်အား တိုးခြင်း၊ လျော့ခြင်းကို ဖြစ်စေနိုင်သော သတ္တိမရှိ။ ကောင်းသော ပတ်ဝန်းကျင်၌ တည်နေသော နာမ်ဓါတ်သည် ကောင်းသော အမှုများဘက်သို့ ညွှတ်တတ်၏။ ဤနည်းဖြင့် ထိုနာမ်ဓါတ်၏ အင်အားသည် တိုး၍လာ၏။ မကောင်းသော ပတ်ဝန်းကျင်၌ တည်နေသော နာမ်ဓါတ်သည် မကောင်းမှုများဘက်သို့ ညွှတ်တတ်၏။ ဤနည်းဖြင့် ထိုနာမ်ဓါတ်၏ အင်အားသည် ယုတ်လျော့သွား၏။ သို့ရာတွင် မဟာဘုတ်ဓါတ်တို့ကို မူကား ပတ်ဝန်းကျင်က ထိုကဲ့သို့ မပြုပြင်နိုင်။ ဥဒါဟရဏ်ဆိုသော် နေထဲတွင်ရှိနေသော မီးဓါတ်တို့သည် ထိုသို့နေထဲတွင်ရှိ နေခြင်းဖြင့် မိမိတို့၏ အင်အားသည် လျော့၍လည်း မသွား၊ တိုး၍လည်း မလာ။ မီးဓါတ်တို့သည် မိမိတို့နေမှ ပြောင်းရွှေ့၍ ဤကမ္ဘာကြီးပေါ်သို့ ရောက်လာကြသည်ဖြစ်စေကာမူ ထိုဓါတ်တို့၏ အင်အားသည် လျော့၍ မသွား ။

ဤကမ္ဘာ မြေကြီးပေါ်တွင်ရှိသော မီးဓါတ်တို့သည် ပြော့သုံ့၍ နေထဲတွင်ရှိသော မီးဓါတ်တို့သည် ကြောက်မက်ဘွယ် ပူကြ၏ဟု ထွေးပရာရှိ၏။ ကမ္ဘာ မြေကြီး၏ လေထုအတွင်း၌ရှိ မီးဓါတ်သည် ပြော့သုံ့ဟန်ထင်ရခြင်းမှာ ရေဓါတ်၊ လေဓါတ်၊ မြေဓါတ် ဟုဆိုအပ်

သော အခြားပါဘ်သုံးခုတို့၏ ဘုန်းပြန်မှု အကြောင်းတို့ကြောင့် ဖြစ်၏။ ကျွန်ုပ်တို့ ဘေ့ကြိုနေကျဖြစ်သော မိုးပါဘ်သည် အရာဝတ္ထုတို့အဖြစ်နှင့် ကျွန်ုပ်တို့ထံသို့ ရောက် လာကြ၏။ ထိုကြောင့် ထိုမိုးပါဘ်၏ အင်အားသည် ရေပါဘ်၊ လေပါဘ်၊ မြေပါဘ်တို့ ကြောင့် ပြောင်းလဲ၍သွား၏။ နေမှလာသော မိုးပါဘ်တို့သည် ကျွန်ုပ်တို့နေရာ လေထုသို့ မိုးပါဘ်အဖြစ်နှင့် ရောက်မလာကြ။ နေဆီမှ ကျွန်ုပ်တို့ထံသို့ ရောက် လာကြသော မိုးပါဘ်တို့သည် အခြားသော မဟာဘုဘ်ပါဘ်တို့၏ ဘုန်းပြန်မှုတို့ကြောင့် ပြောင်းလွဲ၍သွားကြသော်လည်း မိုးပါဘ်၏ အင်အားများသည် မူလအတိုင်းသာ ရှိနေကြ၏။

နာမ်ပါဘ်တို့သည် ဖြပ်ခြင်း၊ ဘည်ခြင်း၊ ပျက်ခြင်း စက်ဝန်းအဘွင်း၌ လှည့်လည်၍ မိမိတို့၏ ထပ်ဘလဲလဲ လှုပ်ရှားမှုအစဉ်ဖြင့် လှုပ်စပ်ဘပျက်အဘွင်း၌ အ ကြိမ်ပေါင်း ၃၀၀၀၀၀၀၀၀၀၀၀၀၀ မျှ အလွန်လျှင်မြန်စွာ လှုပ်ရှားနေကြ၏။ မဟာဘုဘ်ပါဘ်တို့သည် အဆိုပါဖြပ်၊ ဘည်၊ ပျက် စက်ဝန်း၌ နာမ်ပါဘ်တို့ထက် ၁၇ ဆ လျော့သော အရှိန်ဖြင့် လှုပ်ဘပျက်အဘွင်း၌ အကြိမ်ပေါင်း ၁၇၆၄၇၀၀၀၀၀၀၀ လှုပ်ရှားနေကြ၏။ အဆိုပါထပ်ဘလဲလဲ လှုပ်ရှားမှုအမြန်နှုန်းနှစ်ခု၏ ခြားနား ချက်ကို သတိပြုအပ်၏။ သို့မှသာ ရုပ်ပါဘ်သတ္တဝါတို့၏ ဖြပ်ပေါ်မှုအစဉ်ကို ကောင်း စွာ သဘောပေါက်နိုင်ကြမည်ဖြပ်၏။

## ရုပ်ပါဘ်နှင့် နာမ်ပါဘ်တို့ အလိုအနှုချင်း ဆန့်ကျင်ကြပုံ

မဟာဘုဘ်ပါဘ်နှင့် နာမ်ပါဘ်တို့ဘွင် နောက်ထပ်ခြားနားချက်ဘခု ရှိသေးသည်ကိုလည်း သဘ်ပြုအပ်၏။ ခပ်သိမ်းသော မဟာဘုဘ်ပါဘ်တို့သည် အရာ ဝတ္ထုများကို ရှောင်ရှားး၍ မိမိတို့ဟာ မိမိတို့ ဘသီးဘခြားစီနေလိုသော သဘော ရှိကြ၏။ မဟာဘုဘ်ပါဘ်တို့ အကြိုက်ဆုံးဖြစ်သော အခြေမှာ စကြာဝဠာဘွင်း၌ ဟင်းလင်းပြင်ပါဘ်အဘွင်း၌ မိမိတို့ချည်း ပြန့်နှံ့နေကြရန်ဖြစ်၏။ သို့ရာဘွင် နာမ်ပါဘ်တို့က ရုပ်ပါဘ်ရှိ သတ္တဝါများဖြပ်နိုင်စေရန်အဘွက် မဟာဘုဘ်ပါဘ်တို့ကို မျှားနိုင်သမျှများစွာ သိမ်းပိုက်၍ ထားကြ၏။

နာမ်ပါဘ်ဘခုနှင့် မဟာဘုဘ်ပါဘ်ဘခု သို့မဟုဘ် မဟာဘုဘ်ပါဘ်အများ ပေါင်းစပ်မှုသည် ရုပ်ပါဘ်ရှိ သတ္တဝါတို့၏ ဖြစ်စဉ် ဖြစ်၏။ ထိုကဲ့သို့ နာမ်ပါဘ်နှင့် ရုပ်ပါဘ်တို့ ပေါင်းစပ်ရာဘွင် ရုပ်ပါဘ်တို့သည် ဘခုနှင့်ဘခု ဘခါဘည်း ပူးပေါင်း

သွားကြသည်မဟုတ်ဘဲ မိမိတို့ဟာ မိမိတို့ အမြဲတန်း တသီးတခြားစီတည် နေကြခြင်း ဖြစ်သည်ကို သတိပြုအပ်၏။ ရုပ်ဓါတ်၌ သတ္တဝါတို့ ဖြစ်ပေါ်လာသောအခါတွင် နာမ် ဓါတ်သည် ရုပ်ဓါတ်ထက်ပို၍ လှုပ်ရှားမှု ရှိ၏။ ထို့ကြောင့် နာမ်ဓါတ်က ပို၍ အင် အားကောင်း၏။

## သတ္တဝါတို့၏ ရုပ်ဓါတ်အကောင်အထည်နှင့် ထိုအကောင်အထည်၏ နယ်နိမိတ်

နာမ်ဓါတ်တို့သည် မဟာဘုတ်ဓါတ်တို့ကို မိမိတို့ အင်အားရှိသလောက် သိမ်းပိုက်ထားလိုသော သဘောရှိကြ၏။ ထို့ကြောင့် အကယ်၍ နာမ်ဓါတ်တို့သည် အင်အားကောင်းကြသည်ဖြစ်မူ မိမိတို့၏ ပိုင်နက်အတွင်းသို့ မဟာဘုတ်ဓါတ် အလွန် များစွာကို ဆွဲငင်၍ယူကြ၏။ မိမိတို့ နိုင်သလောက် မဟာဘုတ်ဓါတ်များကို ရကြ သောအခါတွင် နောက်ထပ်ဆွဲငင်မှုကို ရပ်စဲကြ၏။ သို့ရာတွင် မဟာဘုတ်ဓါတ်တို့က ငြိမ်၍ခံမနေကြသဖြင့် မကြာခဏ နာမ်ဓါတ်၏ ဆွဲငင်မှုမှ လွတ်မြောက်သွားကြ၏။ ထိုကဲ့သို့ လွတ်မြောက်သွားသော မဟာဘုတ်ဓါတ်တို့ကို ကာမိရန်အတွက်နှင့် နောက် ထပ်လိုသော မဟာဘုတ်ဓါတ်များကို ရရှိနိုင်ရန်အတွက် နာမ်ဓါတ်တို့သည် မဟာဘုတ် ဓါတ်တို့ကို ထပ်၍ထပ်၍ ဆွဲငင်ယူကြ၏။ မိမိတို့ပိုင်နက်အတွင်းသို့ မဟာဘုတ်ဓါတ်များ နောက်ထပ် ရောက်လာကြသောအခါတွင် ရှိနေရင်း မဟာဘုတ်ဓါတ်တို့သည် နောက် ထပ်လွတ်မြောက်သွားကြပြန်၏။ ဤနည်းဖြင့် မဟာဘုတ်ဓါတ်တို့၏ လှည့်လည်မှုသည် ဖြစ်ပေါ်လာ၏။

တိုက်အိမ်ဆောက်လိုသော လူတယောက်သည် မိမိ၌ ရှိရှိသမျှသော အသ ပြာတို့ကို အုတ်များ ဝယ်ရန်အတွက် အသုံးမပြုသည့်နည်းတူ နာမ်ဓါတ်တို့သည် မိမိတို့၏ အင်အားများကို မဟာဘုတ်ဓါတ်များကို ဆွဲငင်ယူရန်အတွက်ချည်း အသုံး မပြုကြ။ နာမ်ဓါတ်တို့သည် မိမိတို့၏ ရုပ်ဓါတ်အဆောက်အအုံများကို သက်တောင့် သက်သာ ဖြစ်စေမှုအတွက် လိုအပ်သော အမျိုးမျိုးအလို့ငှါ မိမိတို့၏ အင်အား တစိတ်တဒေသကို အမြဲတန်း သိုမှီး၍ ထားကြ၏။ လူသတ္တဝါတို့ ဖြစ်လာမည့် နာမ်ဓါတ် တို့ကဲ့သို့သော အင်အားများစွာကြီးသော နာမ်ဓါတ်တို့သည် မိမိတို့၏ ရုပ်ဓါတ် အဆောက်အအုံကို အကယ် အလိုရှိအပ်သည်ထက် ပို၍ မကြီးစေကြ။ ဤနည်းဖြင့် ကျန် သော မိမိတို့၏ အင်အားများကို အာရုံခံမှုအင်္ဂါများဖြင့် ပေါ် စေရန်အတွက် အသုံးပြုကြ၏။ လူသတ္တဝါတို့တွင် မိမိတို့၏ အာရုံခံပါးမှုများကို အင်အားကြီးနိုင်သ မျှကြီးစွာဖြင့် စူးစိုက်ပေးနိုင်ရန်လိုသော အင်အားတို့သည် အမြဲတန်းရှိ နေကြ၏။

## အပိုင်းအခြားမရှိမှု၏ ဗဟိုချက်မ

အပိုင်းအခြားမရှိသော အခြင်းအရာများကို ဗဟိုချက်မထားရသော အလုပ်သည် အလွန်ခက်၏။ အပိုင်းအခြားရှိသော အခြင်းအရာတို့ကို စစ်ဆေးကြည့်ရှုရသော အလုပ်သည် များစွာမခက်။ အဘယ့်ကြောင့်ဆိုသော် အပိုင်းအခြားရှိသော အခြင်းအရာများတွင် အစရှိသောကြောင့် ဖြစ်၏။ ထို့ကြောင့် အပိုင်းအခြားရှိသော အခြင်းအရာတို့ကို စ၍ကြည့်ရှုစစ်ဆေးရန်အတွက် အလွယ်ကူဆုံးနှင့် အဆီလျော်ဆုံးနေရာမှာ အစကိုယ်တိုင်ပင် ဖြစ်၏။ သို့ရာတွင် အပိုင်းအခြားမရှိသော အခြင်းအရာတို့တွင်မူကား ထိုကဲ့သို့စ၍ စစ်ဆေးကြည့်ရှုရန် အစပင် မရှိ။ ထို့ကြောင့် အပိုင်းအခြား မရှိသော အခြင်းအရာတို့ကို စစ်ဆေးကြည့်ရှုနိုင်ရန်အတွက် နေရာတနေရာတည်းသာ ရှိ၏။ ထိုနေရာမှာ အခြားမဟုတ် " ပစ္စုပ္ပန် " ပင် ဖြစ်၏။

ကျွန်ုပ်တို့အားလုံးသည် အပိုင်းအခြားမရှိသော ပမာဏများဖြစ်သည့် နာမ်ဓါတ်များနှင့် မဟာဘုတ်ဓါတ်ကြီး လေးခုဟု ဆိုအပ်သော ရုပ်ဓါတ်လေးခု၏ အစုအပေါင်းများ ဖြစ်ကြ၏။ ထို့ကြောင့် ကျွန်ုပ်တို့ အသီးသီးသည် အပိုင်းအခြား မရှိသောအရာများ ဖြစ်ကြ၏။ ထို့ကြောင့် ကျွန်ုပ်တို့ ကိုယ်ကို ကျွန်ုပ်တို့ စစ်ဆေးကြည့်ရှုနိုင်ရန်အတွက် " ပစ္စုပ္ပန် " မှ စကြရမည်ဖြစ်၏။ ကျွန်ုပ်တို့သည် ယခုဘာ ဖြစ်ကြသည်ကို ပထမ သိဘို့လို၏။ ထို့နောက်မှ နောက်ပြန်သို့ပြန်၍ ကျွန်ုပ်တို့၏ အတိတ်ကို ကြည့်ရှုအပ်၏။ ထို့အတူပင် ရှေ့ဘက်သို့ လှမ်း၍ ကျွန်ုပ်တို့၏ အနာဂတ်ကို ကြည့်ရှုနိုင်၏။ ကျွန်ုပ်တို့သည် ယခုဘာဖြစ်ကြသည်ကို ကောင်းစွာ သဘောပေါက်ကြလျှင် အတိတ်က ကျွန်ုပ်တို့သည် ဘာဖြစ်ခဲ့ကြသည်ကို၎င်း၊ အနာဂတ်တွင် ဘာဖြစ်ကြလိမ့်မည်ကို၎င်း၊ နားလည်နိုင်ဘို့ လွယ်၏။

ကျွန်ုပ်တို့၏ ပစ္စုပ္ပန် အဖြစ်ကို စစ်ဆေးကြည့်ရှုသောအခါတွင် ကျွန်ုပ်တို့သည် အမြဲတန်းအဖြစ်ပြောင်းလဲနေသည်ကို ရှေးဦးစွာ တွေ့ကြမည်ဖြစ်၏။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ မရောက်ဘူးသော နေရာသို့ ခုတ်မောင်းနေသည့် စာပို့မီးရထားကြီး၏ ပြတင်းပေါက်မှနေ၍ ကြည့်နေကြသကဲ့သို့ ထင်မှတ်ဖွယ်ရှိ၏။ ကျွန်ုပ်တို့၏ မျက်မှောက်တွင် မြောက်များလှစွာသော အရာများဖြစ်ပေါ်၍ထိုအရာတို့သည် နောက်တခဏတွင် ပျောက်ကွယ်သွားကြ၏။ ကျွန်ုပ်တို့သည် ငါးမိနစ်ခန့်အလွန်က ကျွန်ုပ်တို့ တွေ့ကြုံခဲ့ကြသော အရာကလေးများကို ဝိုးတိုးဝါးတားသာ မှတ်မိကြမည်ဖြစ်၏။ သို့ရာတွင် နောက်လာမည့် ငါးမိနစ်တွင် မည်သည့်အရာများ ဖြစ်ပေါ်လာလိမ့်မည်ကို ရှုထား သွေး၍ကြည့်နိုင်ဖို့ပင် ခက်လိမ့်မည်ဖြစ်၏။

## " ပစ္စုပ္ပန် " သည် အမြဲတန်း ပြောင်းလဲနေခြင်း

အထက်ပါနည်းအတိုင်း ကျွန်ုပ်တို့ကိုယ်ကို ကျွန်ုပ်တို့ ကြည့်ရှုကြသောအခါတွင် ကျွန်ုပ်တို့၏ ဘဝသည် အထင်မှားမှုများသာဖြစ်သည်ကို လျှင်မြန်စွာ သဘော ပေါက်လာကြလိမ့်မည်ဖြစ်၏။ ကျွန်ုပ်တို့သည် နာမ်ပါတ်များနှင့် အမျိုးမျိုး သော ရုပ်ပါတ်တို့၏ အစုအဝေးများသာဖြစ်ကြောင်းနှင့် နာမ်ပါတ်နှင့် ရုပ်ပါတ်နှစ်ခုလုံးသည် အမြဲတန်း အရပ်အနား မရှိဘဲနှင့် လှုပ်ရှားနေမှုများသာဖြစ်ကြောင်း တို့ကိုလည်း သဘော ပေါက်လာကြလိမ့်မည်ဖြစ်၏။ ထို့ပြင် ကျွန်ုပ်တို့က " ငါ " ဟု၄င်း၊ " ငါ့ကိုယ်တိုင် " ဟု၄င်း ခေါ်နေကြပြီးလျှင်၊ ထို " ငါ " နှင့် " ငါ့ကိုယ်တိုင် " တို့ ကြေနပ်မှုရအောင် အမြဲကြိုးစား၍ ထိုသို့ ကြိုးစားလျက်နှင့်ပင် ကြေနပ်မှု မရနိုင်သော ပုဂ္ဂိုလ်(လူကောင်)၏ သဘောအစစ်အမှန်ကိုလည်း သိနားလည် လာကြလိမ့်မည်ဖြစ်၏။ ကျွန်ုပ်တို့သည် အတိတ်ဖက်သို့ ပြန်၍ ကြည့်လိုက် သောအခါတွင် ကျွန်ုပ်တို့ ခရီးသွား၍ လာခဲ့သော အထင်မှားမှု အမိုက်မှောင်ကို မြင်ကြရပြီး လျှင်၊ အနာဂတ်ဖက်သို့ မှန်း၍ ကြည့်လိုက်သောအခါတွင်လည်း ကျွန်ုပ်တို့ ခရီးဆက်၍ သွားကြရမည့် မရေရာသော အထင်မှားမှု အမိုက်မှောင်ကြီးကို မြင်ကြရမည် ဖြစ်၏။ ကျွန်ုပ်တို့ ဘဝသဘောနှင့် စကြာဝဠာ၏ သဘောအစစ်အမှန်ကို သိနား လည်အောင် လုပ်သောနည်းများတွင် အထက်ပါ ကြည့်ရှုနည်းသည် တနည်းအပါအဝင် ဖြစ်၏။

သို့ရာတွင် ကျွန်ုပ်တို့၏ ဘဝနှင့် စကြာဝဠာ၏ အကြောင်းကို ဆွေးနွေး ရာတွင် ကျွန်ုပ်တို့သည် နည်းလမ်းကိုသာ အခြေထား၍ ဆွေးနွေးကြ၏။ ပစ္စုပ္ပန် တခုတည်းကို ကြည့်ရှုကာမျှနှင့် ကျွန်ုပ်တို့ သိလိုသော အသေးစိတ် အချက်တို့ကို ထင်ရှား စွာ သိရှိနိုင်ကြလိမ့်မည် မဟုတ်။ ကျွန်ုပ်တို့၏ အပိုင်းအခြားမရှိသော ဘဝအကြောင်း ကို ဆွေးနွေးနိုင်ရန်အတွက် အစကို ရွေးချယ်ကြရာတွင် " ပစ္စုပ္ပန် " အချိန်ကာလ ထက် ကျယ်ဝန်းသော အချိန်ကာလကို ပိုင်းခြားသတ်မှတ်ကြဖို့ လို၏။ ထို့ကြောင့် ကျွန်ုပ်တို့၏ ဘဝအစအဆုံးတခုလုံးကို " ပစ္စုပ္ပန် " ဟု သတ်မှတ်၍ ဆွေးနွေးကြကုန်အံ့။ ပြီးခဲ့သော အခန်းနှစ်ခန်းတွင် ဖော်ပြခဲ့သော အသေးစိတ်အချက်တို့သည် ဤအခန်း နောက်တဆင့်အတွက် အထူးအထောက်အပံ့ ပြုကြလိမ့်မည်ဖြစ်၏။ ဖော်ပြခဲ့ပြီးအချက် များကို ထပ်၍ ဖော်ပြခြင်းမှ ရှောင်နိုင်သလောက် ရှောင်ရမည်ဖြစ်သဖြင့် ယခင်က ဖော်ပြခဲ့ပြီးသော အချက်များကို ယခု ဖော်ပြမည့် အချက်များနှင့် ပူးတွဲ၍ မှတ်သားအပ်၏။

ပြီးခဲ့သော အခန်းတွင် နာမ်ပါတ် တကြိမ်လှုပ် တကြိမ်လှုပ်၏ အပြီး၌ ဂျုန်ပိတ်တို့၏ အသက်ရှင်မှုအလျင်က မိမိတွင် အင်အားလက်ကျန် မည်ရွေ့မည်မျှ ရှိကြောင်းကို တွက်ချက် ကြောင်းကို ဖေါ်ပြခဲ့၏။ နာမ်ပါတ်၏ အသက်ရှင်မှုအလျင် အတွင်း၌ စင်ကြယ်မှုနှင့် မစင်ကြယ်မှု ဖွဲ့လန်းချက်အင်အား အလုအယည်များသည် အဆင်သင့် စောင့်၍ နေကြ၏။ ဘနည်းဆိုသော် နာမ်ပါတ်အား ပမ်းမအ ဖြိုခိုက်၍ နေရာ မည်သည့်ဘဝကမဆို နှောင့်နှေးကြန့်ကြာခြင်း မရှိစေဘဲ ပြောင်းရွှေ့ ပစ်ရန်အတွက် အသက်ရှင်မှုအလျင်သည် မိမိ၌ ရှိသော အင်အားတို့ကို အဆင်သင့် ထုတ်ပိုးကာ စောင့်ဆိုင်းနေ၏။ စင်ပစ်ဆိုသော် နာမ်ပါတ်တကြိမ်လှုပ်အချိန် အတွင်း၌ပင် အသက်ရှင်မှုအလျင်က မိမိသက်ဆိုင်ရာ နာမ်ပါတ်ကို ပြောင်းရွှေ့ ပစ်နိုင်ရန် အဆင်သင့်ရှိနေ၏။

## ဂျုန်ပိတ် သေခြင်း၏ အပြည့်

ရုပ်ပါတ်၌ သတ္တဝါတို့ သေခြင်းမှာ မိမိတို့ သက်ဆိုင်ရာ နာမ်ပါတ်များနှင့် ကိုယ်ခန္ဓာ ရုပ်ပါတ်တို့ ကွဲပြားသွားခြင်းဖြစ်၏။ ဥဒါဟရုဏ်ဆိုသော် အသက်အရွယ် ကြီးရင့်ခြင်းကြောင့် မှန်တန်းသေသော အခါတွင် နာမ်ပါတ်က မိမိ၏ ပြဇာတ်အာဏာကို ကိုယ်ခန္ဓာ ရုပ်ပါတ်မှ အစဉ်မှန်ကန်စွာပြင့် ဖြည်းဖြည်းဖြင်း စွန့်လွှတ် လိုက်ခြင်းဖြစ်သည်ကို တွေ့နိုင်၏။ အသက်အရွယ် ကြီးရင့်၍ သေသောသူတို့သည် မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် အထိအတွေ့ ဆိုအပ်သော မိမိတို့၏ ပဿဝန်းကျင် ဆိုင်ရာ အာရုံသိမှု အင်္ဂါတို့ကို တခုပြီးတခု ဆုံးရှုံးကြ၏။ နောက်ဆုံး ဆုံးရှုံး ရမည့်အင်္ဂါမှာ နှလုံးဖြစ်၏။ နှလုံးကို သေသောအချိန်ကျမှသာ ဆုံးရှုံး၏။

အလျင်မြန်ဆုံးဖြစ်သော သေခြင်း၌ပင် နာမ်ပါတ်က ကိုယ်ခန္ဓာအား မိမိကိုင်တွယ်ထားချက်များကို စွန့်လွှတ်သောအစဉ်မှာ အထက်ပါအစဉ်အတိုင်းပင် ဖြစ်၏။ နာမ်ပါတ်က ပဿဝန်းကျင်နှင့်ဆိုင်သော အာရုံသိမှု အင်္ဂါတို့ကို ပထမစွန့်လွှတ်၍ နောက်ဆုံးကျမှသာ နှလုံးကို စွန့်လွှတ်၏။ ထို့ကြောင့် ဂျုန်ပိတ်၏ ကိုယ်ခန္ဓာအတွင်း၌ နောက်ဆုံး သေသောအင်္ဂါသည် နှလုံးဖြစ်၏။

အသက်ထွက်သည့်အချိန်တွင် ကိုယ်ခန္ဓာ တပုံးလို ပြန့်နှံ့၍နေသော နာမ်ပါတ်၏ အင်အား အကုန်လုံးသည် နှလုံးတွင်း၌ ပုံ၍နေကြပြီးလျှင် အင်အား တောင်းသော အာရုံမြဲဇီးမှုကြိုင်းသည် ပြတ်ကာ နဲ့ယုတ်၍သွား၏။ နာမ်ပါတ်တွင်း၌ အသက်ရှင်မှုအလျင်၏ အကြီးဆုံး သော အင်အားသည် ထိုအာရုံမြင်မှုကြိုင်းတွင် မှုရှိုး၍ နေ၏။

## သေခြင်းမြင်မှု ဖြစ်ပေါ်ပြီးမှ အသက်ထွက်ခြင်း

ထိုသေခြင်းမြင်မှုကို ဖြစ်ပေါ်စေသော နာမ်ဓါတ်၏ လှုပ်ရှားမှုကို လှုံ့ဆော်ပေးသော စင်ကြယ်မှုနှင့် မစင်ကြယ်မှုအင်အားတို့သည် ထိုအချိန်တွင် မိမိတို့တွင် ရှိသမျှသော အင်အားအကုန်နှင့် ပေါ်လာကြ၏။ စင်ကြယ်မှု စွဲလန်းချက်အင်အားတို့က ထိုသေခြင်းမြင်မှုကို ကြည်လင်တောက်ပစေပြီးလျှင် မစင်ကြယ်မှုစွဲလန်းချက် အင်အားတို့က အပြန်အလှန်သဘောအားဖြင့် ထိုသေခြင်းမြင်မှုကို မှေးမှိန်၍ မသဲမကွဲ ဖြစ်စေ၏။ စင်ကြယ်မှုအင်အားနှင့် မစင်ကြယ်မှုအင်အားတို့ တခုကိုတခုက တုန့်ပြန်မှုပြုကြသည့်အလိုက် သေခြင်းမြင်မှုသည် အပြောင်းအလဲရှိ၏။

အဆိုပါ သေခြင်းမြင်မှုကို ဗုဒ္ဓက ထွက်ခွါမှုကြိုစိချက် ( မုဘိစိတ္တ ) ဟု ခေါ်၏။ ထိုထွက်ခွါမှုကြိုစိချက်သည် ရုပ်ဓါတ်ရှိ သတ္တဝါတို့တွင် နောက်ဆုံးဖြစ်ပေါ်သော ကြိုစိချက်ဖြစ်၏။ ထို့ကြောင့် ထိုကြိုစိချက်သည် ရုပ်ဓါတ်ရှိ သတ္တဝါတို့တွင် နောက်ဆုံးဖြစ်ပေါ်သော နာမ်ဓါတ်၏ လှုပ်ရှားမှုဖြစ်ချိန်၌သာလျှင် ဖြစ်ပေါ်၏။ ထိုသေခြင်းမြင်မှုသည် အင်မတန် အချိန်ကာလ တိုတောင်းလှသဖြင့် နာမ်ဓါတ်၏ နောက်ဆုံးလှုပ်ရှားမှုလှိုင်း အနည်းငယ်သာ ကြာ၏။ ထိုသေခြင်းမြင်မှု၏ ရောက်ပေါက်နိုင်သော စွမ်းအားမှာ သက်ဆိုင်ရာ သတ္တဝါတို့၏ ဘဝသက်တန်းအတွင်း၌ နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အဟုန်းသို့ ရောက်ရှိလာသော အင်အားအလိုက် ဖြစ်၏။

သိမှုအပြည့်အစုံကို ရပြီးသော ပုဂ္ဂိုလ်များဟု ဆိုအပ်သည့် ဗုဒ္ဓတို့ အရဟတ္တာတို့မှလွဲ၍ ကျန်သော ရုပ်ဓါတ်ရှိ သတ္တဝါအားလုံးတို့၏ သေခြင်းမြင်မှုသည် ဘဝမက်မှု လွန်ကဲ၏။ မသိမှုကြောင့် ဖြစ်ပေါ်လာသော ဘဝမက်မှုသည် သေခြင်းမြင်မှုကို ညှိုးမှိန်စေ၏။ သို့ရာတွင် နာမ်ဓါတ်၏ အသက်ရှင်မှု အလျှင်အဟုန်း၌ ရှိနေသော အင်အားကောင်းသော စင်ကြယ်မှုစွဲလန်းချက် အထူးအထည်တို့ကဲ့သို့သော အခြားအကြောင်းများက သေခြင်းမြင်မှုကို စင်ကြယ်စေရန် အထောက်အပံ့ပြုကြ၏။

## ဘုံသစ်၌ ပဋိသန္ဓေတည်ခြင်း

ဘဝမက်မှုအင်အားတို့ဖြင့် ရောပြွမ်း၍နေသော ထွက်ခွါမှု မြင်ခြင်းသည် အမြဲတမ်းအားဖြင့် ရုပ်ဓါတ်ရှိဘဝကို အကြောင်းပြုလျက် ရှိ၏။ အဘယ်၍ ထွက်ခွါမှုကြိုစိချက်သည် စင်ကြယ်မှုအင်အားတို့၏ အကူအညီကို ရသည်ဖြစ်မူ အဆင့်

အတန်းမြင့်သောဘုံသို့ ရောက်စေနိုင်လောက်အောင် အင်အားကောင်းသော သေခြင်းမြင်မှုကို ဖြစ်ပေါ်စေနိုင်၏။ သို့ရာတွင် အကယ်၍ ထွက်ခွါမှုကြိုစီချက်သည် မစင်ကြယ်မှု အင်အားတို့ကြောင့် မှေးမှိန်၍ နေသည်ဖြစ်မူ အဆင့်အတန်းနိမ့်သော ရုပ်ဝါဒ်ဌာဘဝကို ရောက်နိုင်လောက်ရုံသော အင်အားကိုသာ ဖြစ်ပေါ်စေနိုင်၏။

ဤနည်းဖြင့် ထွက်ခွါမှုမြင်ခြင်းသည် နာမ်ဓါတ်၏ အသက်ရှင်မှုအလျင်တွင်း၌ ဖြစ်ပေါ်သော အင်အားနှင့် ထိုက်တန်သော ရုပ်ဝါဒ်ဌာဘုံသို့သာ လားနိုင်၏။ ထိုအခိုက်တွင် နာမ်ဓါတ်သည် အဟောင်းဖြစ်သော ကိုယ်ခန္ဓာကို စွန့်လွှတ်လိုက်၏။ ထွက်ခွါမှုမြင်ခြင်းကို ဖြစ်ပေါ်စေသော နာမ်ဓါတ်၏ လှုပ်ရှားမှု အပတ်ပြည့်သောအခါတွင် နာမ်ဓါတ်သည် ထွက်ခွါမှုမြင်ခြင်း အခြေတည်ရာနယ်သို့ လုံးလုံးလျားလျား ပြောင်းရွှေ့သွားပြီးလျှင် ထိုနေရာတွင် ကိုယ်ခန္ဓာအသစ်ကိုစ၍ တည်ထောင်၏။ ဤနည်းဖြင့် အဟောင်းဖြစ်သော ကိုယ်ခန္ဓာသည် သေ၍ အသစ်ဖြစ်သော ကိုယ်ခန္ဓာသည် ဖြစ်ပေါ်လာ၏။ သို့ရာတွင် နာမ်ဓါတ်အဖို့တွင်မူကား အိမ်ဟောင်းကိုစွန့်၍ အိမ်သစ်သို့ ပြောင်း၍ နေခြင်းသာဖြစ်၏။ အဟောင်းဖြစ်သော ကိုယ်ခန္ဓာအတွင်းက နာမ်ဓါတ်သည် မိမိ၏ အသက်ရှင်မှု အလျင်အတွင်း၌ ဆောင်ယူလာသော စွဲလန်းချက်အင်အားအကုန်လုံးကို ကိုယ်ခန္ဓာအသစ်တွင်းသို့ ယူဆောင်လာ၏။ ကျွန်ုပ်တို့၏ နာမ်ဓါတ်အထုအထည်သည် ဘဝအသစ်သို့ အပြည့်အစုံပါလာ၏။ သို့ရာတွင် ဘဝဟောင်း၏ ကိုယ်ခန္ဓာမှ မည်သည့်အစိတ်အပိုင်းသည်မျှ ဘဝသစ်သို့ ပြောင်းရွှေ့မလာ။

## သေခြင်းနှင့်မွေးခြင်းအကူးစပ်ကြားအချိန်

ဤနည်းဖြင့် နာမ်ဓါတ်၏ အင်အားများနှင့် ကင်းကွာသွားသော ကိုယ်ခန္ဓာအဟောင်းသည် လေထုအတွင်း၌ရှိ အင်အားများ၏ စီမံမှုကို ခံရပြီးလျှင် နောက်ဆုံးတွင် ကွဲပျက်သွား၏။ နာမ်ဓါတ်က အသစ်ဖြစ်သော ပတ်ဝန်းကျင်မှ ရုပ်ဝါဒ်များကို စုရုံး၍ လျှောက်ပတ်စွာ စီစဉ်ချထားမှုကြောင့် ကိုယ်ခန္ဓာအသစ်သည် ဖြစ်ပေါ်လာ၏။ ကိုယ်ခန္ဓာအဟောင်းမှ ကိုယ်ခန္ဓာအသစ်သို့ နာမ်ဓါတ်ကူး ပြောင်းလါရာတွင် အချိန်ကြားကြာခြင်း လုံးဝမရှိသည်ကို အထူး သတိပြု

အပ်၏။ ကိုယ်ခန္ဓာအဟောင်းမှ ကိုယ်ခန္ဓာအသစ်သို့ နာမ်ဓါတ်ကူးပြောင်းခြင်းသည် ဘိတ်ကျကျ ဘဖြိုင်နက်ဘည်း ဖြစ်ပေါ်သည် မဟုတ်။ သို့ရာတွင် ကိုယ်ခန္ဓာအဟောင်းကို စွန့်ချိန်နှင့် ကိုယ်ခန္ဓာ အသစ်သို့ ရောက်ချိန်တို့မှာ အလွန့်အလွန်နီးကပ်လှသဖြင့် စပ်ကြားချိန်မှာ မရှိသလောက်ပင် ဖြစ်သည်ဟု ဆိုနိုင်၏။

ခရီးဝေးလန်ခြင်းသည် သေခြင်းမြင်မှု အလှမ်းမှီနိုင်ဖို့အတွက် သော်၄င်း၊ နာမ်ဓါတ်ပြောင်းရွှေ့သွားနိုင်ဖို့အတွက် သော်၄င်း၊ တစုံတရာ အနှောက်အရှက်မဖြစ်နိုင်။ သေခြင်းမြင်မှုက လှမ်း၍ကြည့်သောအချိန်နှင့် နာမ်ဓါတ်က ပြောင်းရွှေ့သွားသောအချိန်တို့မှာ အလွန်လျှင် လျှင်မြန်လှသဖြင့် အချိန်တခဏမျှပင် မကြာ။ အကယ်၍ နာမ်ဓါတ်ကြီးပြင်းရမည့် ပဋိသန္ဓေတည်ရန်နယ်သည် မိုင်း ပေါင်း ကုဋေကုဋာပင် ဝေးကွာသည်ဖြစ်စေကာမူ ထိုနယ်သစ်သို့ သေခြင်းမြင်မှုရောက်ခြင်းနှင့် နာမ်ဓါတ်တို့ ပြောင်းရွှေ့သွားမှုအတွက် အထက်တွင်ဖေါ်ပြခဲ့သော တိုတောင်းလှသော အချိန်သည် တောင်းရှာ လုံလောက်၏။

## ရုပ်ဓါတ်ရှိ သတ္တဝါတို့၏ အစ

သေသည့်အချိန်တွင် ကျွန်ုပ်တို့သည် ကြီးမွာသော ဆင်းရဲခြင်းကို ခံစားကြရ၏။ ထိုကဲ့သို့ ကျွန်ုပ်တို့ ဆင်းရဲခြင်းကို ခံစားနေရခိုက်တွင် သေခြင်းမြင်မှုသည် ကျွန်ုပ်တို့၏ နှလုံးတွင်းမှ ထွက်ခွါသွား၏။ ပဋိသန္ဓေယူချိန်သည်လည်း အင်မတန်ဆင်းရဲခြင်းကြီး သော အချိန်ဖြစ်၏။ ထို့ကြောင့် ဆင်းရဲခြင်းကြီးစွာ ခံစားရင်းနှင့်ပင် ကျွန်ုပ်တို့ ဆက်၍ နေရမည့် နယ်သစ်ကို ရကြ၏။

ကျွန်ုပ်တို့သည် သေသည့်အချိန်နှင့် ပဋိသန္ဓေယူသည့်အချိန် နှစ်ခုစလုံး၌ပင် ရုပ်ဓါတ်ရှိဘဝ၏ အဆိုးရွားဆုံးဖြစ်သော အခြေများကို တွေ့ကြုံရ၏။ အကယ်၍ ကျွန်ုပ်တို့၏ သေခြင်းမြင်မှုသည် ဟုတ်မှန်သည့်အတိုင်းကို သိနိုင်လောက် အောင် ကြီးမားသော အင်အားသာ ရှိသည်ဖြစ်မူ ကျွန်ုပ်တို့သည် ထိုအခိုက်တွင် ရုပ်ဓါတ်ရှိ ဘဝသို့ တဖန်ပြန်၍ မရောက်အောင် ရှောင်လွှဲနိုင်ဖွယ်ရှိ၏။ သို့ရာတွင် မသိမှုက ကျွန်ုပ်တို့အား ရုပ်ဓါတ်ရှိ ဘုံဘဝများကိုသာ မြင်အောင်ပြပေးသဖြင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ မြင်ရသမျှတို့ အနက်မှ အကောင်းဆုံးကိုသာ ရွေးချယ်နိုင်ကြ၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ မြင်ရသမျှအတွင်း၌ အမြင့်ဆုံး ရုပ်ဓါတ်ရှိ ဘုံကို မြင်ကြပြီး

လျှင် ကျွန်ုပ်တို့၏ နာမ်ဓါတ်အား ထိုဘုံတွင် ကပ်တွယ်နေစေ၏။ ကျွန်ုပ်တို့၏ အမြင်ကို မှေးမှိန်စေ၍ ကျွန်ုပ်တို့၏ အမြင်ကို ရုပ်ဓါတ်၌ စကြာဝဠာအတွင်း၌ ချုပ်နှောင်ထားသော အရာမှာ မသိမှု ဖြစ်၏။ ထို့ကြောင့် ရုပ်ဓါတ်၌ ဘဝ၏ အစသည် မသိမှုပင် ဖြစ်သည်ဟု ဆိုနိုင်၏။

ရုပ်ဓါတ်၌ စကြာဝဠာသည် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်းပင် အပိုင်းအခြားမရှိသော အခြင်းအရာ ဖြစ်၏။ ရုပ်ဓါတ်၌ စကြာဝဠာတွင် အမြဲတန်းအားဖြင့် အပိုင်းအခြား မရှိသော ဘဝအဆင့်အတန်းအမျိုးမျိုး ရှိ၏။ ထို့ကြောင့် မည်သည့် အဆင့်အတန်းတွင်မဆို ရှိနေကြသော နာမ်ဓါတ်တို့ တည်နေနိုင်ရန် နယ်များသည် အမြဲတန်း လုံလောက်စွာ ရှိနေ၏။ စကြာဝဠာအတွင်း၌ နေရာ မလောက်မငဖြစ်နေသောအခါဟူ၍ အလျှင်းမရှိ။ ထို့ပြင် အကယ်၍ လိုအပ်သော အဆင့်အတန်း ရှိသော နေရာကို အနီးအနားတွင် မရနိုင်သည်ဖြစ်စေကာမူ နာမ်ဓါတ်၏ အလွန်လျင်မြန်မှုကြောင့် သေခြင်းမြင်မှုသည် အပိုင်းအခြားမရှိအောင် ကျယ်ပြန့်၍သွားပြီးလျှင် မိမိ၏ အင်အားနှင့် လျော်ကပ်သော ဘဝသစ်တွင် အခြေစိုက်ကာ နေနိုင်၏။

## ကိုယ်ခန္ဓာ၏ အုတ်မြစ်

နာမ်ဓါတ်သည် သေခြင်းမြင်မှုကို လွတ်ပြီးနောက် ရုပ်ဓါတ်၌ ဘဝနယ် အသစ်ကို တွယ်မိသောအခါတွင် မိမိ၏ ကိုယ်ခန္ဓာဟောင်းကို အပြီးတိုင် စွန့်လွှတ်လိုက်၏။ ထို့နောက်တွင် နာမ်ဓါတ်သည် မိမိ၏ အိမ်ဟောင်းနှင့် လုံးဝ သက်ဆိုင်မှု မရှိတော့။

သို့ရာတွင် နာမ်ဓါတ်သည် မိမိ၏ နယ်သစ်သို့ ရောက်သောအခါတွင် မိမိ၏ နေရာသစ်ကို မနေမနားဟည် ဆောက်၏။ နာမ်ဓါတ်သည် လိုအပ်သော ပစ္စည်းရိုင်းများကို စုဆောင်းပြီးလျှင် နှောင့်နှေးကြန့်ကြာခြင်း မရှိဘဲ မိမိ၏ အိမ်သစ်ကို စ၍ ဆောက်၏။ အကယ်၍ နာမ်ဓါတ်တွင် အင်အားအထိုက်အလျောက် စုဆောင်း၍ ရခဲ့သည်ဖြစ်မူ မိမိ၏ သေခြင်းမြင်မှုသည် အဆင့်အတန်းမြင့်သော ရုပ်ဓါတ်၌သတ္တဝါဘဝတွင် အခြေစိုက်မည်ဖြစ်၏။ အကယ်၍ နာမ်ဓါတ်တွင် လူသတ္တဝါ အဖြစ်နှင့် တည်နေနိုင်လောက်သော အင်အားရှိသည်ဖြစ်မူ မိမိ၏ သေခြင်းမြင်မှုသည် လူသတ္တဝါ၏ ကိုယ်ခန္ဓာတွင် အခြေစိုက်လိမ့်မည် ဖြစ်၏။

ကျွန်ုပ်တို့ လူ့ဘဝကို ရကြခြင်းမှာ ကျွန်ုပ်တို့၏ ပြီးခဲ့သော နောက်ဆုံးဘဝ အဆုံးသတ်ချိန်တွင် သေခြင်းမြင်မှုက ရုပ်ဓါတ်ဌ လူ့ဘဝနယ်သို့ ရောက်လာပြီး အခြေစိုက် နေခြင်းကြောင့် ဖြစ်၏။ ကျွန်ုပ်တို့၏ နာမ်ဓါတ် အသီးသီးသည် မိမိတို့၏ နောက်ဆုံးအတိတ်ဘဝက ကိုယ်ခန္ဓာကို စွန့်လွှတ်ခဲ့ကြပြီး နောက် လူသတ္တဝါဖြစ်ရန် လူ၏ ကိုယ်ခန္ဓာအတွင်းသို့ ရောက်လာပြီး အခြေစိုက် နေကြခြင်းကြောင့် ကျွန်ုပ်တို့သည် လူသတ္တဝါများဖြစ်လာကြခြင်း ဖြစ်၏။

## ရုပ်ဓါတ်ဌ သတ္တဝါတို့ ဖြစ်စဉ်

နယ်သစ်များသို့ ရောက်လာခါစ နာမ်ဓါတ်တို့က မိမိတို့၏ ရုပ်ဓါတ်ကိုယ်ခန္ဓာကို မည်ကဲ့သို့ တည်ဆောက်ကြပုံကို အတိအကျ မပေါ်ပြမီ နာမ်ဓါတ်တို့က မိမိတို့၏ ကိုယ်ခန္ဓာများကို တည်ဆောက်ရန် အသုံးပြုကြသော ရုပ်ဓါတ်နယ် အမျိုးမျိုး၏ သဘောကို နားလည်ရန် လို၏။

အကယ်၍ နေရာအသစ်ရှာ နေကြသော နာမ်ဓါတ်တို့၏ အင်အားသည် အင်မတိ အင်မတန် သေးငယ်သည်ဖြစ်မူ ထိုနာမ်ဓါတ်တို့၏ သေခြင်းမြင်မှုသည် ရုပ်ဓါတ်အငိုင်းနယ်များသို့သာ ရောက်နိုင်လိမ့်မည်ဖြစ်၏။ ထိုနာမ်ဓါတ်မျိုးတို့သည် မီးဓါတ်အတွင်း၌သာ အခြေစိုက်ကြလိမ့်မည်။ ထို့နောက်မှ မိမိတို့၏ မစင်ကြယ်မှု အင်အားများ လျော့ပါးလာသည့်အခါတွင် မီးဓါတ်ကို ပြုပြင်၍ မိမိတို့ဟာ မိမိတို့ ကြီးပွားလာကြလိမ့်မည်။ ထို့နောက် အင်အားအနည်းငယ်ပို၍ရှိကြသော နောက်ပေါ် နာမ်ဓါတ်တို့က ပထမ နာမ်ဓါတ်တို့ ပြုပြင်ထားသော မီးဓါတ်ကို ဆက်လက်၍ ခံယူကြလိမ့်မည်။ ထို့နောက် ထိုနာမ်ဓါတ်တို့က မိမိတို့၏ ပို၍ကောင်းသော နာမ်ဓါတ်များကို အသုံးပြုကြပြီးလျှင် မီးဓါတ်ကို နောက်ထပ်ကြီးပွားအောင် ဆက်၍ ပြုပြင်ကြလိမ့်မည်။

## ပထမ ကိုယ်ခန္ဓာ

အဆိုပါ မီးဓါတ်သည် အချိန်ကာလ အရှည်အကြာ သတ္တဝါ အမြောက်အများ၏ ပြုပြင်မှုကို ခံယူရရှိပြီး နောက် မိမိတို့၏ အသက်ရှင်မှုအလျင်အတွင်း၌ နောက်တွင် အင်အားဘိုးဘက်လမ်းရှိသော ပင်ရင်းအင်အားများကို ဆောင်ယူလာကြသည့် နာမ်ဓါတ်တို့ဆီသို့ ရောက်သွားကြလိမ့်မည်။အဆိုပါ နာမ်ဓါတ်တို့သည်

ပထမမူ ပြုပြင်ထားသော မီးဓါတ်ကို ခံယူနိုင်လောက်သော အင်အားသာရှိကြ၏။ ပြုပြင်ထားသော မီးဓါတ်ကို ရရှိထားကြသည့် နာမ်ဓါတ်တို့သည် မိမိတို့၏ အသက်ရှင်မှုအလျှင်အတွင်း၌ အင်အားတို့က သီးပွင့်လာကြခြင်းကြောင့် နောက်ထပ်အင်အားတိုးတက်လာကြ၏။ ဤနည်းဖြင့် အဆိုပါ နာမ်ဓါတ်တို့သည် ရေဓါတ်၊ လေဓါတ်နှင့် မြေဓါတ်တို့ကို ဆွဲငင်ယူနိုင်လောက်သော အင်အားနှင့် ပြည့်စုံလာကြ၏။

အဆိုပါ နာမ်ဓါတ်တို့က မီးဓါတ်၊ ရေဓါတ်၊ လေဓါတ်နှင့် မြေဓါတ် ဟု ဆိုအပ်သော မဟာဘုတ်ဓါတ်ကြီး လေးခုကို သိမ်းပိုက်လိုက်ကြသောအခါတွင် ဓါတ်ကြီးလေးခုတို့၏ အပြန်အလှန်တုန့်ပြန်မှုကြောင့် ရုပ်ကလာပ်သည် ဖြစ်ပေါ်လာ၏။ ဤနည်းဖြင့် နာမ်ဓါတ်တို့သည် ရုပ်ကလာပ်အတွင်းသို့ စ၍ ရောက်လာကြပြီးလျှင် ထိုရုပ်ကလာပ်တို့ကို မိမိတို့ အလိုရှိသလို ပြုပြင်ယူကြ၏။

ရုပ်ကလာပ်ဖြင့် ပေါ်လာသောအခါတွင် ထပ်ဖြည့်ဓါတ်တို့လည်း ဖြစ်ပေါ်လာကြ၏။ အဆင်း၊ အသံ၊ အနံ့၊ အရသာနှင့် အထိအတွေ့ဟု ဆိုအပ်သော အာရုံပို့မှုဓါတ်ငါးခုနှင့် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း ဟု ဆိုအပ်သော အခြင်းအရာဓါတ်သုံးခုတို့သည် ရုပ်ကလာပ်နှင့် တပြိုင်တည်း ဖြစ်ပေါ်လာကြ၏။ ထို့ပြင် ရုပ်ကလာပ်၏ အမြင်အားလုံးအတွင်းသို့ ထိုးဖောက်ပင် ရောက်နေရန်နှင့် ဓါတ်အမျိုးမျိုးတို့အား မိမိတို့ဟာ မိမိတို့ လုံးလုံးလျားလျား တသီးတခြားစီ တည်နေနိုင်စေရန် ထိန်းသိမ်းပေးဖို့အတွက် ဟင်းလင်းပြင်ဓါတ်သည်လည်း ရုပ်ကလာပ်နှင့် တပြိုင်နက် ဖြစ်ပေါ်လာ၏။

## ကိုယ်ခန္ဓာကို စနစ်တကျ တည်ဆောက်မှု

အဆိုပါ နာမ်ဓါတ်တို့၏ သက်တန်းပြီးဆုံးသွားသောအခါတွင် မိမိတို့နှင့် တဝအဆင့်အတန်းညီမျှ၍ ကိုယ်ခန္ဓာရှိသော သတ္တဝါတို့ ဖြစ်ပေါ်စေနိုင်လောက်အောင် အင်အားရှိကြသော အခြားနာမ်ဓါတ်တို့က တာဝန်ဆက်၍ ယူကြ၏။ သတ္တဝါတို့၏ ကိုယ်ခန္ဓာသည် ရုပ်ကလာပ်အဆင့်အတန်းသို့ ရောက်ရှိလာသောအခါတွင် နာမ်ဓါတ်တို့က အသက်ရှင်မှုအခြင်းအရာ အကုန်လုံး လောက်ကို ထကြွစွာ ဖြစ်ပေါ်စေကြ၏။ အထူးသဖြင့် အခြားနာမ်ဓါတ်တို့အား ပေါက်ပွားမှုရုပ်ဓါတ်အင်အားများကို ဖန်တီးပေးနိုင်လောက်အောင် အင်အားရှိသော အသက်ရှင်မှုအလျှင် (ဇီဝိတရုပ) ကို ဖြစ်ပေါ်စေ၏။

သတ္တဝါတို့သည် ရုပ်ကလာပ်အရွယ်ပမာဏထိ အောင်ကြီးပွားလာသော အခါတွင် လိင်ဓါတ်တို့လည်း ပေါ်လာကြ၏။ သို့ရာတွင် ကိုယ်ခန္ဓာသည် အရွယ်ပမာဏ အတော်ကြီးမားလာသည့် အဆင့်ကျမှသာ လိင်ဓါတ်တို့ ခွဲခြားနားမှုသည် ဖြစ်ပေါ်လာ၏။ ထို့ကြောင့် အဆင့်အတန်း အနိမ့်ကျဆုံးသော သတ္တဝါများတွင် အဖိုလိင်နှင့် အမလိင်နှစ်ခုစလုံး သည် ထကြွ၍သာ ဖြစ်ပေါ်ကြ၏။ ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာတွင်း၌ ဓါတ်တို့တွင် အဖိုလိင်အင်အားနှင့် အမလိင်အင်အားနှစ်ခုစလုံးရှိကြ၏။ ထို့ကြောင့် ထိုသတ္တဝါတို့သည် မိမိတို့ဟာ မိမိတို့ တဦးချင်း ပေါက်ပွားမှုကို ပြုနိုင်ကြ၏။

## အဆင့်အတန်းနိမ့်သော သတ္တဝါတို့ ပေါက်ပွားမှု

အဆင့်အတန်း အနိမ့်ကျဆုံးဖြစ်သော သတ္တဝါတို့အနက်၌ ပင်မီးဓါတ် တခုတည်းကို အမှီပြု၍ ဖြစ်ပေါ်နေကြသော သတ္တဝါမျိုးတည်းသာလျှင် မိဘနှစ်ပါး၏ အကူအညီမရဘဲနှင့် ပေါက်ပွားနိုင်၏။ (ပြပုံပါတီက။) ကျန်အခြားသော သတ္တဝါ အားလုံးမှာ မိဘတို့ဖြစ်သော သတ္တဝါတို့ ကိုယ်ခန္ဓာ၏ ကျေးဇူးမှ မကင်းလွတ်ကြ။ ပထမ ရုပ်ကလာပ်ဖြင့် ပေါ်လာသည့်အချိန်မှစ၍ အားလုံးသော သတ္တဝါတို့သည် လိင်ဓါတ်နှစ်မျိုးစလုံးကို ဖြစ်ပေါ်စေကြ၏။ ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာတို့သည် မိမိတို့ အမျိုးအနွယ် ပေါက်ပွားရန် လယ်မြေများ ဖြစ်ကြ၏။

မိမိတို့၏ အသက်ရှင်မှုအလျှင်အတွင်း၌ ရုပ်ကလာပ်တခုရှိ သတ္တဝါ သို့မဟုတ် ရုပ်ကလာပ်အများ၌ သတ္တဝါဖြစ်စေနိုင်လောက် အောင် အင်အားရှိကြ သော နာမ်ဓါတ်တို့တွင် အခြားအသက်ရှင်မှုဓါတ်များကို ဖြစ်ပေါ်စေနိုင်ရန် အတွက် လိုအပ်သော အင်အားရှိကြ၏။ ထို့ကြောင့် မိမိတို့၏ ကိုယ်ခန္ဓာများအတွင်း၌ ရုပ်ကလာပ်တို့ အစိုင်အခဲ ဖြစ်လာကြသောအခါတွင် အသက်ရှင်မှုဓါတ်အားလုံး ဖြစ်ပေါ်လာကြ၏။ အဆင့်အတန်းအနိမ့်ကျဆုံးဖြစ်သော သတ္တဝါတို့မှ ပေါက်ပွားလာ သည့် သတ္တဝါတို့သည် မိမိတို့၏ မိဘကိုယ်ခန္ဓာမှ အသက်ရှင်မှု အလျှင်ကိုသာလျှင် ရရှိ ကြ၏။ ကျန်လိုသော ဓါတ်များကို ပတ်ဝန်းကျင်ရှိ အရာဝတ္ထုတို့ဆီမှ စုပ်ယူကြ၏။

အသက်ရှင်မှုအလျှင်သည် အခန်းသုံးတွင် ဖော်ပြခဲ့သည့်အတိုင်းပင် အသက် ရှင်မှုဓါတ် (ဇီဝိတရုပ) ဖြစ်၏။ ထိုအလျှင်သည် သတ္တဝါအားလုံး၏ ကိုယ်ခန္ဓာထဲတွင် အင်အားအဖြစ်နှင့် တည်နေ၏။ ထိုအလျှင်သည် ကိုယ်ခန္ဓာအတွင်း၌ နာမ်ဓါတ်၏ လှုပ်ရှားမှုကြောင့်ဖြစ်ပေါ်လာ၏။ ထို့ကြောင့် ထိုအလျှင်သည် ရုပ်ဓါတ်ရှိသတ္တဝါတို့ ၏ ကိုယ်ခန္ဓာတခုလုံး၌ ပျံ့နှံ့၍တည်၏။ ထိုအလျှင်သည် အလွန်လျှင် သိမ်မွေ့လှသဖြင့် ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်သိမှုအာရုံတို့သည် ထိုအလျှင်ကို မသိနိုင်ကြ။

## မိဘ၏ ပုံသဏ္ဍာန်ကို ဆက်ခံမှု

အသက်ရှင်မှုအလျှင်တွင် မိမိတည်နေသော ပုံသဏ္ဍာန်နှင့် အတူအကျ တူသော ပုံသဏ္ဍာန်ကို ဖြစ်ပေါ်စေနိုင်သော အင်အား ရှိ၏။ ထိုအလျှင်သည် အသေးငယ်ဆုံးဖြစ်သော မိမိတည်နေရာ ကိုယ်ခန္ဓာ၌ပင် မိမိသက်ဆိုင်ရာ ကိုယ်ခန္ဓာ၏ အသေးစိပ် အစိပ်အပိုင်းအားလုံးကို ဖြစ်ပေါ်စေနိုင်၏။ ထို့ကြောင့် မိဘ၏ ပုံသဏ္ဍာန်ကို ခံယူ၍ ကိုယ်ခန္ဓာ ဖွဲ့စည်းနိုင်လောက်အောင် အင်အားရှိသော အသက်ရှင်မှု အလျှင်ရှိကြသည့် နာမ်ဓါတ်တို့သည် အလွန်သေးငယ်သော ပမာဏရှိသော အသက်ရှင်မှုအလျှင်ကို ခံယူကြပြီးလျှင် ထိုအလျှင်နှင့်အတူတကွ ပတ်ဝန်းကျင်မှ မိုးဓါတ်များကို ယူငင်၍ မိမိတို့၏ နေရာအသစ်ကို စ၍ တည်ဆောက်ကြ၏။ ထိုကဲ့သို့ မိမိတို့၏ နေရာအသစ်ကို တည်ဆောက်ရာတွင် အခြားမဟာဘုတ်ဓါတ်များကို ဆွဲယူခြင်းနှင့် ထိုမဟာဘုတ်ဓါတ်တို့ကို မုရုံး၍ ရုပ်ကလာပ်အသစ်များ တည်ဆောက်ခြင်းများလည်း ပါဝင်၏။ အမျိုးမျိုးသော ဓါတ်တို့ကို စုပေါင်းသည့် အစီအစဉ်နှင့် ထိုဓါတ်တို့ကို အဆောက်အအုံသစ် ဖွဲ့စည်းမှု ပုံစံတို့မှာ မိဘတို့၏ ကိုယ်ခန္ဓာမှ ရရှိလာခဲ့သော အသက်ရှင်မှုအလျှင်၏ အင်အားတို့အလိုက် ဖြစ်၏။

အသက်ရှင်မှုအလျှင်၏ အင်အားတို့ကြောင့် ဖြစ်ပေါ်လာသော ရုပ်ကလပ်အသစ်တို့သည် မိမိတို့အသက်ရှင်မှုအလျှင်ကို ခံယူလာခဲ့ရာဖြစ်သော သတ္တဝါတို့၏ ကိုယ်ခန္ဓာ ပုံသဏ္ဍာန်နှင့် ဂုဏ်အင်္ဂါများကို ရရှိကြ၏။ ဤနည်းဖြင့် တဆင့်မှ တဆင့်သို့၎င်း၊ သားစဉ်မြေးဆက် တဆက်မှ တဆက်သို့၎င်း၊ ဆက်၍ ဖြစ်နေကြပြီးလျှင် တဆင့်ထက်တဆင့် ကောင်းသော ကိုယ်ခန္ဓာများ ဖြစ်ပေါ်လာကြ၏။

## အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ လိင်ဓါတ်ဖြစ်ပေါ်ပုံ

နာမ်ဓါတ်၏ အသက်ရှင်မှုအလျှင်အင်အားတိုးတက်လာသောအခါတွင် ခန္ဓာကိုယ်တို့သည် တိုးတက်၍လာကြ၏။ ထိုအခါတွင် အသက်ရှင်မှု အလျှင်အတွင်းသို့ မဟာဘုတ်ဓါတ်များ ပို၍ ဝင်လာပြီးလျှင် ပို၍ကောင်းသော အသက်ရှင်မှုဓါတ်များလည်း ဖြစ်ပေါ်လာ၏။ ကိုယ်ခန္ဓာအတွင်းသို့ မဟာဘုတ်ဓါတ်များ ပို၍ ဝင်လာသောအခါတွင် ကိုယ်ခန္ဓာ အရွယ်ပမာဏသည် ကြီးမား၍လာ၏။ ဤနည်းဖြင့် ကိုယ်ခန္ဓာတို့၏ အရွယ်ပမာဏနှင့် အင်အားတို့သည် ဆက်လက်၍ တိုးပွားကြ၏။

ကိုယ်ခန္ဓာတို့၏ အင်အားသည် ထိုက်လျောက်စွာ ကြီးမားလာသော အခါတွင် လိင်အင်အားများသည် ပြင်းထန်စွာ ဖြစ်ပေါ်လာကြပြီးလျှင် ဘဝဖြစ်မှုအစဉ်သည် လုံးလုံးလျားလျား ပြောင်းလဲသွား၏။ ယေဘုယျအားဖြင့် အဆင့်အတန်းအနိမ့်ဆုံးဖြစ်သော သတ္တဝါများ၏ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်သော အရာဝတ္ထုတို့တွင် အဖိုလိင်နှင့် အမလိင်နှစ်ခုလုံးသည် ထကြွစွာ တည်နေနိုင်၏။ ထိုသတ္တဝါတို့၏ သိမ်မွေ့သော ကိုယ်ခန္ဓာများထဲတွင် အဖိုလိင်နှင့်အမလိင်နှစ်ခုလုံးသည်ထကြွစွာအတူတကွ တည်နေကြ၏။ သို့ရာတွင် သတ္တဝါတို့သည် တိုးတက်၍လာကြသောအခါတွင် ကိုယ်ခန္ဓာတို့သည် အလွန်စနစ်တကျ ဖြစ်လာကြသဖြင့် လိင်နှစ်မျိုးတို့ ယှဉ်တွဲ၍ ထကြွစွာ နေနိုင်ရန် အစီအစဉ်သည် လုံလောက်ခြင်း မရှိတော့။ ထို့ကြောင့် အဆိုပါ သတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ လိင်ဓါတ်တမျိုးသာလျှင် ထကြွစွာ နေနိုင်ပြီးလျှင် ကျန်လိင်ဓါတ်မှာ ငုပ်လျှိုး၍ နေရ၏။

<u>လိင်ဓါတ်တို့၏ ဂုဏ်အင်္ဂါများ</u>

အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ လိင်ဓါတ်တို့ အင်အားကြီးစွာဖြင့် ထကြွစွာ ရှိလာလေလေ အင်အားပြည့်သော လိင်ဓါတ်သည် ကြီးပွားနိုင်ခွင့်မရလေလေ ဖြစ်၏။ အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ လိင်ဓါတ် ဖြစ်စဉ်သည် ကိုယ်ခန္ဓာတခုလုံးကို အကြီးအကျယ် ပျောက်ချားစေ၏။ လိင်ဓါတ်၏ တုန့်ပြန်မှုတို့သည် ကိုယ်ခန္ဓာ တခုလုံး၌ အင်္ဂါ အစိတ်အပိုင်း အကုန်လုံးသို့၎င်း၊ အရာဝတ္ထု အကုန်လုံးသို့၎င်း၊ ဓါတ်အကုန်လုံးသို့၎င်း ပြန့်နှံ့၏။ အကယ်၍ တစုံတခုသော ကိုယ်ခန္ဓာသည် အဖိုလိင်ဓါတ်ဘက်သို့ လှည့်၍သွားသည်ဖြစ်မူ ထိုကိုယ်ခန္ဓာ တခုလုံးတွင် အဖိုဂုဏ်အင်္ဂါတို့ဖြစ်ပေါ်လာ၏။ အကယ်၍ တစုံတခုသော ကိုယ်ခန္ဓာသည် အမလိင်ဓါတ်ဘက်သို့ လှည့်၍သွားသည်ဖြစ်မူ ထိုကိုယ်ခန္ဓာ တခုလုံးတွင် အမဂုဏ်အင်္ဂါများ ဖြစ်ပေါ်လာ၏။ ထို့ကြောင့် ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်း၌ အင်္ဂါအစိတ်အပိုင်း အကုန်လုံး၊ အရာဝတ္ထုအကုန်လုံး၊ ဓါတ်အကုန်လုံးတွင် လိင်ဓါတ် ဂုဏ်အင်္ဂါများ ရှိနေကြ၏။

ဖွံ့ဖြိုးခြင်းမရှိသော လိင်ဓါတ်တို့သည် ကိုယ်ခန္ဓာ တခုလုံးကို ထုဝိနှောင်ထားသော အင်အားကို ဖြစ်ပေါ်စေ၏။ အထူးသဖြင့် အသက်ရှင်မှုအလျင်၏ ပေါက်ပွားမှုသည် ဖွံ့ဖြိုးခြင်းမရှိသော လိင်ဓါတ်တို့၏ ဒဏ်ကို အပြင်းအထန်ခံရ၏။ ထိုသို့

ဖြစ်သောအခါတွင် အသက်ရှင်မှုအလျှင်သည် အခြားနာမ်ဓါတ်တို့အား နေရာအသစ်များကို တည်ဆောက်ကြရာ၌ မိမိက လုပ်ဆောင်ပေးခြင်းဖြစ်သော ပုံစံထုတ်ပေးမှုနှင့် အုတ်မြစ်ချပေးမှုတို့ကို လုပ်ဆောင်ပေးနိုင်ခြင်း မရှိတော့။ ထိုအသက်ရှင်မှုအလျှင်မှာ ငုတ်လျှိုးနေသော လိင်ဓါတ်၏ ချုပ်နှောင်မှုဖြင့် ကိုယ်ခန္ဓာတွင် မလှုပ်မရှားသာအောင် ညှိဘွယ်နေရသောကြောင့် အသက်ရှင်မှုအလျှင်သစ်စ၍ တည်ထောင်လိုသော နာမ်ဓါတ်အသစ်တို့သည် ထိုငုတ်လျှိုးနေသော လိင်ဓါတ်၏ ချုပ်နှောင်မှုကို ချိုးဖျက်နိုင်တော့မည် မဟုတ်။ အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ ကိုယ်ခန္ဓာများသည် တခုတည်းသော လိင်အင်အား၏ ပြုပြင်သမျှကိုသာ ခံနေရသဖြင့် ထိုသတ္တဝါတို့၏ အသက်ရှင်မှုအလျှင်တို့ကို ပဋိသန္ဓေယူလာသော သတ္တဝါအသစ်တို့က အသုံးမပြုနိုင်ကြတော့။

## လိင်ဓါတ်၏ ချုပ်နှောင်မှု ပျက်ပြယ်ခြင်း

သို့ရာတွင် မိမိတို့နှင့် မွေးမြူးမှုအခြေအနေချင်းတူသော ဆန့်ကျင်ဘက် လိင်ဓါတ်ထကြွလျှက်နေသော ကိုယ်ခန္ဓာတို့ အတွင်းရှိ အသက်ရှင်မှုအလျှင်တို့နှင့် ပေါင်းစပ်လိုက်သောအခါတွင် ငုတ်လျှိုး၍နေသော လိင်ဓါတ်တို့၏ ချုပ်နှောင်မှုအင်အားသည် ပျက်ပြယ်၍သွား၏။ ထိုကဲ့သို့ ပေါင်းစပ်၍ဖြစ်ပေါ်လာသော အသက်ရှင်မှုအလျှင်တွင် လိင်ဓါတ်နှစ်မျိုးလုံးသည် အညီအမျှ ရှိကြ၏။ ဥပမာဆိုသော် အဆင့်အတန်း အနိမ့်ဆုံးဖြစ်သော သတ္တဝါတို့၏ ကိုယ်ခန္ဓာများမှာကဲ့သို့ဖြစ်၏။ ထိုအခါမျိုးတွင် အသက်ရှင်မှုအလျှင်မှာ ငုတ်လျှိုးနေသော လိင်ဓါတ်၏ ချုပ်နှောင်မှုမှ လွတ်မြောက်သွား၏။ ဤနည်းဖြင့် မိမိတို့၏ အသက်ရှင်မှုအလျှင် အင်အားအလိုက် ကြီးပွားနိုင်ခွင့်ရှိသော သတ္တဝါအသစ်တို့သည် ပေါင်းစပ်ထားသော အသက်ရှင်မှုအလျှင်၏အင်အားကိုရပြီးလျှင် မိမိတို့က မိမိတို့ ကြီးပွားနိုင်ခွင့်ရကြ၏။

လိင်ဓါတ်ခြားနားမှုရှိသော သတ္တဝါများအနက် အဆင့်အတန်းနိမ့်သော သတ္တဝါများသည်သာလျှင် အသက်ရှင်မှုအလျှင်ချင်း ပေါင်းစပ်မှုကို ဖြစ်စေနိုင်၏။ ဤနည်းဖြင့် အခြားနာမ်ဓါတ်တို့ တည်ဆောက်ကြရမည့် နေရာအမျိုးအစားအတွက် အခြေအနေကို ပြုပြင်ပေးနိုင်၏။ ယေဘုယျအားဖြင့် အဆင့်အတန်းနိမ့်သော သတ္တဝါတို့သည် ရောက်လာသော နာမ်ဓါတ်တို့၏ ကိုယ်ခန္ဓာတည်ဆောက်မှုတွင် ကာယကံမှု အကူအညီကို မပေးနိုင်ကြ။

## အဆင့်အတန်းမြင့်သော သတ္တဝါတို့ပေါက်ပွားမှု

အချို့သော အဆင့်အတန်းနိမ့်သည့် သတ္တဝါများသည် အလွန့်အလွန် သေးငယ်၍ အင်အားနည်းပါးကြလှသဖြင့် အသက်ရှင်မှုဓါတ်တို့ ကာယကံမြောက် ပေါင်းစပ်ကြသည့်အခါတွင် မိမိတို့၏ ပေါင်းစပ်မှုမှ ဖြစ်ပေါ်လာမည့် သတ္တဝါအသစ်တို့ကြီးပွားနိုင်ကြစေခြင်း အကျိုးငှါ မိမိတို့ကိုယ်တိုင် သေပေးကြရ၏။ ထိုသတ္တဝါတို့သည် အဆင့်အတန်းမြင့်သော သတ္တဝါများဖြစ်ကြသဖြင့် ပို၍ကြီးပွားသော ကိုယ်ခန္ဓာရှိကြပြီးလျှင် မိမိတို့၏ အသက်ရှင်မှုဓါတ်တို့နှင့် ဆန့်ကျင်ဘက်ဖြစ်သော လိင်ဓါတ်နှစ်ခုတို့နှင့် ပေါင်းစပ်ကြရာတွင် မိမိတို့၏ မိဘဖြစ်သော သတ္တဝါတို့အား ကြီးကျယ်သော ဆင်းရဲမှုကို မဖြစ်ပေကြ။

လူသတ္တဝါတို့နှင့် အဆင့်အတန်းမြင့်သော တိရစ္ဆာန်တို့ကဲ့သို့သော အဆင့်အတန်း အမြင့်ဆုံးသတ္တဝါတို့တွင် အမသတ္တဝါတို့က မိမိနှင့်အမျိုးတူသတ္တဝါဖြစ်သော အဖိုသတ္တဝါ၏ ကိုယ်ခန္ဓာမှ ရရှိသော လိုအပ်သည့် ပေါင်းစပ်ပြီးဖြစ်သော အသက်ရှင်မှုဓါတ်ကို ပေး၏။ အဆင့်အတန်းမြင့်သော သတ္တဝါအမတို့သည် ပေါင်းစပ်ပြီးအသက်ရှင်မှုဓါတ်ကိုသာ ပေး၍ စောင့်ရှောက်မှုမပေးကြသော အဆင့်အတန်းနိမ့်သော သတ္တဝါတို့နှင့်မတူ။ လိုအပ်သော အသက်ရှင်မှုဓါတ်ကို ပေးရုံမျှမကဘဲ ဖြစ်ပေါ်လာသော သတ္တဝါအသစ်တို့ကိုလည်း ခိုအောင်းရာ နေရာကို ပေးခြင်း၊ အစာကို ပေးခြင်းတို့ဖြင့် အလွန် လျောက်ပတ်သော စောင့်ရှောက်မှုကို ပေးကြ၏။

## အစာနှင့် ကြီးပွားမှု

အာဟာရဓါတ်၏ အစဉ်ကို သိမှသာလျှင် လိင်ဓါတ်၏သဘောကို အသေးစိတ် နားလည်နိုင်လိမ့်မည်။ ဤအချက်နှင့်ပတ်သက်၍ အစာနှင့်အာဟာရဓါတ် (အာဟာရရူပ) တို့ မတူကြသည့်အကြောင်းကို သတိပြုအပ်၏။ အာဟာရဓါတ်အကြောင်းကို အသက်ရှင်မှုဓါတ်များအကြောင်းကို ဖော်ပြသော အခန်းတွင် ဆိုခဲ့ပြီ။

အသီးသီးသော ကိုယ်ခန္ဓာတို့သည် မိမိတို့အတွက် နောက်ထပ်လိုအပ်သော ဓါတ်များကို အာဟာရဓါတ်မှ တဆင့် ထုတ်ယူကြ၏။ အစာထဲက မဟာဘုတ်ဓါတ်တို့သည် ကိုယ်ခန္ဓာထဲသို့ အလွယ်တကူနှင့် ရောက်ရှိနိုင်သော အခြေအနေရှိကြ၏။ သတ္တဝါတိုင်းတွင် ရှိကြသော အာဟာရဓါတ်သည် အင်အားတမျိုးဖြစ်၏။ အာဟာရဓါတ်၏ တာဝန်မှာ အဆင့်အတန်းမြင့်သော ရုပ်ဓါတ်ရှိ သတ္တဝါတို့၏ ကိုယ်ခန္ဓာကို တည်ဆောက်ရာတွင် လိုအပ်သော ဓါတ်အမျိုးမျိုးကို ရွေးချယ်၍ ပေးရန်ဖြစ်၏။

## အစာလိုသောအချိန်

အဆင့်အတန်းနိမ့်သော သတ္တဝါတို့သည် မိမိတို့၏ ကိုယ်ခန္ဓာကို တည်ဆောက်ရန်အတွက် မိုးဓါတ်တခုတည်းသာလိုကြောင်းကို ဖော်ပြခဲ့ပြီ။ အဆိုပါ သတ္တဝါမျိုးတို့သည် မိမိတို့၏ နာမ်ဓါတ်အင်အားတို့ အဆင့်အတန်းမြင့်သော သတ္တဝါအဖြစ်သို့ ရောက်နိုင်လောက်အောင် မကြီးပွားမခြင်း မိုးဓါတ်တခုတည်းနှင့်သာ နေကြ၏။ အဆိုပါ အဆင့်အတန်းဝင် သတ္တဝါတို့အတွက် အာဟာရဓါတ်သည် မလို။ အဘယ့်ကြောင့်ဆိုသော် ထိုသတ္တဝါတို့သည် နောက်ထပ်ဓါတ်များကို ခွဲယူနိုင်သော အင်အား မရှိကြသောကြောင့် ဖြစ်၏။

အဆင့်အတန်းမြင့်သောဘဝသို့ ရောက်ရှိလာကြသည့် သတ္တဝါတို့သည် အာဟာရဓါတ်အင်အားများနှင့် ကင်း၍မနေနိုင်။ သတ္တဝါတို့၏ ရုပ်ဓါတ်ရှိဘဝ အခြေစိုက်ရာဖြစ်သော မိုးဓါတ်သည် သက်ဆိုင်ရာနာမ်ဓါတ်တို့တွင် ထိုက်လျောက်သောအင်အား ရှိကြသည်ဖြစ်မူ အာဟာရဓါတ်ကို ဖြစ်ပေါ်စေနိုင်၏။ ထိုသို့ဖြစ်ပေါ်စေသည့်အာဟာရဓါတ်သည် ပတ်ဝန်းကျင်မှ မိုးဓါတ်၊ လေဓါတ်၊ ရေဓါတ်နှင့် မြေဓါတ်တို့ကို နောက်ထပ်ထုတ်ယူ၏။ နောက်ဆုံးတွင် ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာသည် ရုပ်ကလာပ်များ ဖြစ်လာကြ၏။ အကယ်၍ ထိုသတ္တဝါတို့၏ နာမ်ဓါတ်တို့သည် ကြီးသော အင်အားရှိသည်ဖြစ်မူ ထိုသတ္တဝါတို့၏ အာဟာရဓါတ်က နောက်ထပ်မဟာဘုတ်ဓါတ်ကြီးလေးခုကို ထုတ်ယူကြပြီးလျှင် မိမိတို့၏ ကိုယ်ခန္ဓာများပြည့်အောင်သွင်းထားကြ၏။ မဟာဘုတ်ဓါတ်ကြီးလေးခုတို့သည် ပေါင်းစပ်၍ ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာများကို ဖြစ်ပေါ်စေကြ၏။

## အာဟာရဓါတ် ပင်ရင်းဌာနများ

အာဟာရဓါတ်သည် နောက်ထပ်လိုသော မဟာဘုတ်ဓါတ်ကြီးလေးခုစလုံးကို သဘာဝအခြေအနေမှ ထုတ်ယူမည်ဆိုလျှင် ဖြစ်နိုင်၏။ သို့ရာတွင် ယေဘုယျအားဖြင့် သဘာဝသက်မဲ့ အရာဝတ္ထုများအတွင်း၌ ရှိကြသည့် မဟာဘုတ်ဓါတ်တို့သည် မိမိတို့ သက်ဆိုင်ရာ အရာဝတ္ထုတို့ကို အလွန်တင်းကြပ်စွာ ဆွဲငင်၍ထားကြသဖြင့် ယေဘုယျသတ္တဝါတို့တွင် ရှိကြသော အာဟာရဓါတ်၏ အင်အားနှင့် မမျှအောင် ဖြစ်တတ်၏။ သို့ရာတွင် သက်ရှိသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်းသို့ ရောက်လာကြသည့် မဟာဘုတ်ဓါတ်ကြီးတို့သည် အမြဲတန်း ပျော့ပျောင်းနေကြပြီးလျှင် သဘာဝသက်မဲ့ အရာဝတ္ထုများထဲတွင်ရှိသော မဟာဘုတ်ဓါတ်များကဲ့သို့ ခိုင်မာသော အစိုင်အခဲဖြစ်၍ မသွားကြ။

နာမ်ဓါတ်တို့၏ အသက်ရှင်မှုအလျင်သည် အင်အားကြီး၍လာသောအခါတွင် ဘဝ်မက်မှုအင်အားတို့သည် ထိုနာမ်ဓါတ်များအတွင်းသို့ ပြည့်လျှံအောင် ထိုးဝင်ကြ၏။ နာမ်ဓါတ်တို့သည် ကြီးမားသော ကိုယ်ခန္ဓာများကို တည်ဆောက်နိုင်လောက်အောင် အင်အားကြီး၍လာကြသောအခါတွင် ဘဝ်မက်မှုအင်အားတို့က မိမိတို့အင်အားကို အနည်းငယ်မျှသာ အသုံးပြုပြီးလျှင် မဟာဘုတ်ဓါတ်များကို များနိုင်သမျှ များစွာ ထုတ်ယူကြ၏။ သဘာဝ အရာဝတ္ထုများမှ မဟာဘုတ်ဓါတ်များကို ထုတ်ယူရသော အလုပ်သည် နာမ်ဓါတ်အင်အားအလွန်ကုန်ခမ်းသော အလုပ်ဖြစ်၏။ ထို့ကြောင့် နာမ်ဓါတ်သည် မဟာဘုတ်ဓါတ်များကို အင်အားအနည်းငယ်မျှသာသုံး၍ ထုတ်ယူရန်ပြဿနာကို ဖြေရှင်းသောသဘောဖြင့် မိမိ၏ ပတ်ဝန်းကျင်မှ မဟာဘုတ်ဓါတ်တို့ တင်းကြပ်စွာ ပူးပေါင်းမနေသော အရာဝတ္ထုတို့ကို ရှာဖွေ၏။

<u>သက်ရှိရုပ်ဓါတ်တို့၏ ပျော့ပျောင်းခြင်း</u>

သက်ရှိသတ္တဝါတို့အတွင်း၌ ရှိသော အရာဝတ္ထုတို့သည် သဘာဝသက်မဲ့အရာဝတ္ထုတို့ကဲ့သို့ ခိုင်မြဲစွာ အစိုင်အခဲဖြစ်မနေကြ။ အဘယ့်ကြောင့်ဆိုသော် သက်ဆိုင်ရာ နာမ်ဓါတ်တို့က ထိုအရာဝတ္ထုတို့ကို အလွယ်ကူဆုံး ပြုပြင်ချင်သလို ပြုပြင်နိုင်ရန်အတွက် မိမိတို့၏ အင်အားတို့ဖြင့် ရင်အုပ်မကွာ ထိန်းသိမ်းထားကြသောကြောင့်ဖြစ်၏။

ထို့ကြောင့် သက်ရှိသတ္တဝါတို့၏ ကိုယ်ခန္ဓာများအတွင်း၌ လှည့်လည်နေကြသည့် ရုပ်ဓါတ်တို့သည် အခြားနာမ်ဓါတ်တို့၏ အဟာရဓါတ်တို့က မိမိတို့အလိုရှိသောနောက် ထပ်မဟာဘုတ်ဓါတ်များကို ထုတ်ယူနိုင်ရန်အတွက် အရာဝတ္ထု တည်ရာပင်ရင်းဌာနများဖြစ်၏။ နာမ်ဓါတ်အင်အားကောင်းသော သက်ရှိသတ္တဝါတို့တွင် ဝမ်းတွင်းဥာဏ်လှိုင်းများ ရှိကြ၏။ ထိုလှိုင်းတို့က ဘယ်နေရာတွင် မဟာဘုတ်ဓါတ်တို့ ပျော့ပျောင်းစွာရှိကြသည့် အရာဝတ္ထုတို့ရှိသည်ကို သိကြ၏။ တနည်းဆိုသော် နာမ်ဓါတ်၏ အသက်ရှင်မှု အလျင်အင်အားကောင်းသော သတ္တဝါတို့သည် မည်သည့်နေရာတွင် ပျော့ပျောင်းသော အရာဝတ္ထုများရှိသည်ကို သိကြ၏။ အခြားသက်ရှိသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ရှိလျှင်လည်း သိကြ၏။ သဘာဝ သက်မဲ့ အရာဝတ္ထုများအတွင်း၌ ရှိလျှင်လည်း သိကြ၏။

ရုပ်ပါဒ်ရှိ သတ္တဝါတို့က မိမိတို့၏ ကိုယ်ခန္ဓာများကို တည်ဆောက်ရန် လိုအပ်သော မဟာဘုတ်ဓါတ်ကြီး လေးခုလုံးသည် သက်မဲ့အရာဝတ္ထုများထဲတွင်ရှိ၏။ ထို့ရာတွင် အနည်းငယ်သော သက်မဲ့အရာဝတ္ထုများထဲ၌သာ နာမ်ဓါတ်တို့က ပြုပြင်၍ ထုတ်ယူနိုင်လောင်အောင် ပြော့ပျောင်းနေသော အရာဝတ္ထုများရှိကြ၏။ အကယ်၍ ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် လျောက်ပတ်စွာ အင်အားကောင်းသည်ဖြစ်မူ မြေ၊ ရေ၊ လေ၊ မီး၊ မဟာဘုတ်ဓါတ်ကြီး လေးခုမှ ကျွန်ုပ်တို့ လိုသမျှသော အာဟာရဓါတ်တို့ကို ထုတ်ယူနိုင်မည်ဖြစ်၏။ ရေဓါတ်ကို နာမ်ဓါတ်တို့က ထုတ်ယူနိုင်လောက်အောင် ပြော့ပျောင်းမှုကိုပြုပေသော ရေမှတပါး အခြားသောသက်မဲ့ အရာဝတ္ထုတို့မှာ အလွန်ခိုင်မာစွာ အစိုင်အခဲဖွဲ့၍ နေကြသည့်အတွက် လူသတ္တဝါက တိုက်ရိုက်ထုတ်၍ မယူနိုင်ကြ။

## အစာရှာမှုတွင် အလွယ်လိုက်သော ခေတ်

အဆင့်အတန်း အနိမ့်ဆုံးဖြစ်သော ရုပ်ပါဒ်ရှိ သတ္တဝါတို့သည် မိမိတို့ အလိုရှိသမျှ မဟာဘုတ်ဓါတ်ကြီး လေးခုကို ဟင်းလင်းပြင်ဓါတ်မှ၄င်း၊ သက်မဲ့အရာဝတ္ထုများမှ၄င်း တိုက်ရိုက်ယူနိုင်ကြသော်လည်း အဆင့်အတန်းမြင့်သော ဘဝသို့ ရောက်နေကြသော သတ္တဝါတို့သည် အသိဉာဏ်လွန်စွာကြီးလာကြသဖြင့် မိမိတို့ အလိုရှိသော မဟာဘုတ်ဓါတ်ကြီးများကို လွယ်ကူ၍ သက်သာသော နည်းများဖြင့် ရှာကြ၏။ အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် အခြားသတ္တဝါတို့ လုပ်ထားသော အရာများပေါ်မှ အမြတ်ထုတ်ကြ၏။ မိမိတို့၏ ကိုယ်ခန္ဓာကို တည်ဆောက်ရန်လိုသော မဟာဘုတ်ဓါတ်များသည် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာများထဲတွင် ပြော့ပျောင်းသောအပြင်နှင့် အဆင့်သင့်စုဆောင်းထားနှင့်ပြီးဖြစ်နေသည်ကို အဆင့်အတန်းမြင့်သော သတ္တဝါတိုင်းက သိကြ၏။ ဤသို့ သိကြသဖြင့် ပဝမက်မှု အင်အားတို့သည် ကြီးစွာဖြစ်ပေါ်လာကြ၏။ မိမိတို့၏ ကိုယ်ခန္ဓာများကို တည်ဆောက်ရန်အတွက် ပြော့ပျောင်းသော အရာဝတ္ထုတို့ကို လုယူသော ဆန္ဒသည် ကြီးမားလှသဖြင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် မိမိတို့၌ မည်သည့် အရာများလိုသည်ကို နားလည်နိုင်သော အခြေရှိကြသော်လည်း ပြုလုပ်မှုတို့၏ သဘောကို မသိကြခြင်းကြောင့် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ရှိသော ပြော့ပျောင်းသော အရာဝတ္ထုတို့ကို လုယက်ကာ မဖွယ်ရာသော အမှုကို ပြုကြ၏။

ရုပ်ဓါတ်အင်အားနှင့် နာမ်ဓါတ်အင်အားတို့သည် အမြဲတန်း တခုနှင့်တခု ကျေးဇူးပြုလျက်ရှိ၏။ သတ္တဝါတို့၌ ကြီးသော ရုပ်ဓါတ်အင်အားရှိခြင်းမှာ ထိုသတ္တဝါတို့၌ကြီးသော နာမ်ဓါတ်အင်အားရှိခြင်းကြောင့်ဖြစ်၏။ ထိုနည်းတူစွာပင် အင်အားသေးငယ်သော ကိုယ်ခန္ဓာရှိသော သတ္တဝါတို့တွင် အင်အားသေးငယ်သော နာမ်ဓါတ်ရှိကြ၏။ သို့ရာတွင် အကယ်၍အင်အားသေးငယ်သော ကိုယ်ခန္ဓာရှိသော သတ္တဝါတွင် နာမ်ဓါတ်အင်အားများ များစွာရှိမူ ထိုသတ္တဝါတို့သည် မိမိတို့၏ ရုပ်ဓါတ်အင်အားသေးငယ်မှုကို ကာကွယ်နိုင်ရန်အတွက် ပတ်ဝန်းကျင်သိမှုအာရုံများနှင့် အသိဥာဏ်တို့ကို ဖြစ်ပေါ်စေနိုင်၏။

## အဘယ့်ကြောင့် အားနည်းသော သတ္တဝါသည် အားကြီးသော သတ္တဝါ၏ အစာဖြစ်ရခြင်း

လူသတ္တဝါနှင့် တိရစ္ဆာန်တို့ကဲ့သို့သော အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် မိမိတို့၏ နာမ်ဓါတ်အင်အားအဘော်များစွာကို အာရုံများဖြစ်ပေါ်လာစေမှုနှင့် အသိဥာဏ်များဖြစ်ပေါ်လာစေမှုအတွက် အသုံးပြုကြ၏။ သို့ရာတွင် အဆင့်အတန်းနိမ့်သောသတ္တဝါတို့တွင်မူ အင်အားပြော့သော အာရုံများနှင့်အသိဥာဏ်များရှိကြ၏။ ဤအကြောင်းကြောင့်ပင် ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာများသည် ကြီးမားခြင်းဖြစ်၏။ ဥဒါဟရဏ်ဆိုသော် တောထဲကသစ်ပင်ကြီးတို့တွင် အလွန်အင်အားပြော့သော အာရုံများသာရှိကြ၏။ ထိုသစ်ပင်ကြီးတို့၏ နာမ်ဓါတ်သည် မိမိတို့၏ အင်အားများစွာကို မိမိတို့၏ ရုပ်ခန္ဓာကို ကြီးမားအောင်တည်ဆောက်ရန်အတွက်သာ အသုံးပြုကြ၏။ သို့ရာတွင် လူသတ္တဝါတို့တွင် သစ်ပင်ကြီးတို့၏ ကိုယ်ထည်နှင့်နှိုင်းစာလျှင် သေးငယ်သော ကိုယ်ခန္ဓာသာရှိကြ၏။ လူသတ္တဝါတို့သည် မိမိတို့ နာမ်ဓါတ်အင်အားအပြောက်အများကို အာရုံများနှင့် အသိဥာဏ်များဖြစ်ပေါ်စေမှု၌သာ အသုံးပြုကြ၏။ စကြာဝဠာအတွင်းရှိ အမျိုးမျိုးသော သတ္တဝါတို့၏ ရုပ်ဓါတ်အင်အားကြီးခြင်း၊ သေးခြင်းတို့သည် မည်သည့်အကြောင်းကြောင့်ပင် ဖြစ်စေကာမူ ဤကမ္ဘာမြေကြီးပေါ်ရှိ သတ္တဝါများသည် တဦးကိုတဦးက စား၍နေကြ၏။ အကယ်၍အစာလိုချင်သော သတ္တဝါတို့သည် အင်အားကြီးသည်ဖြစ်မူ ထိုသတ္တဝါတို့က အင်အားနည်းသော သတ္တဝါတို့ကို သတ်၍စားကြ၏။ အင်အားနည်းသော သတ္တဝါတို့ကမူ အင်အားကြီးသော သတ္တဝါတို့ကို စားကြရန်အတွက် ထိုသတ္တဝါတို့ အသေကို စောင့်နေကြ၏။ တခါတရံလည်း ထိုသတ္တဝါတို့ အသက်ရှင်နေစဉ်၌ပင် ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်းသို့ မမှတ်မထင် ဝင်ရောက်မှုဘက်ပွဲ ပရိယာယ်ကို အသုံး

ပြုကြ၏။ ဤနည်းဖြင့် အင်အားသေးသော သတ္တဝါတို့သည် အင်အားကြီးသော သတ္တဝါတို့၏ ကိုယ်ခန္ဓာကို စားနိုင်ကြ၏။ အင်အားအကြီးဆုံးဖြစ်သော ကိုယ်ခန္ဓာတို့သည်ပင်လျှင် သေသောအခါတွင် အင်အားအသေးဆုံးသတ္တဝါတို့ထက် အင်အားနည်းရှိသွား၏။ ထို့ကြောင့် အစာရှာမှု ဓမ္မတာမှာ ယေဘုယျအားဖြင့် အင်အားကြီးသော သတ္တဝါတို့က အင်အားသေးသော သတ္တဝါတို့ကို စားခြင်းဖြစ်သည်ဟု ဆိုနိုင်၏။

## ကိုယ်ခန္ဓာကြီးမားခြင်းနှင့်ထပ်ဖြည့်ခြင်း

သတ္တဝါတို့၏ အတွင်းပါ ဘဝ်မက်မှု အင်အားများနှင့် ပျင်းရိခြင်းတို့ကြောင့် သတ္တဝါအချင်းချင်း မိမိတို့၏ ကိုယ်ခန္ဓာကြီးပွားမှုအတွက် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာကို အမှီပြုရမှု ဖြစ်ပေါ်လာခြင်းဖြစ်၏။ ကိုယ်ခန္ဓာ အသီးသီးတို့သည် ပတ်ဝန်းကျင်ရှိ အရာဝတ္ထုတို့၏ ပြုပြင်မှုကို ခံကြရ၏။ ၎င်းတို့၏ ကိုယ်ခန္ဓာအတွင်းသို့ ၎င်းတို့သွတ်သွင်းလိုက်ကြသော အရာဝတ္ထုအမျိုးမျိုးသည် ပတ်ဝန်းကျင်လေထုက ထုတ်ယူမှုကြောင့် ၎င်းတို့၏ ကိုယ်ခန္ဓာအတွင်းမှ လွတ်မြောက်သွားကြ၏။ အဟာရဓာတ်၏ အဓိကတာဝန်မှာ အဆိုပါနည်းဖြင့် ဆုံးရှုံးသွားသည့် မဟာဘုတ်ဓာတ်များအစား မဟာဘုတ်ဓာတ်အသစ်များကို ယူငင်ပေးရန်ဖြစ်၏။ အဟာရဓာတ်၏ အခြားတာဝန်မှာ မိမိသက်ဆိုင်ရာ ကိုယ်ခန္ဓာကို လိုအပ်သော နေရာတွင် တိုးချဲ့ပေးနိုင်ရန်အတွက် မဟာဘုတ်ဓာတ်များကို ပို၍ရှာပေးရန်ဖြစ်၏။

သက်ရှိသတ္တဝါအသီးသီးတို့အတွင်း၌ ရှိကြသော နာမ်ဓာတ်တို့သည် မိမိတို့ သက်ဆိုင်ရာ ကိုယ်ခန္ဓာတို့အတွင်း၌ ထိုက်လျောက်စွာ ထုထဲသော ရုပ်ဓာတ်များရှိနေအောင် ထိန်းသိမ်းပေးကြ၏။ ယေဘုယျအားဖြင့် သတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ရှိသော ရုပ်ဓာတ်တို့၏ ထုထဲခြင်းနှင့် ထိုသတ္တဝါတို့ နေထိုင်ရာ လေထုအတွင်းရှိ ရုပ်ဓာတ်တို့၏ ထုထဲခြင်းသည် ခြားနား၏။ ဥဒါဟရဏ်ဆိုသော် လူသတ္တဝါတို့မှာ မိမိတို့ ကိုယ်ခန္ဓာတခုလုံးအတွင်း၌သာ မြေဓာတ်၊ လေဓာတ်၊ ရေဓာတ်၊ မီးဓာတ်တို့၏ ထုထဲမှုကို ထိန်းသိမ်းပေးရန် လိုကြသည်မဟုတ်ဘဲ မိမိတို့ကိုယ်ခန္ဓာအတွင်းရှိ အမျိုးမျိုးသော အင်္ဂါတို့တွင် ရုပ်ဓာတ်ထုထဲမှု အမျိုးမျိုးရှိနေနိုင်ရန်အတွက် ထိန်းသိမ်းပေးရန်လည်း လိုကြ၏။ အဆိုပါအင်္ဂါများ အကုန်ပုံး လောကအတွင်း၌ ရှိကြသော ရုပ်ဓာတ်တို့၏ ထုထဲမှုသည် မိမိတို့ နေရာပတ်ဝန်းကျင်လေထုအတွင်း၌ရှိသော ရုပ်ဓာတ်တို့၏ ထုထဲမှုနှင့် များစွာကွာခြား၏။

## မဟာဘုတ်ဓါတ်ကြီးသည် မိမိတို့ တမျိုးတည်းသာ နေလိုခြင်း

ရုပ်ဝတ္ထုအားလုံးသည် မိမိတို့ တမျိုးတည်းသာ ပါဝင်သော ထုထည်မျှရှိစေရန်အတွက် ကျယ်ပြန့်လိုသော သဘောရှိကြ၏။ ကျွန်ုပ်တို့သည် လေထုအတွင်း၌ နေကြသဖြင့် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတို့သည် လေထု၏ ထုထည်မျှနှင့်၎င်း၊ ကျွန်ုပ်တို့သည် ရာဇမြ၏ ထုထည်မျှနှင့်၎င်း ပေါင်းစပ်သွားလိုသော သဘောရှိ၏။ ကျွန်ုပ်တို့ ကိုယ်ခန္ဓာများအတွင်း၌ ရှိကြသော နာမ်ဓါတ်တို့က ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာ အတွင်း၌ ရှိသော ရုပ်ဓါတ်များကို ပြင်ပသို့ ပြန့်နှံ့မသွားစေရန်၎င်း၊ အပြင်ပမှ ရုပ်ဓါတ်များ ပို၍ ဝင်မလာစေရန်၎င်း၊ ကာကွယ်ပေးကြ၏။

ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများအတွင်း၌ တိကျသော အပူအအေးဓါတ်သည် ရှိ၏။ သို့ရာတွင် ထိုအပူအအေးဓါတ်သည် လေထု၏ အပူအအေးဓါတ်နှင့် အမြဲတန်းလောက်ပင် ခြားနားခြင်းရှိ၏။ အပူပိုင်းဒေသများ အပါအဝင်ဖြစ်သော ဤကမ္ဘာ၏ ဒေသအကုန်လုံးလောက်၌ လေထု၏ အပူအအေးဓါတ်သည် လူသတ္တဝါတို့ ကိုယ်ခန္ဓာအတွင်း ရှိ အပူအအေးဓါတ် အောက်ယုတ်လျော့၏။ ထို့ပြင် ပူအိုက်သော သဲကန္တာရကဲ့သို့သော တိုင်းပြည်များလည်း ရှိသေး၏။ ထိုတိုင်းပြည်များ၌ အပူအအေးဓါတ်သည် လူသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း ရှိ အပူအအေးဓါတ်ထက် များ၏။ အဆိုပါ အပူအအေးဓါတ်နှစ်မျိုးလုံးအတွင်း၌ လူသတ္တဝါတို့၏ နာမ်ဓါတ်က လူသတ္တဝါတို့၏ ကိုယ်ခန္ဓာတို့ကို တိကျသော အပူအအေးဓါတ်ရှိနေအောင် ထိန်းသိမ်းပေး၏။ လူသတ္တဝါတို့ ကိုယ်ခန္ဓာ၏ အပူအအေးသည် ပူအိုက်သော သဲကန္တာရအတွင်း၌၎င်း၊ ရေခဲများ အမြဲဖုံးလွှမ်းနေသော ဝန်ရိုးစွန်း ဒေသများအတွင်း၌၎င်း၊ ပြောင်းလွဲခြင်းမရှိ တိကျမှန်ကန်စွာသာ နေ၏။

## နာမ်ဓါတ်က ရုပ်ဓါတ်ထုထည်မျှကို ထိန်းသိမ်းပေးခြင်း

ကျွန်ုပ်တို့ ကိုယ်ခန္ဓာ၏ အပူအအေးဓါတ်ကို ထိန်းသိမ်းပေးရင်းနှင့် ကျွန်ုပ်တို့၏ နာမ်ဓါတ်သည် လေထု၏ ဝက်ဖက်လာမှုများကိုလည်း ခုခံတိုက်ခိုက်ပေးရ၏။ တခါတရံ အပူချိန်(ဖ) ဒီဂရီ ၁၂၀ မျှရှိသော ပူအိုက်သော သဲကန္တာရများ

ထဲသို့ ရောက်သွားသောအခါ လူသတ္တဝါတို့၏ နာမ်ဓါတ်က မိမိတို့ ကိုယ်ခန္ဓာအား လေထုမှ အပူဓါတ်ကို ပို၍ထုတ်မယူမိစေရန် စောင့်ရှောက်ပေး၏။ ဝန်ရိုးစွန်း ဒေသများသို့ ရောက်သွားသောအခါတွင် လူသတ္တဝါတို့၏ နာမ်ဓါတ်များက မိမိတို့၏ ကိုယ်ခန္ဓာများအတွင်း၌ စုဆောင်းထားသော အပူဓါတ်များကို လေထုထဲသို့ ထုတ်လွှတ်မပေးမိစေရန် စောင့်ရှောက်ပေး၏။ အဆိုပါ ဒေသနှစ်ရပ်စလုံး၌ လေထုက ကျွန်ုပ်တို့ ကိုယ်ခန္ဓာများ၏ အပူအအေးဓါတ်ကို မိမိ၏ အပူအအေးဓါတ်နှင့် တူညီအောင် လုပ်ချင်သော သဘောရှိ၏။ သို့ရာတွင် ကျွန်ုပ်တို့၏ နာမ်ဓါတ်များက လေထုအလိုရှိသည့်အတိုင်း မဖြစ်စေနိုင်ရန် ကာကွယ်ပေး၏။ ကျွန်ုပ်တို့ သေကြသောအခါတွင် နာမ်ဓါတ်သည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများတွင် မရှိတော့။ ထိုအခါတွင် ကျွန်ုပ်တို့ ကိုယ်ခန္ဓာများ၏ အပူအအေးဓါတ်သည် လေထု၏ အပူအအေးဓါတ်နှင့် တူညီသွားပြီးလျှင် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများသည် ပတ်ဝန်းကျင်နှင့် ရောသွားကြ၏။

လေထုက ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများအား အနှောက်အယှက် ပေးမှုကို ကျွန်ုပ်တို့၏ နာမ်ဓါတ်များက အကုန်အစင် ကာကွယ်၍ မပေးနိုင်။ လေထုသည် ကျွန်ုပ်တို့ ကိုယ်ခန္ဓာများအတွင်းရှိ မဟာဘုတ်ဓါတ်တို့ကို အမြဲတန်းတိုက်ဖျက် နေပြီးလျှင် ကျွန်ုပ်တို့ နာမ်ဓါတ်များကလည်း မိမိတို့ပိုင်နက်အတွင်းရှိ မဟာဘုတ်ဓါတ်တို့ကို အမြဲတန်းပင် ကာကွယ်ပေးနေကြ၏။ လေထုက မိမိလို၍နေသော မဟာဘုတ်ဓါတ်များကို ကျွန်ုပ်တို့ ကိုယ်ခန္ဓာများမှ နုတ်ယူ၍ မိမိတွင် ပို၍နေသော မဟာဘုတ်ဓါတ်များကို ကျွန်ုပ်တို့ ကိုယ်ခန္ဓာများအတွင်းသို့ ပို့၏။

<u>ကိုယ်ခန္ဓာတို့ကို လေထုက အနှောက်အယှက် ပေးခြင်း</u>

နာမ်ဓါတ်တို့သည် အမြဲတန်း လေထု၏ အနှောက်အယှက် ပေးခြင်းများကို တွန်းလှန်နေကြ၏။ သို့ရာတွင် နာမ်ဓါတ်တို့သည် မည်မျှလောက်ပင် သတိရှိကြသည် ဖြစ်စေကာမူ ကိုယ်ခန္ဓာတို့မှ မဟာဘုတ်ဓါတ် အနည်းအကျဉ်း ထွက်မသွားနိုင်အောင်၎င်း၊ ကိုယ်ခန္ဓာများ အတွင်းသို့ ပြင်ပမှ မဟာဘုတ်ဓါတ်များ အနည်းအကျဉ်း နောက်ထပ်ဝင်မလာနိုင်အောင်၎င်း၊ မကာကွယ်နိုင်ကြ။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများ လောကထုထဲမှ မရှိသော လေထုအတွင်း၌ နေကြရသဖြင့် လေထုက ကျွန်ုပ်တို့ ကိုယ်ခန္ဓါများအတွင်း၌ စုဆောင်းပြီးရှိနေသော မဟာဘုတ်ဓါတ်များကို ယူဆောင်၍သွားလိုသော သဘောရှိ၏။ ဤနည်းဖြင့် မီးဓါတ်၊ ရေဓါတ်နှင့် မြေဓါတ် မြောက်မြားစွာတို့သည် ကျွန်ုပ်တို့ ကိုယ်ခန္ဓာထဲမှ လွတ်မြောက်သွားကြ၏။

အကယ်၍ ကိုယ်ခန္ဓာတို့၏ ဆက်လက်တည်နေမှုကို မပျက်စီးစေလိုသည်ဖြစ်မူ ထိုသို့ လွတ်မြောက်သွားသော မဟာဘုတ်ဓါတ်များအတွက် မဟာဘုတ်ဓါတ်အသစ်များဖြင့် အစားထိုးကြရမည်ဖြစ်၏။ အာဟာရဓါတ်က လေထုကိုယ်တိုင်အတွင်းမှ နောက်ထပ်မဟာဘုတ်ဓါတ်များ ရနိုင်ရန်အတွက် မိမိ၏ အထူးပြုပြင်မှုနည်းဖြင့် အမြဲပြုပြင်၍ ပေးနေပြီးလျှင် ကိုယ်ခန္ဓာတို့လို၍ နေသော မဟာဘုတ်ဓါတ်တို့အား ကိုယ်ခန္ဓာများအတွင်းသို့ ပို့ပေးနေ၏။ အာဟာရဓါတ်သည် မိမိနှင့် နီးကပ်လျက်ရှိသော ပတ်ဝန်းကျင်တွင်ရှိသည့် ဓါတ်များကိုသာ ပြုပြင်ပေးနိုင်၏။ မိမိ၏ အင်အားများကို ဝေးလန်ရာသို့လွှတ်၍ မဟာဘုတ်ဓါတ်များကို မရှာနိုင်။ ဥပမာဆိုသော် ကျွန်ုပ်တို့၏ အစာအိမ်သည် မိမိအတွင်းသို့ ရောက်လာသော အစာများကိုသာ ကြေကျက်စေနိုင်၍ အစာကို မိမိကိုယ်တိုင် ထွက်၍ မရှာနိုင်သကဲ့သို့ ဖြစ်၏။

<u>အစာကြေကျက်မှုအင်္ဂါနှင့် အာဟာရဓါတ်</u>

ဤတွင် အစာအိမ်အကြောင်းနှင့် ပတ်သက်၍ နားမရှုပ်စေရန် လိုအပ်၏။ ကျွန်ုပ်တို့ ကိုယ်ခန္ဓာ၏ အင်္ဂါအသီးသီးတို့တွင် မိမိတို့ သက်ဆိုင်ရာ ထူးခြားသော တာဝန်များ ရှိကြသဖြင့် အာဟာရဓါတ်ဟု ခေါ်သည့် အသက်ရှင်မှုဓါတ်နှင့် အလွန်ခင်မင်ရင်းနှီး၏။ သို့ရာတွင် အာဟာရဓါတ်သည် တခုတည်းသော ကိုယ်ခန္ဓာအတွင်း၌သာ တည်နေသည်မဟုတ် ကြောင်းကို သတိပြုအပ်၏။ ယခုမူ အရှည်ဆုံးဖြစ်သော အာဟာရဓါတ်တို့သည် အစာကြေကျက်မှုအင်္ဂါများထဲတွင် ပုံရိုး၍ နေကြပြီးလျှင် အခြားကိုယ်အင်္ဂါအားလုံးသို့ ပို့နှံ့သွား၏။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်း၌ အာဟာရဓါတ်နှင့် ကင်းသော ရုပ်ကလာပ်ဟူ၍ အလျှင်း မရှိ။

အာဟာရဓါတ်၏ ပြုပြင်ပေးမှုကို မခံရသေးသော မဟာဘုတ်ဓါတ်တို့သည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတွင်းသို့ မဝင်ရောက်နိုင်။ အာဟာရဓါတ်သည် မဟာဘုတ်ဓါတ်များအား ကျွန်ုပ်တို့ ကိုယ်ခန္ဓာများထဲသို့ မဝင်မီတွင် ဆီး၍စစ်ပေးသော ရေစစ်နှင့်တူ၏။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်းသို့ မှန်တန်းနည်းအရ မဟာဘုတ်ဓါတ်အသစ်များကို အစာကြေကျက်မှုအင်္ဂါတို့မှ တဆင့်နေ၍ သွင်းသည်ဖြစ်စေ သို့မဟုတ် ကိုယ်ခန္ဓာပေါ်မှ ပြုပြင်ထားအပ်သော နည်းကဲ့သို့သော အခြားတနည်းဖြင့် သွင်းသည်ဖြစ်စေ ထိုဓါတ်အသစ်များသည် ကျွန်ုပ်တို့၏ ယခုရှိ ကိုယ်ခန္ဓာအတွင်းသို့ အာဟာရဓါတ်မှ တဆင့် ဖြတ်၍ဝင်လာကြရမည်ချည်းဖြစ်၏။

## အစာအာခြင်းအာရုံနှင့် ရေငတ်ခြင်းအာရုံများ

လူသတ္တဝါနှင့် တိရစ္ဆာန်တို့ကဲ့သို့သော ဖွံ့ဖြိုးမှုရှိသော သတ္တဝါတို့သည် မိမိတို့ အာဟာရဓါတ်က ထုတ်ယူရမည့် မဟာဘုတ်ဓါတ်အသစ်တို့ကို မိမိတို့၏ အစာကြေချက်မှု အင်္ဂါများအတွင်းသို့ ရောက်လာသော အရာဝတ္ထုတို့မှသာလျှင် ရကြ၏။ အခြားသော မီးဓါတ်၊ လေဓါတ်နှင့် အခြားသော ရေဓါတ်တို့သည်ပင်လျှင် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်းသို့ အခြားကိုယ်အင်္ဂါများမှတဆင့် ဝင်လာကြ၏။ သို့ရာတွင် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအဖို့ ကျွန်ုပ်တို့ အလိုရှိသော မဟာဘုတ်ဓါတ်တို့ကို ကျွန်ုပ်တို့၏ အစာကြေချက်မှု အင်္ဂါများအတွင်းသို့ စားဘွယ်အဖြစ်နှင့်၎င်း၊ သောက်ဖွယ်အဖြစ်နှင့်၎င်း၊ ကျွန်ုပ်တို့ အများဆုံး ရကြ၏။

အစာအိမ်သည် ကျွန်ုပ်တို့ စားသောက်သော အရာတို့ကို ပထမ ခံယူရာ အင်္ဂါဖြစ်ခြင်းကြောင့်၎င်း၊ အစာကြေချက်မှုကြောင့် ပကမသုံး ဟင်းလင်းဖြစ်သွားရာ အင်္ဂါဖြစ်ခြင်းကြောင့်၎င်း၊ နာမ်ဓါတ်၏ အစာလိုချင်ကြောင်းအချက်ပေးမှုများဖြင့်သော အစာအာမှုအာရုံနှင့် ရေငတ်မှုအာရုံတို့သည် အစာအိမ်ထဲတွင် ဖြစ်ပေါ်ကြ၏။

ပတ်ဝန်းကျင်သိမှုအာရုံပြန်ချက် ငါးခုအနက်မှ ထိတွေ့မှုအာရုံပြန်ချက်သည် ကျွန်ုပ်တို့ ကိုယ်ခန္ဓာတခုလုံး၌ ပျံ့နှံ့၍ တည်နေသည့်အကြောင်းကို သတိပြုအပ်၏။ ထို့ကြောင့် ထိတွေ့မှုအာရုံပြန်ချက်သည် ကျွန်ုပ်တို့ အစာကြေချက်မှု အင်္ဂါအားလုံး၌ ပျံ့နှံ့၍ နေ၏။ ကျွန်ုပ်တို့ စားသောက်ကြသော အရာဝတ္ထုအမျိုးမျိုးကြောင့် ကျွန်ုပ်တို့၏ အစာအိမ်သည် အမြဲတန်းပြည့်နေ၏။ သက်မဲ့ ဒြပ်ဓါတ်တို့ကို ဆိုရာဖြစ်သော (အခန်းနှစ်)တွင် ဖော်ပြခဲ့သည့်အတိုင်းပင် အဆိုပါ အရာဝတ္ထုတို့တွင် အာရုံပြန်ချက်များ ရှိကြ၏။ အဆိုပါ အရာဝတ္ထုတို့သည် ကျွန်ုပ်တို့ အစာကြေချက်မှု အင်္ဂါများအတွင်း၌ ထိတွေ့မှုအာရုံပြန်ချက်များနှင့် ထိတွေ့သောအခါတွင် ထိတွေ့မှုအာရုံသည် ဖြစ်ပေါ်လာ၏။ သို့ရာတွင် ကျွန်ုပ်တို့၏ ငတ်နေသော နာမ်ဓါတ်ဖြင့်သာလျှင် ကျွန်ုပ်တို့ အစာကြေချက်မှု အင်္ဂါများအတွင်း၌ ဖြစ်ပေါ်သော ထိတွေ့မှုအာရုံတို့ကို သိနိုင်၏။ ထို့ကြောင့် ကျွန်ုပ်တို့ စားသောက်၍ ကျွန်ုပ်တို့၏ အစာကြေချက်မှု အင်္ဂါများအတွင်းသို့ ရောက်ရှိလာကြသော အရာဝတ္ထုတို့သည် ကျွန်ုပ်တို့၏ ငတ်နေသော နာမ်ဓါတ်ကိုသာ ထကြွစေနိုင်၏။

## ထိတွေ့မှုအာရုံကို ဟင်းလင်းဖြစ်မှုဖြင့် ဖြစ်ပေါ်စေခြင်း

ကျွန်ုပ်တို့၏ အစာကြေကျက်မှုအင်္ဂါများတွင် ရှိနေသော ထိတွေ့မှုအာရုံများကို ကျွန်ုပ်တို့၏ ထကြွမှုရှိသော နာမ်ဓါတ်ဖြင့် ကျွန်ုပ်တို့ မသိနိုင်ကြ။ လှုပ်ရှားစေမှုတမျိုးတည်းနှင့်သာ ဆက်ကာဆက်ကာ ထိတွေ့နေရသောအခါတွင် ကျွန်ုပ်တို့ ထိတွေ့ခြင်း အာရုံသိမှုအင်္ဂါတို့သည် ငုတ်လျှိုးကာ နေကြပြီးလျှင် ထကြွမှုကင်းသလောက်ဖြစ်၍ သွားကြ၏။ အာရုံသိမှုအင်္ဂါတခုကို အမြဲတန်းထကြွအောင် လုပ်ပေးနေလျှင် ထိုအင်္ဂါ၏ ထကြွသော အာရုံတို့သည် ငုတ်၍နေသော နာမ်ဓါတ်အတွင်းသို့ နစ်၍ဝင်သွား၏။ အစာကြေကျက်မှုအင်္ဂါများ၌ ရှိသော အာရုံပြန်မှုဓါတ်သည် အစဉ်ပြည့်၍နေသော ဝေးကွယ် သောက်ကွယ်တို့တွင် ရှိသော ထိတွေ့မှုတို့၏ အာရုံပို့မှုဓါတ်များဖြင့် အမြဲတန်းထကြွအောင် လုပ်ပေးမှုများကို ခံနေရသဖြင့် အစာကြေကျက်မှုအင်္ဂါတို့သည် ထကြွမှုကင်း၍သွားကြပြီးလျှင် သိသာသောအာရုံခံစားမှုတို့ကို ဖြစ်ပေါ်စေခြင်းငှါ မတတ်နိုင်ကြတော့။

ဟင်းလင်းဖြစ်နေမှုသည် ငုတ်၍နေသော နာမ်ဓါတ်အတွင်း၌ ထကြွမှုမရှိသော ပြည့်နေမှုအာရုံကို ပျောက်ပသွားစေပြီးလျှင် အစာကြေကျက်မှုအင်္ဂါတို့တွင် ရှိသော ထိတွေ့မှုအာရုံပြန်မှုအင်္ဂါတို့၌ အာရုံများဖြစ်ပေါ်လာအောင် လှုံ့ဆော်ပေး၏။ အစာအိမ်သည် အစာကြေကျက်မှုအင်္ဂါများအနက် ရှေးဦးစွာ ဟင်းလင်းဖြစ်၍သွားခြင်းကြောင့် အစာအိမ်ရှိရာ နေရာတွင် ဟင်းလင်းဖြစ်နေမှုအာရုံကို အလွန်ထင်ရှားစွာ တွေ့နိုင်၏။ ၎င်းနည်းဖြင့် အစာအိမ်အတွင်း၌ ဖြစ်ပေါ်လာသော ထိတွေ့မှု လှုံ့ဆော်ပေးချက်သည် နာကျင်မှုအဖြစ်နှင့် ပေါ်လာ၏။ ကျွန်ုပ်တို့ နာမ်ဓါတ်၌ ပေါ်လာသော ထိုနာကျင်မှု၏ အာရုံပြန်ချက်သည်ပင် ကျွန်ုပ်တို့ ကောင်းစွာသိကြသော ဆာခြင်းအာရုံ ဖြစ်၏။

### အစာရှာမှု

ထို့နောက် နာမ်ဓါတ်အစဉ်သည် ဖြစ်ပေါ်လာ၏။ ဆာမှုအာရုံသည် နှလုံးတွင်းရှိ နာမ်ဓါတ်၏ အတွင်းအင်အားထဲသို့ ရောက်သွားပြီးလျှင် နှလုံးက ဆာမှု၏ ညှင်းပမ်းချက် ပျောက်ပသွားပေရန်အတွက် အခြားအင်္ဂါတို့ကို ထကြွအောင် လှုံ့ဆော်ပေး၏။ ထိုအခါ မျက်စေ့၊ နား၊ နှာခေါင်း၊ လျှာနှင့် ထိတွေ့မှုတို့သည် ထကြွလာကြ၏။ ထို့နောက် စိတ်ကူးမှု၊ စနစ်ပိုထုတ်မှု၊ စီမံကိန်းပြုလုပ်မှု

တို့သည် နောက်မှ အစဉ်အတိုင်း ထပ်ကြပ်လိုက်လာကြ၏။ ထိုအခါတွင် နာမ်ဓါတ် အတွင်း၌ရှိ အတိတ်က စွဲလန်းချက်များအဖြစ်နှင့် ရှိနေကြသည့် အမှတ်ရမှုဟု ခေါ် သော အတွေ့အကြုံတို့သည် ပြန်၍ ပေါ်လာကြ၏။ ထိုအချိန်တွင် လျှာ၊ နှာခေါင်းနှင့် မျက်စေ့တို့အတွင်းတွင် ဖြစ်ပေါ်ကြသော သေးငယ်သော အာရုံတို့က နှလုံးအား တွေ့ ကြုံနေရသော အခြေအနေနှင့် လျော်ကပ်သော အမှုကို အပြုခိုင်းကြ၏။ ထိုအခါ ဣနိုဝိတို့တွင် အကြံအစီများဖြစ်ပေါ်လာပြီးလျှင် စားဘွယ် သောက်ဘွယ်တို့ ရနိုင်မည့် နေရာတို့ကို စိတ်ကူးကြည့်ကြ၏။ ထို့နောက် မကြာမီပင် ဣနိုဝိတို့သည် စား သောက် ဘွယ်များရှိသော နေရာသို့ ရောက်သွားကြမည်ဖြစ်၏။

ဟင်းလင်းဖြစ်မှုက လှုံ့ဆော်ပေးခြင်းကြောင့် ဣနိုဝိတို့ အစာအိမ် အတွင်း၌ ထိတွေ့မှုအာရုံချက်ဓါတ်သည် ထကြွ၍လာသောအခါ ဆာမှု အာရုံသည် ဖြစ် ပေါ်လာ၏။ ထို့နောက် ဆာမှုက နှလုံးအား ထကြွလာအောင် လှုံ့ဆော်ပေး၏။ ထို့နောက် နှလုံးက အလွန့်ကျူ လျော်ကပ်သော ပတ်ဝန်းကျင်သိမှုအင်္ဂါတို့ကို လှုံ့ ပေး၏။ ဤနည်းဖြင့် ဣနိုဝိတို့၏ နာမ်ဓါတ်တွင် စိတ်ကူးကြည့်မှုတို့သည် အစဉ်အတိုင်း ဖြစ်ပေါ်လာကြ၏။ အကယ်၍ သင့်လျော်သော စားဘွယ်နှင့် သောက်ဘွယ်တို့သည် ဣနိုဝိတို့ အနီးအနား၌ ရနိုင်မည်ဖြစ်မူ ဣနိုဝိတို့ နာမ်ဓါတ်၏ အင်အားအမျိုးမျိုးက ထိုနေရာသို့ ဣနိုဝိတို့အား ညွှန်ပြကြ၏။ နာမ်ဓါတ်သည် ယခင်က အတွေ့အကြုံများ ၏ ကျေးဇူးကြောင့် အဆိုပါပြုမူချက်မျိုးသည် မိမိ၏ လောလောဆယ်လိုအင်များ အတွက် အကောင်းဆုံးဖြစ်သည်ကို သိမည်ဖြစ်၏။ ဣနိုဝိတို့သည် ဣနိုဝိတို့၏ စိတ်ကူး ကြည့်ချက်များနှင့် အမျိုးမျိုးသော အာရုံသိမှုအင်္ဂါများနှင့် ပတ်သက်၍ ဣနိုဝိတို့၏ နာမ်ဓါတ်အတွင်း၌ ဖြစ်ပေါ်လာသော အစဉ်တို့ကို သဘောမပေါက်နိုင်ကြမီပင် စားဘွယ် သောက်ဘွယ်တို့ကို သွား၍ဝအောင် စားကြ သောက်ကြပြီးလျှင် ဣနိုဝိတို့၏ ဆာမှုကို သက်သာရာ ရစေလိမ့်မည် ဖြစ်၏။

အကယ်၍ ဣနိုဝိတို့စားလိုသောက်လိုသော စားဘွယ် သောက်ဘွယ် မျိုးသည် မရနိုင်သည်ဖြစ်မူ သို့မဟုတ် ထိုစားဘွယ် သောက်ဘွယ်တို့သည် အလိုရှိသော နေရာများတွင် မရှိသည်ဖြစ်မူ ဣနိုဝိတို့ လုပ်ရမည့် အလုပ်မှာ ပို၍ ခက်ခဲသွား ၏။ ထိုကဲ့သို့သော အခြေအနေမျိုးတွင် ဆာမှု၏ နှိပ်စက်ခြင်းသည် ဣနိုဝိတို့၏ နှလုံး ကို ထကြွအောင် အမြဲလှုံ့ဆော်ပေးနေ၏။ နှလုံးက ဘဖန် အာရုံခံမှုအင်အား များအား မိမိတို့၏ လိုအင်ပြည့်ဝစေနိုင်မည့် နည်းလမ်းများကို ရှာဖွေရန် ဆက်၍

လှုံ့ဆော်ပေး၏။ ဆာမှု၏ နှိပ်စက်ခြင်း ပြင်းထန်လာသလောက် နှလုံးတွင်းရှိ တပ်မက်မှုအင်အားတို့လည်း များပြားချလာ၏။ ဤသို့ဖြစ်ခြင်းသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတခုလုံးနှင့် နာမ်ဓါတ်တခုလုံးအား ပြင်းထန်သော လှုပ်ရှားမှုကို ဖြစ်စေ၏။

## တပ်မက်မှုနှင့် အရမ်းလုပ်ချင်မှု

ဆာမှုပြင်းထန်၍လာသောအခါတွင် တပ်မက်မှုအင်အားတို့က ကျွန်ုပ်တို့အား အရမ်းလုပ်ချင်သော စိတ်ကို ဖြစ်ပေါ်စေသဖြင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့စိတ်က အမြတ်တနိုးထားကြသော အရာများကိုပင် စွန့်လွှတ်ပစ်လိုကြမည်ဖြစ်၏။ တနည်းဆိုသော် ငတ်မွတ်ခြင်းသည် မိမိတို့ကိုယ်ကို မိမိတို့ မပျောက်ပျက်စေရန် စောင့်ထိန်းပေးမှုအတွက် တပ်မက်မှုမီးတောက်များကို ဖြစ်ပေါ်စေ၍ မိမိတို့ ပျောက်ပျက်သွားမည့်အတွက် ကြောက်လန့်မှုကိုလည်း ဖြစ်ပေါ်စေ၏။

မိမိတို့ကိုယ်ကို မိမိတို့ မပျောက်ပျက်စေလိုမှုနှင့် ၎င်းမှ ပေါက်ပွားလာသော မိမိတို့ ပျောက်ကွယ်သွားမှာ ကြောက်လန့်မှုတို့သည် စကြဝဠာတခုလုံးကို လှုံ့ဆော်ပေးနေသော တခုတည်းသော အကြီးဆုံးအင်အားကြီးဖြစ်၏။ ရုပ်ဓါတ်ရှိ စကြဝဠာအတွင်း၌ရှိသည့် လူသတ္တဝါတို့နှင့် အခြားသတ္တဝါတို့ ပြုလုပ်နေကြသော အမှုများအနက် ကိုယ်ကျိုးရှာမှုနှင့် ကင်းသော အလုပ်တခုမျှမရှိ။ ထိုကိုယ်ကျိုးရှာမှုမှာ အထက်တွင် ဥဒါဟရုဏ်ပေးခဲ့သော မိမိတို့ကိုယ်ကို မပျောက်ပျက်စေမှုလည်း ဖြစ်နိုင်၏။ သို့မဟုတ် အခြားသူများပေါ်တွင် ဩဇာပေးနိုင်သော အခြေအနေကို တပ်မက်မှုလည်း ဖြစ်နိုင်၏။ ထိုတပ်မက်မှုသည် မိမိတို့ကိုယ်ကို မိမိတို့ မပျောက်ပျက်စေလိုမှု၏ အနည်းငယ် အဖျားကျသော အပိုင်းသာဖြစ်၏။ ငတ်မှုသည် အပြင်းထန်ဆုံးသော ကိုယ်ကျိုးရှာမှုကို ဖြစ်ပေါ်စေပြီးလျှင် သတ္တဝါတို့အား အလွန့်အလွန် အရမ်းလုပ်အောင်လည်း လှုံ့ဆော်ပေး၏။

## သတ္တဝါတို့ဖြစ်စဉ်၌ အစာပြဿနာပေါ်လာပုံ

ဤကမ္ဘာတွင် လေနှင့်ရေ နှစ်ခုတို့သည်သာလျှင် မပြုပြင်ဘဲနှင့် ကျွန်ုပ်တို့ အသုံးပြုနိုင်သော အရာဝတ္ထုများဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်တို့တွင် လေနှင့်ရေ နှင့် ပတ်သက်သော ပြဿနာများ များစွာမရှိ။ သို့ရာတွင် အခြားသတ္တဝါတို့၏

ကိုယ်ခန္ဓာမှ ဖွန်ဝိတို့ ရကြသည့် စားဘွယ်နှင့် သောက်ဘွယ် နှစ်မျိုးစလုံးပါဝင်သော အစာသည် ဖွန်ဝိတို့အား အများကြီး စိတ်ဆင်းရဲစေ၏။ ဤအစာပြဿနာသည် နတ်ပြည်တို့ကဲ့သို့သော အခြားသောဘုံလောကအဖို့တွင် မရှိ။ ဤတွင် ဖွန်ဝိတို့ ကမ္ဘာမြေကြီးပေါ်၌ အစာပြဿနာ မည်ကဲ့သို့ ပေါ်လာပုံကို ဆင်ခြင်ဘို့ လို၏။ ထို့ပြင် ဤကမ္ဘာမြေကြီးပေါ်ရှိ သတ္တဝါအမျိုးမျိုးတို့ တဦးနှင့်တဦး အမှီပြုနေရခြင်းကို ပြောင်းလွဲ၍ ရနိုင်မည် မရနိုင်မည်ကိုလည်း ဆင်ခြင်ဘို့ လို၏။

အဆင့်အတန်းနိမ့်သော သတ္တဝါအားလုံးတို့၏ ကိုယ်ခန္ဓာ ပုံသဏ္ဌာန် ဖြစ်ပေါ်လာပုံအရဆိုလျှင် သတ္တဝါတို့သည် တမျိုးကိုတမျိုး အမှီမပြုဘဲ နေနိုင်ကြဘို့လုံးဝ မဖြစ်နိုင်သလောက်ပင်ဖြစ်၏။ မီးခိုးတခုတည်းနှင့် ဆောက်တည်ထားသော ကိုယ်ခန္ဓာရှိသော သတ္တဝါတို့မှတပါး မိမိတို့၏ ကိုယ်ခန္ဓာများကို တည်ဆောက်ဖို့ လိုအပ်သော ပြုပြင်ပြီးအရာဝတ္ထုများကို ရနိုင်ရန်အလို့ငှာ တမျိုးနှင့်တမျိုး အမှီပြု၍ နေကြရ၏။

ဤကဲ့သို့ဖြစ်ရခြင်း၏ ရှေးဦးအကြောင်းတို့မှာ ပျင်းရိမှုနှင့် မသိမှုတို့ဖြစ်၏။ သို့ရာတွင် အဆုံးသတ်တွင် အကြီးဆုံးသော အကြောင်းမှာ မိမိတို့ကိုယ်ကို မိမိတို့ မပျောက်ပျက်စေလိုခြင်း တပ်မက်မှုပင်ဖြစ်၏။

## ရှာဖွေခြင်းနှင့် စမ်းသပ်ခြင်း

အားလုံးသော သတ္တဝါတို့သည် သက်မဲ့ရုပ်ဝတ္ထုများမှ ရရှိသော မဟာဘုတ်ဓါတ်များဖြင့် မိမိတို့၏ ကိုယ်ခန္ဓာများကို ကြီးပွားအောင် လုပ်ကြပည့်ဆိုလျှင် ဖြစ်နိုင်ဘွယ်ရှိ၏။ သို့ရာတွင် သက်မဲ့ ရုပ်ဝတ္ထုတို့သည် နိုင်မြဲစွာ ဖွဲ့စည်း နေကြသဖြင့် အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ အာဟာရဓါတ်က မိမိတို့လိုသော မဟာဘုတ်ဓါတ်များကို ထိုအရာတို့ဆီမှ ထုတ်၍မယူနိုင်ကြ။ သတ္တဝါတို့သည် အဆင့်အတန်း မြင့်သော ဘဝသို့ ရောက်လာကြသောအခါတွင် ရှာဖွေလိုခြင်း၊ စမ်းသပ်လိုခြင်း စိတ်တို့သည် ပွားဦးကပင် ပါလာကြ၏။ ကိုယ်ခန္ဓာတို့သည် နောက်ထပ်မဟာဘုတ်ဓါတ်များကို လို၍လာကြသောအခါတွင် အဆိုပါ မဟာဘုတ်ဓါတ်များကို ရှာဖွေလိုသောဆန္ဒအား အစာအိမ်အလွှင်း၌ ဖြစ်ပေါ်လာသော သာမှု နာမ်ဓါတ်ဆီသို့ အကြောင်းကြားလိုက်၏။ ထိုအခါတွင် နာမ်ဓါတ်က အာရုံသိမှုအင်္ဂါများ၏ အကူအညီဖြင့် အလိုရှိနေသော မဟာဘုတ်ဓါတ်အသစ်များကို ရှာဖွေရန် အမွှမ်းကုန်ကြိုးစား၏။ ရေဓါတ်ကို ရေဟု အများခေါ်နေကြသည့် အရာဝတ္ထုမှ လွယ်ကူစွာ ရနိုင်သော်လည်း အခြား သက်မဲ့အရာဝတ္ထုများမှ မြေဓါတ်၊ မီးဓါတ်နှင့် လေဓါတ်တို့ကို ထုတ်ယူနိုင်ဘို့ မလွယ်ကူ

အဆင့်အတန်းအလွန်နိမ့်သော သတ္တဝါတို့အဖို့တွင် နာမ်ဓါတ်က အပင်ပန်းကြီးစွာခံ၍ သက်မဲ့အရာဝတ္ထုများကို ပြုပြင်၍ ပေးပြီးလျှင် အလိုရှိသမျှသော မဟာဘုတ်ဓါတ်များကို ရအောင် လုပ်ပေး၏။

ထို့ကြောင့် အဆင့်အတန်းအနိမ့်ဆုံးသော သတ္တဝါတို့သည် အခြားသတ္တဝါများကို အမှီမပြုရဘဲ မိမိတို့၏ ကိုယ်ခန္ဓာများကို မည်မျှလောက်ပင် သေးငယ်သည်ဖြစ်စေကာမူ မိမိတို့၏ အင်အားဖြင့် မိမိတို့ တသီးတခြား တည်ဆောက်နိုင်ကြ၏။ အဆိုပါ အတန်းအစားဝင် ရုပ်ဓါတ်ရှိ သတ္တဝါတို့သည် ရုပ်ကလာပ် အနည်းငယ်ထက်ပို၍ မကြီးကြ။ အဆိုပါ သတ္တဝါတို့ကို ထိုက်လျောက်စွာ သိမ်မွေ့သော ကိရိယာ တန်ဆာတို့၏ အကူအညီဖြင့် ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်သိမှု အင်္ဂါတို့က တွေ့မြင်နိုင်၏။

## အခြားသတ္တဝါတို့ ပြုလုပ်ထားသော အရာဝတ္ထုများ

အဆင့်အတန်း အနိမ့်ဆုံးသတ္တဝါတို့ထက် အဆင့်အတန်းမြင့်သော သတ္တဝါတို့ အဖို့တွင် အစာပြဿနာသည် ကြီးမားသော ပြဿနာကြီးတခုဖြစ်၏။ အစာပြဿနာသည် လူသတ္တဝါတို့၏ အဆင့်အတန်း လောက်ထိ အောင်မြင့်သော သတ္တဝါအားလုံးအဖို့ ကြီးသော ပြဿနာကြီးတခုဖြစ်၏။ အဆင့်အတန်းအနိမ့်ဆုံး သတ္တဝါတို့ထက် မြင့်သော သတ္တဝါဖြစ်လာနိုင်လောက်အောင် အင်အားကြီးသော နာမ်ဓါတ်ရှိကြသော သတ္တဝါတို့တွင် ဝမ်းတွင်းဥာဏ်နှင့် ဆင်ခြင်ဥာဏ်များစွာရှိကြသဖြင့် ၎င်းတို့သည် အရှာအဖွေသမားများ ဖြစ်လာကြ၏။ အဆင့်အတန်းအနိမ့်ဆုံးသတ္တဝါထက် အဆင့်အတန်းမြင့်၍လာကြသော သတ္တဝါတို့သည် မဟာဘုတ်ဓါတ်များကို အလွယ်တကူနှင့် ရနိုင်သော နည်းကို ရှာကြ၏။ ထို့နောက် မကြာမီပင် သက်ရှိသတ္တဝါများအသွင်း၌ စုပြီး ဆောင်းပြီးရှိနေသော မဟာဘုတ်ဓါတ်တို့သည် သက်မဲ့အရာဝတ္ထုများထဲတွင် ရှိနေသော မဟာဘုတ်ဓါတ်များထက် ပို၍ထုတ်ယူရန် လွယ်ကူကြောင်းကို တွေ့ကြ၏။

အဆိုပါ သတ္တဝါတို့သည် တပ်မက်မှုနှင့် ကြောက်လန့်မှုတို့၏ နှိပ်စက်ခြင်းမှ လွတ်မြောက်အောင် လုပ်ကြရင်းနှင့်ပင် အင်အားကြီးသော သတ္တဝါတို့ အဖို့တွင် အင်အားမကြီးသော သတ္တဝါတို့ ပြုလုပ်ထားသော အရာဝတ္ထုတို့ကို သိမ်းယူရခြင်းသည် အင်မတန်အကျိုးရှိကြောင်းကို တွေ့ကြ၏။ ထို့ပြင် မိမိတို့အထဲမှ အားပို၍ကြီးသော သတ္တဝါတို့က အားမရှိသော သတ္တဝါတို့ကို လွှမ်းမိုးနိုင်ကြောင်းကိုလည်း သိကြ၏။ ဤနည်းဖြင့် အင်အားပို၍ကြီးသော သတ္တဝါတို့သည် အင်အားနည်းသော သတ္တဝါတို့ကို

သတ်၍ ထိုသတ္တဝါတို့၏ ကိုယ်ခန္ဓာများကို လုယူကြ၏။ အင်အားနည်းသော သတ္တဝါတို့သည် အင်အားကြီးသော သတ္တဝါတို့ကို အစာအလို့ငှါ မသတ်နိုင်ကြသဖြင့် အင်အားကြီးသော သတ္တဝါများ၏ အသေကို စောင့်ဆိုင်း၍ နေကြ၏။ ထို့နောက် အင်အားသေးသော သတ္တဝါတို့က အင်အားကြီးသော သတ္တဝါများ၏ အသေကောင်တွင် ကျန်ရစ်သည့် ဖြေ့ပျောင်းသော အရာဝတ္ထုများထဲမှ မဟာဓာတ်ဒြပ်များကို ထုတ်ယူ၍ မိမိတို့ကိုယ်ခန္ဓာအတွင်းသို့ သွင်းကြ၏။

<u>ပျင်းသောအကျင့်နှင့် ချွတ်ယွင်းသော ကိုယ်ကာယ</u>

ဤနည်းဖြင့် ဘဝများစွာ ကြာရှည်လာသော သတ္တဝါတို့သည် အပျင်းအင်မတန်ကြီး၍လာကြပြီးလျှင် ကိုယ်ခန္ဓာများလည်း ချွတ်ယွင်းလာကြသဖြင့် မိမိတို့အလိုရှိသော မဟာဓာတ်ဒြပ်များကို ရရှိနိုင်ရေးအတွက် အခြားသတ္တဝါတို့ ပြုလုပ်ထားသော အရာဝတ္ထုတို့ကို အမှီမပြုဘဲ မနေနိုင်အောင် ဖြစ်လာကြ၏။ ဆာမှု၏နှိပ်စက်ခြင်း၊ မိမိကိုယ်တိုင် မပျက်စီးစေလိုမှု ဘဝမက်ခြင်း၊ မိမိတို့ ပျောက်ကွယ်သွားမည်ကို ကြောက်လန့်ခြင်းတို့သည် အဆိုပါ သတ္တဝါတို့အား လွှမ်းမိုး၍သွားပြီးလျှင် အဆိုပါ သတ္တဝါတို့သည် အချင်းချင်း သတ်ဖြတ်မှုကို ပြုလုပ်ကြ၏။ ဤနည်းဖြင့် သတ်ခြင်းသည် ရှောင်လွှဲ၍ မဖြစ်နိုင်သော မကောင်းမှုအဖြစ်သို့ ရောက်လာ၏။ အကျင့်ဘခုသည် ဖြစ်လာပြီးသော အခါတွင် အလွယ်တကူနှင့် ပျောက်ပျက်ပစ်၍မရ။ ရှင်သော သတ္တဝါများကို သေသောသတ္တဝါများထက် ပို၍ တွေ့ရဖို့လွယ်ကူသဖြင့် အင်အားကြီးသော သတ္တဝါတို့သည် အင်အားသေးသောသတ္တဝါတို့ကို သတ်ဖို့လိုသည့်အဖြစ်နှင့် မကြာမကြာ ရင်ဆိုင်ကြရ၏။ ထိုသို့ ရင်ဆိုင်ကြရဖန်များ၍ မိမိတို့ဇာတ်ကလည်း အရမ်းလုပ်ချင်နေသော အဆိုက်နှင့် ကြုံကြိုက်သောအခါ သတ်ဖြစ်သွားကြ၏။ နောက်ဆုံးတွင် သတ်ဖို့လိုခြင်း အဖြစ်သည် အငိုက လိုအပ်မှုကြီးအဖြစ်သို့ ရောက်သွား၏။

စကြာဝဠာအတွင်းရှိ သတ္တဝါတို့သည် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်သော အရာဝတ္ထုများအပေါ်တွင် ကိုး၍မှီခိုလာရသောအခါတွင် အသက်ရှင်မှုအလျှင်၏ ပုံသဏ္ဍာန်သည် မူလအတိုင်း မနေတော့ဘဲ ပြောင်းလွဲသွား၏။ သတ္တဝါတို့သည် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်းရှိ ဖြေ့ပျောင်းသောအရာဝတ္ထုများကိုတိုး၍တိုး၍ အလိုရှိလာကြသောအခါတွင် အသက်ရှင်မှုအလျှင်သည် မူလလမ်းကြောင်းမှ သွေဖည်၍သွား၏။ အချိန်ကာလ ထိုက် လျောက်စွာ ရှည်ကြာလတ်သော်

ကိုယ်ခန္ဓာ အသီးသီးတို့၌ အသက်ရှင်မှုအလျဉ်ကြောင့် ဖြစ်ပေါ် နေကြသော အင်္ဂါတို့သည် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်းမှရသော အရာဝတ္ထုတို့ဆီမှသာလျှင် မိမိတို့ လိုအပ်သော မဟာဘုတ်ဓါတ်တို့ကို ထုတ်ယူနိုင်ကြ တော့၏။ ဤကမ္ဘာမြေကြီး၏ပေါ် ရှိ အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ အသက်ရှင်မှုအလျဉ်သည် အလွန့်အလွန် သွေဖီ၍ သွားကြသဖြင့် မိမိတို့ အလိုရှိသမျှသော မဟာဘုတ်ဓါတ်တို့ကို သဘာဝ အရာဝတ္ထုများ ဆီမှ တိုက်ရိုက်ထုတ်ယူနိုင်သော ကိုယ်ခန္ဓာများ ဖြစ်ပေါ် စေရန် မတတ်နိုင်ကြ တော့။

## မှီခိုရမှုတဖြည်းဖြည်းဖြစ်ပေါ်လာခြင်း

ကျွန်ုပ်တို့၏ ဘိုးဘွားဘီဘင်တို့သည် နှစ်ပေါင်းကုဋေကုဋာ မျှသော အချိန်ကာလအတွင်း၌ အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်သော အရာဝတ္ထုတို့ကို မိမိတို့ ကိုယ်ခန္ဓာ တည်ဆောက်ရန်အတွက် အသုံးပြုခဲ့ကြ၏။ ၎င်းတို့ထံမှ ကျွန်ုပ်တို့ အမွေဆက်ခံထားကြသည့် အသက်ရှင်မှုအလျဉ်တွင် ကျွန်ုပ်တို့ ဘိုးဘွားဘီဘင်တို့၏ အပြုအမူများ၏ အရှိန်အဟုန်များ ပါဝင်၏။ ထို့ကြောင့် ကျွန်ုပ်တို့၏ မျက်မှောက်ကိုယ်ခန္ဓာများနှင့် နောင်တွင်ဖြစ်ပေါ်လာမည့် ကိုယ်ခန္ဓာများသည် ကျွန်ုပ်တို့ ဘိုးဘွားဘီဘင်တို့၏ ပြုမူမှုအရှိန်အဟုန်ကို ခံနေရမည်ဖြစ်၏။ နှစ်ပေါင်းကုဋေကုဋာကြာ အောင်ဖြစ်ပေါ်လာခဲ့သော အစဉ်တို့ကို ကျွန်ုပ်တို့က ချက်ခြင်းပြုပြင်ပြောင်းလဲပစ်ခြင်းငှါ မတတ်ကောင်း။ ထို့ကြောင့် လူသတ္တဝါတို့သည် မိမိတို့၏ ကိုယ်ခန္ဓာကို စောင့်ထိန်းရန်အတွက် အယုတ်သဖြင့်ဆိုသော် တစိတ်တဒေသအားဖြင့် အခြားသတ္တဝါတို့အပေါ်တွင် အမှီပြု၍ နေကြရ၏။ ဤသို့ဖြစ်ခြင်းသည် လူသတ္တဝါတို့အဖို့ နှစ်မြို့ဘွယ်မရှိသော အဖြစ်ဖြစ်၏။ ကျွန်ုပ်တို့သည် ဤကမ္ဘာမြေကြီးပေါ်ရှိ သတ္တဝါများအနက် အဖွံ့ဖြိုးဆုံးသော သတ္တဝါများ ဖြစ်ကြသဖြင့် ကျွန်ုပ်တို့သည် ထိုကဲ့သို့ အခြားသတ္တဝါများကို မှီခိုနေရခြင်းကို အကြောင်းပြု၍ ထိုသတ္တဝါတို့အား အနစ်နာ နည်းပါးနိုင်သမျှ နည်းပါးစေရန် ဂရုပြုအပ်၏။

ဤနည်းဖြင့် ခပ်သိမ်းသော ရုပ်ဓါတ်ရှိ သတ္တဝါတို့သည် မိမိတို့၏ ကိုယ်ခန္ဓာ ကြီးပွားရန်နှင့် မပျောက်ပျက်စေရန်အတွက် အစာကို အမှီပြု၍ နေကြရ၏။ လူသတ္တဝါများအပါအဝင် အဆင့်အတန်းအနိမ့်ဆုံးသော သတ္တဝါများထက် အဆင့်အတန်းမြင့်သော သတ္တဝါအားလုံးတို့သည် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်သော အရာ

ဝတ္ထုများကို မှီခို၍ နေကြရ၏။ အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်သော အရာဝတ္ထုတို့ကို အမှီပြု၍ နေရသော ရုပ်ဓါတ်ရှိသတ္တဝါတို့အဖို့တွင် အစာသည် ပြဿနာကြီးတခု ဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် သက်ရှိ ရုပ်ဝတ္ထုတို့မှာ မကုန်မခမ်းနိုင်အောင် မရှိကြသောကြောင့် ဖြစ်၏။ ထို့ကြောင့် အစာရှားပါးမှုဘို့သည် အလှည့်ကျဖြစ်ပေါ်ကြရမည်သာ ဖြစ်၏။ အခြားသတ္တဝါတို့ကို မှီခိုနေရသော ဘုံအမျိုးမျိုးတွင် ဖြစ်ပေါ်မြဲဖြစ်သည့်အတိုင်း အစာရှားပါးမှုတို့ ဖြစ်ပေါ်လာသော အခါများတွင် တပ်မက်မှုအင်အားများနှင့် ကြောက်လန့်မှုအင်အားများသည် အပြင်းအထန် ပေါ်လာကြပြီးလျှင် သတ္တဝါအမျိုးမျိုးတို့အား အမျိုးမျိုးသော ရက်စက်မှု၊ မတရားမှုနှင့် အခြားတကိုယ်ကောင်းကျင့်မှုများကို ကြူးလွန်ရန် တိုက်တွန်းပေးကြ၏။

<u>သတ္တဝါတို့သည် မိမိတို့အကျိုးအတွက်သာ တည်ရှိနေကြခြင်း</u>

ယခုဖေါ်ပြမည့် အချက်များသည် ဘေးအန္တရာယ်ကြီးလှသဖြင့် ကျွန်ုပ်တို့သည် ကြီးစွာသတိထားအပ်၏။ ကျွန်ုပ်တို့ လူသတ္တဝါတို့သည် မှီခိုရမှုသံသရာအတွင်း၌ နစ်မြုပ်နေကြသည့်အဖြစ်ကို ကျွန်ုပ်တို့သည် ဖုံးဖိ၍ မထားနိုင်ကြ။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ အသက်ရှင်မှု အကျိုးငှါ အမျိုးမျိုးသော သက်ရှိအရာဝတ္ထုတို့ကို အစာအဖြစ်နှင့် မှီခိုနေကြရ၏။ အဆိုပါအရာဝတ္ထုမျိုးတို့ကို ယုယယူကြသည့်အခါတိုင်း ကျွန်ုပ်တို့သည် ခိုးမှု၊ လုယက်မှုတို့ကို ကြူးလွန်ကြ၏။ လူသတ္တဝါတို့သည် အခြားသတ္တဝါတို့ကို နစ်နာအောင် မပြုဘဲနှင့် အသက်ရှင်နေနိုင်ကြလိမ့်မည်မဟုတ်။ လူသတ္တဝါတို့သည် မကြာခဏ မသတ်ဘဲ မနေနိုင်မှုနှင့် ရင်ဆိုင်ကြရ၏။ မသတ်ဘဲမနေနိုင်သော အကြောင်းသည် ရှိ၍ နေသော်လည်း ထိုအကြောင်းသည် သတ်ခြင်းအား တရားသောအဖြစ်သို့ မရောက်စေနိုင်။ မည်သည့်သတ်ခြင်းမျိုးကိုမျှ တရားသည်ဟု မဆိုနိုင်။ စကြဝဠာအတွင်း၌ လှည့်လည်၍ နေကြသော သက်ရှိသတ္တဝါတို့ အထဲတွင် တိရိစ္ဆာန်များနှင့် သစ်ပင်များ ပါဝင်နေသည့်အချက်ကို ဆင်ခြင်၍ကြည့်သောအခါ ကျွန်ုပ်တို့၏ အခြေအနေမှာ ခက်၍ သွားဟန် ရှိ၏။ တိရိစ္ဆာန်များနှင့် သစ်ပင်များ၌ပင် ထူးခြားသော လက္ခဏာများ ရှိကြ၏။ တိရစ္ဆာန်များနှင့် သစ်ပင်များ၏ မိမိတို့ဘဝ၌ ဆက်လက်တည်နေလိုမှုသည် လူသတ္တဝါတို့၏ ဆက်လက်တည်နေမှုလောက်ပင် ပြင်းထန်၏။ တိရစ္ဆာန်တို့သည်၄င်း၊ သစ်ပင်တို့သည်၄င်း၊ လူသတ္တဝါတို့၏ အကျိုးငှါ တည်နေကြသည်မဟုတ်။ မိမိတို့အကျိုးအတွက်သာလျှင် မိမိတို့ တည်နေကြခြင်း ဖြစ်၏။

## သက်ရှိ သတ္တဝါတို့ကို အသုံးပြုခြင်း

သစ်ပင်တို့က သစ်စေ့များကို ဖြစ်ပေါ် စေကြသည့်အခါတွင် သစ်ပင်တို့၌ မိမိတို့၏ သစ်စေ့များအား လူသတ္တဝါတို့ စားစေရန် ရည်ရွယ်ချက် မရှိ။ သစ်ပင်တို့က သစ်စေ့များကို ဖြစ်ပေါ် စေကြခြင်းမှာ လူသတ္တဝါတို့သည် မိမိတို့၏ သားသမီးများကို မွေးဖွားကြသည့်နည်းတူ မိမိတို့ သစ်ပင်မျိုးဆက်လက်တည်ရှိနေ စေရန်အတွက်သာ ဖြစ်၏။ ထိုနည်းတူစွာပင် တိရစ္ဆာန်တို့က မိမိတို့၏ ကိုယ်ခန္ဓာများကို ဖြစ်ပေါ် စေကြခြင်းမှာလည်း လူသတ္တဝါတို့က မိမိတို့၏ အသားကို အသုံးပြုနိုင်ကြ စေရန်အတွက် မဟုတ်။ နွားမတို့သည် နွားကလေးများအတွက် မိမိတို့၏ နို့ရည်ကို ဖြစ်ပေါ် စေကြ၏။ လူသတ္တဝါများ သောက်ကြ စေရန်အတွက် မဟုတ်။ သမင်တို့ ယုန်တို့က မိမိတို့၏ အသားများကို ဖြစ်ပေါ် စေကြခြင်းမှာလည်း လူသတ္တဝါတို့အား မိမိတို့ အသားကို ပေးကြရန်မဟုတ်။ မိမိတို့ အကျိုး၌သာလျှင် ဖြစ်ပေါ် စေကြခြင်း ဖြစ်၏။

ထို့ကြောင့် လူသတ္တဝါတို့က အစာအလို့ငှါ သိမ်းယူကြသော သက်ရှိ အရာဝတ္ထုအားလုံးမှာ ထိုအရာဝတ္ထုများ ဖြစ်ပေါ် စေသော ဥစ္စာရှင်များ၏ အလိုကို အကြီးအကျယ်ဆန့်ကျင်၍ မတရားသိမ်းယူထားသော အရာများချည်းဖြစ်၏။ သို့ရာတွင် လူသတ္တဝါတို့က မူ မိမိတို့ ပြုလုပ်သော မတရားမှုများကို အကြောင်းအကျိုးမျိုးပြ၍ ဆင်ခြေပေးကြ၏။ ဥဒါဟရဏ်ဆိုသော် သစ်ပင်တို့ကို ကျွန်ုပ်တို့က ကူညီ၍ စိုက်ပေးရ၏။ ထို့ကြောင့် ဝိုလျှံသော သစ်စေ့များကို ကျွန်ုပ်တို့က ယူထိုက်ကြ၏ဟု ဆင်ခြေပေးကြ၏။ ထို့ပြင် နွားမများကို ကျွန်ုပ်တို့က ထိန်းကျောင်း၍ အစာ ကျွေးရ၏။ ထို့ကြောင့် ကျွန်ုပ်တို့က ကျွန်ုပ်တို့ပင်ပမ်းရခြင်းအတွက် နွားမတို့၏ နို့ရည်အနည်းငယ်ကို ယူထိုက်၏ဟု ဆင်ခြေပေးကြ၏။ အကယ်၍ လွန်လွန်ကဲကဲ မလုပ်လျှင် အဆိုပါဆင်ခြေများသည် အကျိုးအကြောင်းနှင့် ညီညွတ်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ ပြုလုပ်သော အလုပ်အကိုင်ကို အကြောင်းပြနိုင်ကြ၏။ ကျွန်ုပ်တို့သည် အဆိုပါ သတ္တဝါတို့အား အသက်ရှင်၍ နေနိုင်ရန် အကူအညီ ပေးကြသဖြင့် ကျွန်ုပ်တို့ကလည်း ထိုသတ္တဝါများထံမှ တစုံတခုကို ပြန်ရထိုက်၏။ ဤနည်းဖြင့် သက်ရှိ အရာဝတ္ထုတို့ကို အသုံးပြုခြင်းအတွက် ကန့်ကွက်ဖွယ်အကြောင်းမရှိ။

## သတ်ခြင်းသည် မသင့်လျော်

ဤပြဿနာကို တမျိုးပြောရမည်ဆိုသော် သစ်ပင်များဆောင် ဖြစ်ပေါ် သော သက်ရှိအရာဝတ္ထုတို့ကို သုံးစွဲခြင်းသည် အလွန်သေးငယ်သော မစင်ကြယ်မှုကိုသာ ဖြစ်စေနိုင်သည်ဟု ဆိုနိုင်၏။ အဘယ့်ကြောင့်ဆိုသော် သစ်ပင်တို့တွင် အလွန်အင်အား

ဖြော့သော အာရုံများရှိသဖြင့် ၎င်းတို့ထံမှ သက်ရှိ အရာဝတ္ထုများကို ထုတ်ယူသော အခါတွင် ရက်စက်မှုနည်းပါးစွာဖြင့် ထုတ်ယူနိုင်သောကြောင့် ဖြစ်၏။ သို့ရာတွင် တိရစ္ဆာန်တို့ထံမှ သက်ရှိ အရာဝတ္ထုများကို ထုတ်ယူသောအခါတွင် ယခုပြောသည့် အပြောမျိုး မပြောနိုင်တော့။ နွားမတို့ထံမှ နို့ရည်ကို တိုက်လျှောက်စွာ ညှစ်ယူခြင်းမျိုး စသည်တို့မှတပါး တိရစ္ဆာန်တို့ထံမှ သက်ရှိအရာဝတ္ထုတို့ကို ထုတ်ယူခြင်းမှန်သမျှတို့သည် သက်ဆိုင်ရာ တိရစ္ဆာန်တို့အား ကြီးစွာသော နာကျင်မှုကို ဖြစ်စေ၏။ တိရစ္ဆာန်တို့သည် နာကျင်မှုကို သိကြသဖြင့် သူတို့အား နာကျင်အောင်လုပ်သော အခါတွင် နာကျင်မှုကို ကျွနုပ်တို့ ခံစားကြရသည့်နည်းတူ ခံစားကြရ၏။ သူတို့၏ အသက်ရှင်နေလိုမှုဆန္ဒသည် လူသတ္တဝါတို့၏ အသက်ရှင်နေလိုမှုဆန္ဒလောက်ပင် ပြင်းထန်၏။ တိရစ္ဆာန်တို့၏ ဘဝမှာ လူတို့ထက် အနည်းငယ်သာ အဆင့်အတန်းနိမ့်၏။ ထိုအကြောင်းများကြောင့် တိရစ္ဆာန်တို့အား လူသတ္တဝါတို့၏ အစာအလို့ငှါ သတ်ဖြတ်ခြင်းသည်ပင်လျှင် ကြီးကျယ်သော ရက်စက်မှုဖြစ်သဖြင့် ကျွနုပ်တို့၏ အသက်ရှင်မှု အလျှင်အဘွင်း၌ မစင်ကြယ်မှုများကို ဖြစ်စေနိုင်၏။

သို့ရာတွင် သစ်ပင်တို့၏ ဘဝသည် လူသတ္တဝါတို့၏ ဘဝအောက် များစွာ နိမ့်ကျ၏။ သစ်ပင်တို့တွင် အာရုံခံစားမှုများ ပြည့်စုံစွာ မဖြစ်ပေါ် သေးသဖြင့် သစ်ပင်တို့သည် မိမိတို့အပေါ်တွင် နာကျင်မှုမှန်သမျှကို အနည်းငယ်မျှသာ သိကြ၏။ ထို့ကြောင့် သစ်ပင်များကို နာကျင်အောင်ပြုမှုသည် ကြီးမားသော မစင်ကြယ်မှုတို့ကို မဖြစ်ပေါ်စေနိုင်။ ယေဘုယျအားဖြင့် သစ်ပင်များကို အစာအဖြစ်အသုံးပြုခြင်းသည် ကြီးကျယ်သော မသင့်လျော်မှုမဟုတ်။ တိရစ္ဆာန်တို့အား အစာအဖြစ် အသုံးပြုရန် သတ်ဖြတ်ခြင်းသည်သာ ကြီးကျယ်သော မသင့်လျော်မှုဖြစ်သည်ဟု ဆိုနိုင်၏။ လူသတ္တဝါတို့၏ ကိုယ်ခန္ဓာသည် အရာဝတ္ထု အမျိုးမျိုးကို ထုတ်ယူနိုင်စွမ်းရှိသဖြင့် လူသတ္တဝါတို့သည် မိမိတို့ အစာအတွက် အရာဝတ္ထုအမျိုးမျိုးမှ ရွေးချယ်ယူနိုင်၏။ ကျွနုပ်တို့သည် အသိပညာကို အသုံးပြုကြမည်ဆိုလျှင် အခြားသတ္တဝါတို့အပေါ်တွင် ရက်စက်မှုများကို မပြုဘဲနှင့် နေ၍ဖြစ်နိုင်၏။

<u>အခြေခံ အလိုများကို ပြည့်ဝနေမှု</u>

အသိဥာဏ်ရှိသော သတ္တဝါတို့က မိမိတို့၏ ကိုယ်ခန္ဓာများကို ထပ်ဖြည့်ရန် အတွက် သော်၎င်း၊ ဘည် ဆောက်ရန်အတွက် သော်၎င်း၊ အသုံးပြုကြသည့် အရာဝတ္ထုတို့သည် အလိုရှိသလောက် မရနိုင်သောအခါတွင် အကြိမ်အနယ်ပြိုင်ဆိုင်မှုများဖြစ်ပေါ်

လာ၏။ ထိုအခါမျိုးတွင် အစာအလို့ငှါ အရာဝတ္ထုများ လိုနေသော သတ္တဝါတို့၌ ပြင်းထန်သော ပြိုင်ဆိုင်အားထုတ်မှုများ ဖြစ်ပေါ်လာ၏။ အချို့က မိမိတို့ အလိုရှိသော အရာဝတ္ထုများကို အခြားမှ ထုတ်နှုတ်ယူခြင်းဖြင့်၄င်း၊ ပြုလုပ်ယူခြင်းဖြင့်၄င်း ရအောင် လုပ်ကြ၏။ သို့ရာတွင် ပြုပြင်၍ယူနိုင်သော အရာဝတ္ထုအရိုင်းများ လောကကိုသာ ရအောင်လုပ်နိုင်ကြ၏။ မဟာဘုတ်ဓါတ်များကို ဖြစ်ပေါ်လာအောင် လုပ်၍ မရနိုင်သည့်အဖြစ်ကို သတိပြုအပ်၏။ အရာဝတ္ထုများကို ဖြစ်ပေါ်အောင်လုပ်ခြင်းမှာ ထိုသို့ဖြစ်ပေါ်လာနိုင်စေရန်အတွက် မဟာဘုတ်ဓါတ်များကို စုပေါင်းပေးခြင်းသာဖြစ်၏။ ယေဘုယျအားဖြင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ ကိုယ်ခန္ဓာများ ဖြစ်ပေါ်လာနိုင်စေရန်အတွက် အခြားအဆင့်အတန်းမြင့်သော သတ္တဝါများ၏ ကိုယ်ခန္ဓာများကို အမှီပြုကြရ၏။ ထိုအဆင့်အတန်းမြင့်သော သတ္တဝါတို့ကလည်း မိမိတို့၏ ကိုယ်ခန္ဓာများ ဖြစ်ပေါ်လာနိုင်စေရန်အတွက် မိမိတို့ထက် အဆင့်အတန်းနိမ့်သော သတ္တဝါများကို အမှီပြုကြရ၏။ ထို့ထက်အဆင့်အတန်းနိမ့်သော သတ္တဝါတို့ကလည်း မိမိတို့ထက် ထပ်၍ အဆင့်အတန်းနိမ့်သော သတ္တဝါများကို မှီခိုနေကြရပြန်၏။ သို့မဟုတ် ပြန်လှန်လည်း အဆင့်အအတန်းမြင့်သော သတ္တဝါတို့၏ ကြွင်းကျန်နေသော ကိုယ်ခန္ဓာများကို မှီခိုကြရ၏။ ထို့ကြောင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ အရည်အသွက်နှင့် အရွယ်ပမာဏမှာ အခြား အဆင့်အတန်းမြင့်သော သတ္တဝါတို့ ရနိုင်မှုနှင့်အကြောင်းဆက်လျက်ရှိ၏။ ထိုအဆင့်အတန်းမြင့်သော သတ္တဝါတို့ ရနိုင်ရန်ကိစ္စမှာလည်း သူတို့အောက် အဆင့်အတန်းနိမ့်ကျသော သတ္တဝါတို့ ရနိုင်မှုနှင့် အကြောင်းဆက်လျက် နေပြန်၏။ အစာပိုမိုရရှိနိုင်ရန်ကိစ္စသည် သက်မဲ့ရုပ်ဝတ္ထုများအတွင်းရှိ မဟာဘုတ်ဓါတ်များကို ကျွန်ုပ်တို့က ထုတ်ယူနိုင်စွမ်းရှိမှုနှင့် အကြောင်းဆက်၍ နေ၏။ သို့ရာတွင် အစာပိုမိုရရှိနိုင်ရန် ကိစ္စမှာ များစွာ မျှော်လင့်ချက်ရှိဟန်မရ။ အဘယ့်ကြောင့်ဆိုသော် ဂြိုလ်များ၊ ကြယ်များ၊ ကဲ့သို့သော မဟာဘုတ်ဓါတ်များကို ရရှိနိုင်စေရန်အတွက် အမြဲတန်းအကြိတ်အနယ် ကြိုးပမ်း၍ နေကြရသဖြင့် မဟာဘုတ်ဓါတ်တို့သည် အစဉ်မပြတ်လှည့်လည်၍ နေကြသောကြောင့် ဖြစ်၏။

## <u>အစာရမှု၌ အကန့်အသတ်ရှိခြင်း</u>

အကယ်၍ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ အလိုရှိသော အစာများကို ပိုမို၍ ထွက်ပေါ်စေလိုသည်ဖြစ်မူ ရှေးဦးစွာ ကျွန်ုပ်အောက် အဆင့်အတန်းနိမ့်ကျသော သတ္တဝါများ တိုးပွား၍လာအောင် လုပ်ပေးကြရမည် ဖြစ်၏။ ဥဒါဟရုဏ်ဆိုသော်

အသားစားသတ္တဝါတို့အတွက် အသားပို၍ရရှိစေလိုသည်ဖြစ်မူ ထိုသတ္တဝါတို့စားသော သတ္တဝါတို့၏ အရေအတွက်နှင့် အရွယ်ပမာဏကို တိုးပွားလာအောင် လုပ်ပေးရလိမ့်မည်ဖြစ်၏။ အသားစားသတ္တဝါတို့ စားသော သတ္တဝါများ၏ အရည်အတွက်နှင့်အရွယ်ပမာဏကို တိုးပွား၍ လာနိုင်စေရန်အတွက် ထိုသတ္တဝါတို့ မှီခိုနေရသော မြက်ကဲ့သို့သော သစ်ပင်များ၏ အရေအတွက်နှင့် အရွယ်ပမာဏ တိုးပွားလာအောင် လုပ်ပေးဘို့လို၏။ သစ်ပင်တို့၏ အရေအတွက်နှင့် အရွယ်ပမာဏ တိုးပွားလာစေရန်အတွက် သစ်ပင်တို့ စားသောအစာနှင့် သစ်ပင်တို့ ပေါက်ရောက်နိုင်စေရန် မြေကွက်များ တိုးပွားလာအောင် လုပ်ပေးဘို့လို၏။ သစ်ပင်များသည် အစာပြတ်၍ ပေါက်ရောက်ရန် နေရာ ကုန်ခမ်းသွားသောအခါတွင် အသားစားသတ္တဝါတို့အတွက် အသားရမှုသည် ရပ်စဲ၍သွား၏။

## နာမ်ဓါတ်အင်အားများအဖို့ ရုပ်ဓါတ်အခြေများ

ဤကမ္ဘာမြေကြီးပေါ်တွင် အပိုင်းအခြားပမာဏရှိသော ရုပ်ဓါတ်များသည် ရှိ၏။ ထိုရုပ်ဓါတ်တို့၏ ပမာဏသည် ဤကမ္ဘာမြေကြီးပေါ်တွင် ရှိကြသော သတ္တဝါအားလုံး ကြောင့် အနည်းငယ်မျှသာလျှင် ပြောင်းလွဲခြင်းဖြစ်နိုင်၏။ ဤအခန်းတွင် အထက်၌ ဖေါ်ပြခဲ့သည့်အတိုင်းပင် သတ္တဝါတို့၏ နာမ်ဓါတ်အင်အား ပမာဏသည် တခု၏ အင်အား ပမာဏနှင့် တခု၏ အင်အား ပမာဏ မတူကြ။ အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ အင်အားသည် ကြီးပြီးလျှင် အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ အင်အားသည် သေး၏။

ဤကမ္ဘာမြေကြီးတွင် အပိုင်းအခြားပမာဏရှိသော နာမ်ဓါတ်တို့၏ အင်အားကိုသာ ခံယူနိုင်သော ရုပ်ဓါတ်အင်အားရှိ၏။ ထို့ကြောင့် ဤကမ္ဘာမြေကြီးပေါ်၌ အဆင့်အတန်းမြင့်သော သတ္တဝါတို့ အရေအတွက် များများရှိလေလေ အဆင့်အတန်းနိမ့်သော သတ္တဝါတို့ အရေအတွက်နည်းသွားလေလေ ဖြစ်၏။ ဤအချက်ကို ပိုမိုထင်ရှားစေရန် ဥဒါဟရုဏ်ဆောင်၍ ပြောရမည်ဆိုသော် အကယ်၍ ဤကမ္ဘာမြေကြီး၏ ရုပ်ဓါတ်အင်အားများအနက် ၁၀ ရာခိုင်နှုန်းကို အဆင့်အတန်းမြင့်သော သတ္တဝါများက အသုံးပြုကြမည်ဆိုလျှင် ကျန်သော ရုပ်ဓါတ်အင်အား ၉၀ ရာခိုင်နှုန်းကို အဆင့်အတန်းနိမ့်သော သတ္တဝါများက အသုံးပြုကြလိမ့်မည် ဖြစ်၏။ အကယ်၍

အဆင့်အတန်းမြင့်သော သတ္တဝါတို့က ၂၅ ရာခိုင်နှုန်းကို အသုံးပြုကြမည်ဆိုလျှင် အဆင့်အတန်းနိမ့်သော သတ္တဝါတို့က ၇၅ ရာခိုင်နှုန်းကို သုံးကြလိမ့်မည်ဖြစ်၏။ ဤနည်းဖြင့် အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ အချိုးအစားသည် အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ အချိုးအစား တိုးတက်လာသလောက် လျော့ပါးသွားရမည် ဖြစ်၏။

## အဆင့်အတန်းနိမ့်သော သတ္တဝါတို့နှင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ စစ်ပွဲ

အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် နေနိုင်ရန်အတွက် အဆင့်အတန်းနိမ့်သော သတ္တဝါတို့ ရှိဘို့ လို၏။ ထို့ကြောင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့ အလိုရှိသလောက် အဆင့်အတန်းနိမ့်သော သတ္တဝါတို့ကို မရနိုင်သော အခါတွင် အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ ဘိုးပွားမှုသည် ရပ်စဲသွား၏။ ထိုအခါတွင် အဆင့်အတန်းနိမ့်သော သတ္တဝါတို့နှင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် တဦးကိုတဦး ညှိမရ၍ ကြည့်နေကြလိမ့်မည်မဟုတ်။ နှစ်ဦးလုံးကပင် မိမိတို့ အမျိုးအနွယ်တိုးပွားရန် အစွမ်းကုန် အားထုတ်ကြလိမ့်မည်။ ဤနည်းဖြင့် အချိန်ကျသောအခါတွင် အဆင့်အတန်းမြင့်သော သတ္တဝါတို့အား မိမိတို့၏ အစာအလို့ငှါ ဘိုက်ခိုက်သတ်ဖြတ်ကြလိမ့်မည်။ ဤနည်းဖြင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် ဤကမ္ဘာမြေကြီးမှ မိမိတို့ ယူငင်ထားသော အင်အားများကို လျော့ပါးသွားစေပြီးကြမည်ဖြစ်သဖြင့် အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ အရေအတွက်သည် တိုးပွားလာလိမ့်မည်။

ဤကဲ့သို့ အဆင့်အတန်းနိမ့်သော သတ္တဝါများဘိုးပွားလာသောအခါ အဆင့်အတန်းမြင့်သော သတ္တဝါများက စားကြလိမ့်မည်။ ဤနည်းဖြင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် အဆင့်အတန်းနိမ့်သော သတ္တဝါတို့ ရှားပါးသွားသည့်အခြေအနေသို့ ရောက်အောင် ပြန်၍ တိုးပွားလာလိမ့်မည်။ ထိုမှတဖန် အဆင့်အတန်းမြင့်သော သတ္တဝါတို့ ရှားပါးသွားပြီးလျှင် အဆင့်အတန်းနိမ့်သော သတ္တဝါတို့ များပြားလာသောအခြေအနေသို့ တပတ်ပြန်လှည့်သွားလိမ့်မည်။ ဤနည်းဖြင့်ပင် အဆင့်အတန်းမြင့်သော သတ္တဝါတို့က များပြား၍ အဆင့်အတန်းနိမ့်သော သတ္တဝါတို့ ရှားပါးသောအခြေအနေသို့၎င်း၊ အဆင့်အတန်းနိမ့်သော သတ္တဝါတို့က များပြား၍ အဆင့်အတန်းမြင့်သော သတ္တဝါတို့က ရှားပါးသွားသော အခြေအနေသို့၎င်း၊ တပြန်စီပြန်၍ ရောက်လိမ့်မည်။ ဤသို့အားဖြင့် ဤကမ္ဘာမြေကြီး ပေါ်တွင်ရှိသော အဆင့်အတန်းနိမ့်သော သတ္တဝါတို့နှင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် တပြန်စီ တလှည့်စီ ဖြစ်၍ နေကြလိမ့်မည်။

## ရှဝ်ခါတ်၌ သတ္တဝါတို့၏ အခက်အခဲများ

ဆာလောင်မှုအာရုံသည် ဤကမ္ဘာမြေကြီးပေါ်၌ အဆင့်အတန်းမြင့်သော သတ္တဝါတို့အား မိမိတို့၏ သွေးသားချင်းဖြစ်သော အဆင့်အတန်းနိမ့်သော သတ္တဝါများကို သတ်ဖြတ်ရန် လှုံ့ဆော်ပေးလိမ့်မည်။ ဤသို့သတ်ဖြတ်ရာတွင် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် အမျိုးမျိုးသော ပရိယာယ် ဝေဝုစ်နှင့် ကောက်ကျစ်စဉ်းလဲမှုတို့ကိုအသုံးပြုကြ၏။ ဤကမ္ဘာမြေကြီးနှင့် ဤကမ္ဘာမြေပြင်ပေါ်၌ သတ္တဝါတို့၏ ဖြစ်ပေါ်ပုံအစဉ်အရ အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် မိမိတို့အောက် အဆင့်အတန်းနိမ့်သော သတ္တဝါတို့၏ အားထုတ်မှုကြောင့် ဖြစ်ပေါ်လာသော အရာများကို အသုံးမပြုဘဲနှင့် အသက်ရှင်၍ မနေနိုင်ကြ။ ယေဘုယျအားဖြင့် ကျွန်ုပ်တို့သည် သစ်ပင်များကို ခုတ်လှဲ၍ အချို့သော သတ္တဝါတို့ကို သူတို့နေထိုင်ရာ နေရာများမှ မောင်းနှင်မပစ်ဘဲနှင့် အိမ်မဆောက်နိုင်ကြ။ ကျွန်ုပ်တို့သည် အဆင့်အတန်းနိမ့်သော သတ္တဝါများစွာတို့၏ ဘဝကို ရပ်စဲစေခြင်း မဖြစ်စေဘဲနှင့် တနေ့သော်မျှ အသက်ရှင်၍ မနေနိုင်ကြ။ ကျွန်ုပ်တို့ အသီးသီးတနေ့တာမျှ အသက်ရှင်နေနိုင်စေခြင်း အကျိုး၌ ထောင်ပေါင်းများစွာ သိန်းပေါင်းများစွာ ၊ သန်းပေါင်းများစွာသော အခြားသတ္တဝါတို့သည် အသက်ကို စွန့်၍ ပေးကြရ၏။

မိမိတို့ ပျောက်ကွယ်မသွားစေမှုအတွက် သတ္တဝါအားလုံး တိုက်နေကြရသော ဘဝစစ်ပွဲတွင် အဆင့်အတန်းမြင့်သော သတ္တဝါများကသာ ပရိယာယ် ဝေဝုစ်နှင့် စဉ်းလဲခြင်းကို အသုံးပြုကြသည် မဟုတ်။ အဆင့်အတန်းနိမ့်သော သတ္တဝါများကလည်း အဆင့်အဘန်းမြင့်သော သတ္တဝါတို့၏ပရိယာယ် ဝေဝုစ်နှင့် စဉ်းလဲခြင်းနှင့် ညီမျှသော ပါးနပ်မှုကို အသုံးပြုကြ၏။ တခါတရံ ပို၍ကြီးသော ပါးနပ်မှုကို အသုံးပြုကြ၏။ မကြာခဏလည်း အဆင့်အတန်းနိမ့်သော သတ္တဝါတို့က အဆင့်အတန်းမြင့်သော သတ္တဝါတို့ကို အိမ်တိုင်ရာရောက် သွား၍ ရင်ဆိုင်ကြ၏။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာတွင်း၌ အူပိုးများနှင့် ပိုးကြည့်မှန်ပြောင်းနှင့်သာ မြင်နိုင်သော သတ္တဝါကလေးများကစ၍ ကျွန်ုပ်တို့ အသုံးပြုနေသော လေထဲ၊ ရေထဲ၊ မြေထဲ၌ အဆင့်အတန်းနိမ့်သော သတ္တဝါအမျိုးမျိုးတို့သည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများကို တိုက်ခိုက်နေကြ၏။ အဆင့်အတန်းနိမ့်သော သတ္တဝါများနှင့် အဆင့်အတန်းမြင့်သော သတ္တဝါများသည် အမြဲတန်း ပူးကပ်၍ တိုက်ခိုက်နေကြပြီးလျှင် တဖက်က တဖက်ကို ဖိကာ အင်အားချင်း အလွန်မျှ၍ နေကြသဖြင့် သူတပြန် ကိုယ်တပြန် အရှုံးအနိုင်ဖြစ်၍ နေကြ၏။

## အားမဲ့သော သတ္တဝါတို့၏ ထိုးစစ် ပရိယာယ်

အဆိုပါ စစ်ပွဲ၌ မည်သည့်ဘက်က မျှ အလျှော့မပေး။ အဆင့်အတန်းမြင့်သော သတ္တဝါတို့ကလည်း အပြင်းအထန်တိုက်ကြ၍ အဆင့်အတန်းနိမ့်သော သတ္တဝါတို့ကလည်း အပြင်းအထန်တိုက်ကြ၏။ မိမိတို့ အသက်ရှင်နေလိုမှု အင်အား၏ တိုက်တွန်းချက်အရ အဆင့်အတန်းနိမ့်သော သတ္တဝါတို့နှင့် အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် အရပ်အစဲမရှိသော စစ်ပွဲကို တိုက်ခိုက်နေကြ၏။ အဆင့်အတန်းနိမ့်သော သတ္တဝါတို့သည် အရေအတွက်သာခြင်း၏ ကျေးဇူးကြောင့် မကြာခဏ အနိုင်ရကြ၏။ သို့ရာတွင် ထိုသို့နိုင်ခြင်းအတွက် မထောင်းတာအောင် အဆင့်အတန်းမြင့်သော သတ္တဝါတို့က မိမိတို့၏ ပို၍ကြီးသော အသိဥာဏ်ကို အသုံးပြုကြ၏။ အဆင့်အတန်းမြင့်သော သတ္တဝါများရော၊ အဆင့်အတန်းနိမ့်သော သတ္တဝါများပါ၊ ဆက်လက်၍ အသက်ရှင်နေလိုကြ၏။ ထို့ကြောင့် မိမိတို့၏ အသက်ကို ကျရောက်မည့် ဘေးအန္တရာယ်တို့မှ အစွမ်းကုန် ကြိုးစား၍ ကာကွယ်ကြ၏။

ဆာမှုသည် မိမိတို့ကိုယ်ကို မပျက်စီးစေလိုခြင်း ဘဝမက်မှုကို လှုန့်ဆော်ပေးသော ဘေးအန္တရာယ်၏ အချက်ပြမှုဖြစ်၏။ ထိုဘေးအန္တရာယ်ကို ပျောက်ပစေနိုင်မည့် အရာမှာ အစာပင်ဖြစ်သဖြင့် ဤကမ္ဘာမြေပေါ်၌ရှိ သတ္တဝါတိုင်းသည် အစာအလို့ငှါ အခြားသတ္တဝါများကို ရှာကြ၏။ အားကြီးသော သတ္တဝါတို့က အားသေးသော သတ္တဝါတို့ကို စားကြ၏။ သို့ရာတွင် စား၍ မဖြစ်နိုင်လောက်အောင် သေးငယ်သော သတ္တဝါများလည်း ရှိကြသေး၏။ ထိုသတ္တဝါတို့သည် အားကြီးသော သတ္တဝါတို့ကို စားကြ၏။ ကျွန်ုပ်တို့က သစ်သီးများဖြင့် တိရစ္ဆာန်တို့၏ အသားများကို စားကြ၏။ ကျွန်ုပ်တို့ ကိုယ်တွင်း၌ရှိ သန်းကောင်၊ တုတ်ကောင်နှင့် မမြင်ကောင်းသော ပိုးကောင်ငယ်များက ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာကို အစာအဖြစ်နှင့် စားကြ၏။

## အဝတ်နှင့် ခိုအောင်းရာ

လူသတ္တဝါတို့၏ အထူးခြားဆုံးလိုအင်မှာ အဝတ်ဖြစ်၏။ လူသတ္တဝါတို့နှင့် အခြားသတ္တဝါအချို့တို့အဖို့ ခိုအောင်းရာ လို၏။ လက်တွေ့အားဖြင့် အဝတ်နှင့် ခိုအောင်းရာတို့သည် အစာကဲ့သို့ပင် အရေးကြီးသည်ကို သတိပြုအပ်၏။ ကျွန်ုပ်တို့သည် အဝတ်နှင့် ခိုအောင်းရာကို ကျွန်ုပ်တို့ အသက်ရှင်နေနိုင်မှုအတွက် အလိုရှိကြ၏။

အဝတ်က ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာ အတွင်း၌ မဟာဘုတ်ဓါတ်များအား အပြင်ပသို့ အချိန်မကျမှီ ထွက်ခွါမသွားစေရန် ဘားမြစ်ပေး၏။ ထို့ပြင် အပြင်အပ၌ မဟာဘုတ်ဓါတ်များအား ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်းသို့ ဝင်ရောက်မလာစေရန် ဘားမြစ်ပေး၏။ နို့အောင်းရာ နေရာကလည်း ကျွန်ုပ်တို့ ပတ်ဝန်းကျင်၌ ရာသီဥတု၏ အနှောက်အရှက် ပေးမှုတို့ကို ကာကွယ်ပေး၏။ အစာ၏ ဘာဝန်မှာ ကိုယ်ခန္ဓာ အသီးသီးအတွင်း၌ မဟာဘုတ်ဓါတ်များ၏ အစဉ်ကို အချိုးအစားမှန်ကန်စွာ ရှိစေရန် ထိန်းသိမ်းပေးရန် ဖြစ်သဖြင့် အစာ၊ အဝတ်နှင့် နို့အောင်းရာ နေရာတို့သည် တူညီသော ဘာဝန်ကို ထမ်းဆောင်ကြသည်ဟု ယူဆနိုင်၏။

လူသတ္တဝါတို့သည် အစာနှင့် အဝတ်ရရန်အတွက် အခြားသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်သော အရာဝတ္ထုများကိုသာ လုံးလုံးလျားလျား လောက်အားကိုး နေရ၏။ အဆိုပါ အရာဝတ္ထုများကို လိုသလောက် မရနိုင်။ ထို့ပြင် အဆိုပါ အရာဝတ္ထုတို့ကို လိုသလောက်ရအောင် ပြုလုပ်၍လည်း မရ။ ထိုသို့ လိုသလောက်မရနိုင်ခြင်းကြောင့် မျှမျှတတ ဝေယူရန်လည်း မဖြစ်နိုင်။

## မိမိတို့ အသက်ရှင်နေမှုကို ဘပ်မက်မှု

ရှားပါးသော အရာဝတ္ထုတို့ကို အသိဉာဏ်ကြီးသော သတ္တဝါတို့က သိမ်းကြုံး၍ ယူထားကြသဖြင့် အရာဝတ္ထုတို့သည် ပို၍ ရှားပါးလာ၏။ အဘယ့်ကြောင့်ဆိုသော် အသိဉာဏ်ကြီးသော သတ္တဝါတို့ အလိုရှိသော အရာဝတ္ထုမျိုးကို အလိုရှိကြသော အခြားသတ္တဝါတို့မှာ အသိဉာဏ်ကြီးသော သတ္တဝါတို့ ယူငင်ထားသော အရာဝတ္ထုများကို အသုံးမပြုနိုင်ကြသောကြောင့် ဖြစ်၏။ အဝါစုဆောင်းထားကြသော သတ္တဝါတို့သည် ကြေနပ်မှုကို ရကြ၍ အစာလက်ပဲ့ဖြစ်နေသော သတ္တဝါတို့သည် မိမိတို့ အသက်ရှင်နေနိုင်မှုအတွက် ဘပ်မက်မှုပေါ်လာပြီး မိမိတို့ အသက်ဆုံးရှုံးရမည့်အဖြစ်ကို ပို၍ ကြောက်လန့်လာကြ၏။

စကြာဝဠာ တခုလုံးအတွင်း၌ မိမိတို့ အသက်ရှင်နေမှုအတွက် ဘပ်မက်မှု လောက်ကြီးမားသော အင်အားသည် မရှိ။ ထိုအင်အားကို ထိုအင်အားနှင့် ဘပြိုင်နက် ပေါ်လာသော မိမိတို့အသက်ဆုံးရှုံးရမည့် အဖြစ်ကို ကြောက်လန့်မှုက ပို၍ကြီးမားလာအောင် ကူညီပေး၏။ အဆိုပါ ဘပ်မက်မှုနှင့် ကြောက်လန့်မှုတို့ ပူးကပ်လာသောအခါတွင် သတ္တဝါတို့သည် ချင့်ချိန်နိုင်စိတ် အလွန်နည်းပါးသွားသဖြင့် မိမိတို့ရင်

ဆိုင်ဘွဲ့နေရသော ဘေးအန္တရာယ်များကို ဖယ်ရှားရန်အတွက် မည်သည့်အမှုကိုမဆို ပြုကောင်းသည်ဟု ထင်လာကြ၏။ အင်အားနည်းသော သတ္တဝါများနှင့်တကွ နာမ်ဓါတ်အင်အားနည်းသော အဆင့်အတန်းမြင့်သော သတ္တဝါများပင်လျှင် အဆိုပါအခြေအနေများနှင့် ကြုံကြိုက်လာသော အခါမျိုးတွင် ဘုရားခြင်း၊ ကြင်နာစိတ်ရှိခြင်း၊ မကောင်းမှုကြောက်ခြင်းတို့ကို အလွန်အထင်အမြင်သေးလာကြ၏။

## နာမ်ဓါတ်၏ ဆွဲငင်မှုအင်အား

စကြာဝဠာအတွင်း၌ သတ္တဝါအသီးသီးသည် တသီးတခြားစီဖြစ်သော ဆွဲငင်မှုအင်အားများဖြစ်ကြသည့် အကြောင်းကို သတိရကြရာ၏။ ကျွန်ုပ်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ ဝေစ်ဆေးကြည့်ကြလျှင် ဤအချက်သည် ထင်ရှား၍ လာလတ့်။ ကျွန်ုပ်တို့သည် ဤကမ္ဘာမြေကြီး၏ ဆွဲငင်မှုနယ်အတွင်း၌ နေကြ၏။ သို့ရာတွင် ကမ္ဘာမြေကြီး၏ ဆွဲငင်မှုအင်အားသည် ကျွန်ုပ်တို့ ကိုယ်တွင်း၌ ရုပ်ဓါတ်ကိုသာ ဆွဲငင်နိုင်၏။ ကျွန်ုပ်တို့၏ နာမ်ဓါတ်ကိုမူကား ကမ္ဘာမြေကြီး၏ ဆွဲငင်မှုအင်အားသည် ဘာမျှမတတ်နိုင် ။

ကျွန်ုပ်တို့ နာမ်ဓါတ်၏ ဆွဲငင်မှုအင်အားသည် ရုပ်ဓါတ်၏ ဆွဲငင်မှုအင်အားထက်ကြီး၏။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာကို စက်ကိရိယာတို့၏ အကူအညီမပါဘဲနှင့် ဟိုမှသည်မှ ရွေ့လျားကာ နေစေနိုင်ပြီးလျှင် ဟိမ်းလဲမသွားအောင်လည်း ထိန်းသိမ်းနိုင်၏။ အဘယ့်ကြောင့်ဆိုသော် ကျွန်ုပ်တို့အား ကျွန်ုပ်တို့ နာမ်ဓါတ်၏ ဆွဲငင်မှုက အကူအညီပေးနေသောကြောင့်ဖြစ်၏။ ကျွန်ုပ်တို့ ကိုယ်ခန္ဓာတွင်း၌ ဆွဲငင်မှုအင်အား၏ ဗဟိုချက်မသည် ကျွန်ုပ်တို့၏ နှလုံးဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်း၌ ဖြစ်ပေါ်လာသမျှသော ရုပ်ဓါတ်အင်အားတို့သည် နှလုံးတွင် အခြေစိုက်၍ နေကြ၏။

ကျွန်ုပ်တို့သည် ဆာလောင်၍ အစာကို အလိုရှိကြသောအခါတွင် ထိုသို့ဖြစ်ခြင်းကို အကြောင်းပြု၍ ဖြစ်ပေါ်လာသော ရုပ်ဓါတ်အင်အား အားလုံးသည် နှလုံးတွင်းသို့ ရောက်လာကြ၏။ ထိုအခါ နှလုံးက ပတ်ဝန်းကျင်သိမှုအင်္ဂါတို့ကို လှုံ့ဆော်၍ပေး၏။ ထို့နောက် နှလုံးက အဆိုပါ ပတ်ဝန်းကျင်သိမှုအင်္ဂါတို့၏ အကူအညီဖြင့် မိမိအပေါ်တွင် ကျရောက်နေသော ဆာလောင်မှု ရုပ်ဓါတ်ဝန်ထုပ်ကြီးကို အမြန်ဆုံးဖယ်ရှားပစ်နိုင်ရန် နည်းလမ်းများကို ရှာ၏ ။

ကျွန်ုပ်တို့ ကိုယ်ခန္ဓာ၏ လေးမှုသည် ရှေးဦးစွာ ကျွန်ုပ်တို့၏ နှလုံးပေါ်သို့ ကျရောက်၏။ နောက်ဆုံးကျမှသာ ထိုလေးမှုကို ကမ္ဘာမြေကြီး၏ ဆွဲငင်မှုအင်အားက ဆွဲငင်၏။ ဂြိုလ်များ၏ ဆွဲငင်မှုနယ်များနှင့် ကြယ်များ၏ ဆွဲငင်မှု နယ်များကဲ့သို့သော ဆွဲငင်မှုနယ်များသည် စကြဝဠာအတွင်း၌ သက်ရှိ ရုပ်ဓါတ်၌ သတ္တဝါတို့၏ ကိုယ်ခန္ဓာများအတွင်း၌ ဖြစ်ပေါ်ကြသော နာမ်ဓါတ်၏ ဆွဲငင်မှု အင်အားအမျိုးမျိုး အလိုက် ဖြစ်ပေါ်နေကြ၏။ ဤအကြောင်းကို ဤအခန်း၏ နောက်ပိုင်းတွင် ဆက်၍ ဖော်ပြအံ့။

## <u>လိင်ဓါတ်အင်အားဝန်ထုပ်</u>

ဆာခြင်း သို့မဟုတ် ကိုယ်ခန္ဓာသို့ ကျရောက်လာမည့် ဘေးအန္တရာယ်ကို ဖော်ပြရာ အချက်ပြခြင်းဖြစ်သော အချက်ပြခြင်းမှန်သမျှတို့သည် မိမိတို့ အသက်ရှင် နေလိုသော ဘဝမက်မှုကို နှလုံးတွင်း၌ အမြဲပေါ်စေ၏။ ထိုနည်း အတိုင်းပင် သတ္တဝါတိုင်းတွင် ထကြွသော အင်အားအဖြစ်နှင့် ဖြစ်ပေါ်နေသော လိင်ဓါတ်တို့၏ စုစုပေါင်း အင်အားများ၏ ဝန်ထုပ်သည် နှလုံးပေါ်သို့ စု၍ကျ၏။

မိမိတို့၏ အသက်ရှင်နေလိုမှုသည် နှလုံးကိုဖိ၍နေသော ပထမအင်အား ကြီး ဖြစ်၏။ ထို့နောက် နှလုံးကို လေးလန်စွာ ဖိ၍နေသော အင်အားကြီးမှာ လိင် ဓါတ်အင်အားဖြစ်၏။ ဆာခြင်းသည် နာမ်ဓါတ်တို့က မိမိတို့ တည်ဆောက်နေကြသော ကိုယ်ခန္ဓာတို့အတွက် လိုအပ်သော ရုပ်ဓါတ်များကို စုဆောင်းရာမှ ဖြစ်ပေါ်လာ သော နာကျင်မှုဖြစ်၏။ သို့ရာတွင် လိင်ဓါတ်အင်အား၏ ဝန်ထုပ်သည် ရုပ်ဓါတ် များက မိမိတို့အမျိုးတူ ရုပ်ဓါတ်ချင်းသာ တည်နေလိုသော ရုပ်ဓါတ်အင်အားတို့မှ ဖြစ်ပေါ်လာ၏။

အဆင့်အတန်းမြင့်သော သတ္တဝါတို့၏ ကိုယ်ခန္ဓာများအတွင်း၌ လိင်ဓါတ် နှစ်မျိုးရှိသည့်အနက် တမျိုးသာလျှင် ထကြွခြင်းရှိကြောင်းကို ဖော်ပြခဲ့ပြီ။ ဤသို့ထကြွ ခြင်းရှိသော လိင်ဓါတ်သည် ကျွန်ုပ်တို့ အသက်ရှင်မှု အလျင်အတွင်း၌ အထုအထည်ဖြစ် ၍ နေသော လိင်စိတ်ဖွဲ့လန်းချက်များအလိုက် အဖိုပုံစံ သို့မဟုတ် အမပုံစံနှင့် တွဲ၍ နေ၏။ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာအတွင်းတွင် ရှိနေကြသော ရုပ်ဓါတ်အင်အားများ သည် လိင်ပုံစံ တမျိုးတည်းအဖြစ်၌ အချုပ်ခံနေရခြင်းမှ လွတ်မြောက်ရန် အမြဲတန်း

ဆူပူနေကြ၏။ ကျွန်ုပ်တို့ ကိုယ်ခန္ဓာအတွင်း၌ ရုပ်ကလာပ်အားလုံးတွင် ဖြစ်ပေါ်နေသည့် ဤလိင်ဓါတ်အင်အားသည် နောက်ဆုံးတွင် နှလုံးတွင်းသို့ ဆိုက်ရောက်လာပြီးလျှင် နှလုံးက ကျွန်ုပ်တို့အား အမျိုးမျိုးသော နာမ်ဓါတ်လှုပ်ရှားမှုနှင့် ရုပ်ဓါတ်လှုပ်ရှားမှုများကို ပြုလုပ်စေရန် လှုံ့ဆော်ပေး၏။

ရုပ်ကလာပ်အနည်းငယ်မျှရှိသော ကိုယ်ခန္ဓာရှိကြသည့် အဆင့်အတန်း အနိမ့်ဆုံးသတ္တဝါတို့၏ ကိုယ်ခန္ဓာများတွင် ရှိနေသော လိင်ဓါတ်သည် အဖိုနှင့်အမ တို့အား တဦးဦးသော်၎င်း၊ နှစ်ဦးလုံးသော်၎င်း၊ သေရစေသော ပေါင်းစပ်မှုကို ဖြစ်စေ၏။ သို့ရာတွင် ကျွန်ုပ်တို့ အမြဲတွေ့မြင်နိုင်သော သတ္တဝါအကုန်လုံး လောက် ဟုဆိုအပ်သော အခြားသော သတ္တဝါများတွင်မူကား လိင်ကိစ္စကို သီးခြားဆောင် ရွက်နိုင်သော အင်္ဂါများရှိကြပြီးလျှင် လိင်ကိစ္စကို ထကြွစွာ ဆောင်ရွက်နိုင်စေရန် အလွန်သက်ဆိုင်ရာ လိင်ဓါတ်များသည် အင်အားကြီးစွာ စုရုံးနေကြ၏။

<u>မျိုးဆက်မပြတ်ခြင်း</u>

အဆင့်အတန်းမြင့်သော သတ္တဝါများတွင် လိင်ဓါတ်နှင့်ဆိုင်သော ရုပ် ဓါတ်အဆောက်အအုံတို့က နှလုံးကို လှုံ့ဆော်ပေး၏။ ထိုသို့ လှုံ့ဆော်ပေးမှုကြောင့် အဆိုပါ သတ္တဝါတို့၏ ကိုယ်ခန္ဓာများသည် အဆင့်အတန်းအနိမ့်ဆုံးဖြစ်သော သတ္တဝါ များနည်းတူ လှုပ်ရှားခြင်းဖြစ်စေသော်လည်း ထကြွသော အဖိုဓါတ်နှင့် ထကြွသော အမဓါတ်နှစ်ခုတို့ စပ်ယှက်၍ ဖြစ်စေနိုင်လောက်သော အခြေအနေကိုသာ ဖြစ် ပေါ်စေ၏။ ဤသို့ဖြစ်ခြင်းကြောင့် အသက်ရှင်မှု အလျှင်၏ အင်အားအပြည့်အစုံသည် ချောမောစွာ လွှတ်ထွက်သွားပြီးလျှင် အမျိုးတူသော သတ္တဝါတို့ ပဋိသန္ဓေယူသော နယ်မြေများဖြစ်ပေါ်လာ၏။

စင်စစ်အားဖြင့် လိင်ဓါတ်အင်အားသည် မတူသော လိင်ဓါတ်နှစ်ခုတို့ တခုနှင့်တခု ပေါင်းစပ်လိုမှု၏ဆွဲငင်မှုကြောင့် ဖြစ်ပေါ်လာသော ရုပ်ဓါတ်အင် အားသာဖြစ်၏။ သို့ရာတွင် နောက်ပိုင်းသို့ ရောက်သောအခါ ထိုလိင်ဓါတ်အင် အားသည် မိမိတို့ အသက်ရှင်နေလိုမှုအာရုံအဖြစ်သို့ ရောက်လာ၏။ ထိုအခါတွင် ပေါက်ပွားလာသော သတ္တဝါတို့ မိမိတို့၏ အမျိုးဆက်ဖြစ်သည်ဟု ယူဆရ၏။ သို့ရာတွင်

ပေါက်ပွားလာသော သတ္တဝါသည် အသက်ရှင်မှု အင်အားတို့၏ အစီအမံကို မပြောင်းဆန်နိုင်သော မိမိတို့၏ ရုပ်ဓါတ်ပွားသာဖြစ်၏။ မိမိတို့၏ နာမ်ဓါတ်၏ အဆက်လုံးဝမဟုတ်။ ပေါက်ပွားလာသော သတ္တဝါ၏ နာမ်ဓါတ်သည် အခြားသတ်သတ်ဖြစ်၍ မိဘနှစ်ပါးလုံး၏ နာမ်ဓါတ်နှင့် လုံးဝသက်ဆိုင်ခြင်း မရှိ။ မိဘတို့က မိမိတို့မှ ပေါက်ပွားလာသော သားသမီးတို့၏ နာမ်ဓါတ်ကို ပြုပြင်ပြောင်းလဲအောင် လုပ်မှုမှန်သမျှမှာ ဆရာတို့က တပည့်တို့အား ပြုပြင်ပြောင်းလဲအောင် လုပ်ပေးခြင်းများနည်းတူ ပြင်ပပြုပြင်မှုများသာဖြစ်၏။

## ရုပ်ဓါတ်ရှိ သတ္တဝါအဖြင့် သန္ဓေတည်ကြသော သတ္တဝါများ

အသိမ်းသိမ်းသော နာမ်ဓါတ်တို့သည် မိမိတို့တွင် ရှိနေသော မစင်ကြယ်မှုများမှ အကုန်အစင် ကင်းလွတ်သွားကြသောအခါတွင် အကြီးမားဆုံး စင်ကြယ်မှုအင်အားဖြစ်ပေါ်လာကြောင်းကို အခန်း ငါးတွင် ဖော်ပြခဲ့ပြီ။ နာမ်ဓါတ်တို့ အထဲတွင် မစင်ကြယ်မှုများ ကင်းစင်နေသောအခါတွင် နောက်ထပ်မစင်ကြယ်မှုတို့သည် ပေါက်ပွားခြင်းငှါ မဖြစ်နိုင်။ အဘယ့်ကြောင့်ဆိုသော် မစင်ကြယ်မှုအလျှင် လုံးဝမရှိဘဲနှင့် မစင်ကြယ်မှု မွဲ့လန်းချက်အသစ်တို့သည် ဖြစ်ပေါ်မလာနိုင်ကြသောကြောင့်ဖြစ်၏။ မစင်ကြယ်မှုများ လုံးဝပပျောက်သွား၍ နောက်ထပ်မစင်ကြယ်မှုများဖြစ်ပေါ်နိုင်စေရန် အကြောင်းမရှိတော့သောအခါတွင် နာမ်ဓါတ်တို့သည် အကြီးဆုံးသော စင်ကြယ်မှုအင်အားကိုသာ ဆောင်၍နေကြ၏။ အဆိုပါ နာမ်ဓါတ်မျိုးတို့သည် အမြဲတန်း ငြိမ်းသာခြင်းနှင့် ပြည့်စုံသော အထွဋ်အထိပ်ဘဝသို့ ရောက်သွားကြ၏။ အဆိုပါ ဘဝမျိုးသို့ ရောက်သွားသော နာမ်ဓါတ်တို့သည် မှီအောင်းရာ ရုပ်ဓါတ်ကို မလိုကြတော့။ ထို့ပြင် ရုပ်ဓါတ်သည် နာမ်ဓါတ်ထက် အဆင့်အတန်းနိမ့်သဖြင့် အဆိုပါတိုင်းဆ၍ မရနိုင်လောက်အောင် တန်ခိုးကြီးသော နာမ်ဓါတ်အင်အားတို့၏ မျက်မှောက်တွင် တည်နေနိုင်ခြင်း မရှိတော့။

မစင်ကြယ်မှုဝန်ထုပ်ကြီးများကို ထမ်းဆောင်၍နေကြသော နာမ်ဓါတ်တို့သည် အလွန်လျှင် အင်အားနည်းပါးလှသဖြင့် ရုပ်ဓါတ်တို့သည် အဆိုပါ နာမ်ဓါတ်များတွင် ဘွယ်ကပ်၍ နေနိုင်ကြ၏။ မဟာဘုတ်ဓါတ်များသည် အဆိုပါ နာမ်ဓါတ်များနှင့် ရောပြွမ်း၍ အစိုင်အခဲတည်နေကြပြီးလျှင် သတ္တဝါအမျိုးမျိုး ဖြစ်လာကြ၏။ မသိ

မှု အင်အားတို့ကြောင့် ဖြစ်ပေါ်လာသော တပ်မက်မှုနှင့် မုန်းတီးမှု ပွဲလန်းချက် အထုအထည်တို့က ရုပ်ဓါတ်ရှိ သတ္တဝါများ ဖြစ်လာနိုင်ရန်အတွက် လိုအပ်သမျှသော အကူအညီကို ပေးကြ၏။ သို့ရာတွင် အဆိုပါ မစင်ကြယ်မှု အထုအထည်တို့သည် မိမိတို့နှင့် ဆန့်ကျင်ဘက်ဖြစ်သော နာမ်ဓါတ်တို့အတွင်း၌ ပမာဏအမျိုးမျိုးနှင့် ရှိနေကြသော စင်ကြယ်မှု အင်အားတို့က ပြုပြင်သလိုသာ နေကြရ၏။ ဤနည်းဖြင့် တပ်မက်မှုနှင့် မုန်းတီးမှု မစင်ကြယ်မှုတို့သည် မိမိတို့အမှန်းကုန် ကြီးပွားခြင်းကို မရနိုင်ကြ။

မဟာဘုတ်ဓါတ်အမျိုးအစားနှင့် တိုဓါတ်တို့ ပေါင်းစပ်ပုံတို့မှာ နာမ်ဓါတ်အတွင်းသွင်ရှိနေသော မစင်ကြယ်မှု အင်အားနှင့် စင်ကြယ်မှု အင်အားတို့၏ အချိုးအစားအလိုက်သာ ဖြစ်ရ၏။ ပုဏ္ဏမျိုး၊ အရဟတ္တမျိုးကဲ့သို့သော ၊ နာမ်ဓါတ် စင်ကြယ်မှု၏ အထွဋ်အထိပ်ဘဝများကို ချွန်လှပ်၍ ကျန်ခဲ့သမ်းသော နာမ်ဓါတ်တို့၏ အင်အားအမျိုးအစားများမှာ မရေမတွက်နိုင်လောက်အောင် များပြား၏။ ထိုကဲ့သို့ နာမ်ဓါတ်အင်အားအမျိုးအစားများ မရေမတွက်နိုင်လောက်အောင် များပြားခြင်းကြောင့် သတ္တဝါတို့၏ အဆင့်အတန်းများသည်လည်း မရေတွက်နိုင်လောက်အောင် များပြား၏။

## ဘကိုယ်ကောင်းမိတ်ရှိခြင်း၏ ဂုဏ်အင်္ဂါများ

မိမိတို့ အသက်ရှင်နေလိုမှုကို တပ်မက်ခြင်းသည် ရုပ်ဓါတ်ရှိ သတ္တဝါတိုင်းတွင် ရှိသော တပ်မက်ခြင်းဖြစ်၏။ ဤတပ်မက်ခြင်းအလျှင်ကို မသိမှုအလျှင်၏ အင်အား ဘီဝိဘိုက်တို့ ဖုံးအုပ်ထားခြင်းခံနေရသော အမြင်တို့မှုတို့က အမြဲတန်းအားပေးနေ၏။ ရုပ်ဓါတ်ရှိ သတ္တဝါအားလုံးသည် မသိမှု၏ ပြုပြင်ပေးခြင်းကို ခံနေကြရ၏။ ထို့ကြောင့်ပင်လျှင် ရုပ်ဓါတ်ရှိ သတ္တဝါတို့၏ ဥာဏ်အမြင်သည် အလွန်တိုခြင်းဖြစ်၏။ လူသတ္တဝါတို့နှင့် ၎င်းတို့အောက် အဆင့်အတန်းနိမ့်ကျသော ရုပ်ဓါတ်ရှိ သတ္တဝါအားလုံးတို့၏ ဥာဏ်အမြင်သည် မိမိတို့နှင့် နီးကပ်နေသော ပတ်ဝန်းကျင်၏ နယ်နိမိတ်အတွင်း၌သာ ရှိ၏။ ယေဘုယျအားဖြင့် အဆိုပါ သတ္တဝါတို့၏ ဥာဏ်အမြင်သည် ဤဘဝတွင်ဖြစ်သော ရုပ်ဓါတ်နှင့် သက်ဆိုင်သော အရေးအကြောင်းများအတွင်း၌သာ ရှိ၏။

ဣနိပ်တို့တွင် အခြားဂြိုလ်များ၊ ကြယ်များ အကြောင်းကို၎င်း၊ သို့မဟုတ် ဣနိပ်တို့၏ အတိတ်ဘဝနှင့် အနာဂတ်ဘဝများအကြောင်းကို၎င်း နားလည်နိုင်လောက်အောင် ကြီးမားသော ဥာဏ်အမြင်မရှိကြသဖြင့် ဣနိပ်တို့သည် အဆိုပါအကြောင်းများတွင် စိတ်ဝင်စားခြင်း မရှိကြ။ ထို့ကြောင့် ဣနိပ်တို့သည် ဤကမ္ဘာ

မြေကြီးနှင့် ဤဘဝ၏ အကြောင်းကိုသာလျှင် ကွက်၍ ငိုပ်ဝင်ပေးကြ၏။ အခြေအနေက ဤကဲ့သို့ ဖြစ်နေသဖြင့် ကျွန်ုပ်တို့သည် ဤကမ္ဘာ မြေကြီးနှင့် ဤဘဝကိုသာ သိကြ၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် အပိသွားချည်ပါသဘောဖြင့် ဤကမ္ဘာ မြေကြီးနှင့် ဤဘဝကိုသာ ဖွဲ့လန်းရလာကြ၏။ ကျွန်ုပ်တို့သည် အဘယ်မှာလျှင် ကျွန်ုပ်တို့ မသိသော အရာများကို ဖွဲ့လန်းနိုင်ကြမည်နည်း ။

အကယ်၍ ကျွန်ုပ်တို့သည် အတိတ်ဘဝများ၌ အကြောင်းကို နားမလည်နိုင်ကြပါမူ အနာဂတ်ဘဝများ ၌ နိုင်လပ်းဖွယ်သည့်အကြောင်းကို မွေးမြူကြည့်နိုင်ကြလိမ့်မည်မဟုတ်။ သို့ရာတွင် အကယ်၍ ကျွန်ုပ်တို့သည် အတိတ်ဘဝများကို သတိပြု၍ ရနိုင်ကြသည်ဖြစ်ငြားမူ အနာဂတ်ဘဝများ၌ နိုင်လပ်းဖွဲ့ခြင်းသည် အလွန်ဝင်ရှားလာမည်သာဖြစ်၏။ တခုကိုနားလည်ခြင်းသည် အခြားတခုကို နားလည်ပေရန်အတွက် အထောက်အပံ့ ပြုလိမ့်မည်။ သို့ရာတွင် ကျွန်ုပ်တို့တွင် အတိတ်ဘဝက အတွေ့အကြုံများကို ရွေးချယ်၍ မြင်နိုင်လောက်အောင် ဥာဏ်အား မရှိကြသဖြင့် ကျွန်ုပ်တို့သည် အတိတ်ဘဝများအကြောင်းကို ရော၊ အနာဂတ်ဘဝများအကြောင်းကိုပါ နားမလည်နိုင်ကြ။ သို့ရာတွင် ကျွန်ုပ်တို့ ဥာဏ်အမြင်သည် ဤကမ္ဘာ၌ ကျွန်ုပ်တို့၏ မျက်မှောက်ဘဝတွင် တွေ့ကြုံရခြင်းများကိုမှကား ပြန်၍ သတိရနိုင်ကြ၏။ ထိုကဲ့သို့ သတိရကြသဖြင့် ဤမျက်မှောက်ကျွန်ုပ်တို့ဘဝအသေးဖတ် အတွေ့အကြုံများသည်ငှင်း၊ ဤကမ္ဘာသည်ငှင်း၊ အစင်အမှန်ဖြစ်သည်ဟု ယုံကြည်ကြ၏။ ကျွန်ုပ်တို့တွင် အတိတ်ဘဝများက အတွေ့အကြုံတို့ကို ပြန်၍ သိနိုင်သော သတိမရှိကြသဖြင့် ကျွန်ုပ်တို့သည် အတိတ်ဘဝများ အကြောင်းကို မယုံကြည်နိုင်ကြ။ ဤနည်းဖြင့် ကျွန်ုပ်တို့သည်အနာဂတ်ဘဝများအကြောင်းကိုလည်း မယုံကြည်နိုင်ကြ။ ကျွန်ုပ်တို့သည် မျက်မှောက်ဘဝအကြောင်းကိုသာ သိကြသဖြင့် ကျွန်ုပ်တို့သည် ဤမျက်မှောက်ဘဝကို အလွန်အမင်း ခင်တွယ်ကြပြီးလျှင် ဤမျက်မှောက်ဘဝတည်ရှိနေပေရန်အတွက် အပူတပြင်း ကြိုးပမ်းကြ၏။ အကယ်၍သာ ကျွန်ုပ်တို့သည် အတိတ်ဘဝများက အတွေ့အကြုံများကို ပြန်၍ သတိရနိုင်ကြမည်ဆိုမူ ကျွန်ုပ်တို့တွင် များစွာအကျိုး ရှိနိုင်ရာ၏။ အဘယ့်ကြောင့်ဆိုသော် ထိုအခါတွင် ယခုမျက်မှောက်ဘဝသည် ယခင်အတိတ်ဘဝများကဲ့သို့ပင် ယာယီမျှသာ ဖြစ်သည့်အကြောင်းကို ကျွန်ုပ်တို့ သိနိုင်မည်ဖြစ်သောကြောင့် ဖြစ်၏။ ထို့ပြင် အကယ်၍ သေခြင်းတွင် အဆုံးသတ်သော ဘဝသည် ပကြာဝဋ္ဋာအတွင်း တနေ့ရာရာ၌ မလွဲမသွေ အသင်တဖန်ပြန်၍ စပြန်သည့်အကြောင်းကို ကျွန်ုပ်တို့ ကောင်းစွာ နားလည်ကြသည်ဖြစ်ငြားမူ ကိုယ့်ကိုယ်ကို ဖွဲ့လန်းမှုသည်လည်း သိသိသာသာကြီး လျော့ပါးသွားမည်ဖြစ်၏။ ထိုအခါတွင်

ကျွန်ုပ်တို့သည် သေရမှာကို ယခုလောက်ကြောက်ကြတော့မည်မဟုတ်။ ထိုအခြေအနေမျိုးတွင် အဆင့်အတန်းမြင့်သော အနာဂတ်ဘဝကို သုံးချင်လာကြလိမ့်မည်ဖြစ်၏။ ထိုကဲ့သို့ အဆင့်အတန်းမြင့်သော ဘဝကို ရလိုမှုသည် အကျိုးရှိ၏။ အဘယ့်ကြောင့်ဆိုသော် ထိုသို့ ရလိုမှုအတွက် အနာဂတ်တွင် အဆင့်အတန်းမြင့်သော ဘဝကို ရရာရကြောင်းဖြစ်သော ကောင်းသော အကြံအစည်နှင့် ကောင်းသော အမှုတို့ကို ကျွန်ုပ်တို့ ပြုလာကြမည်ဖြစ်သော ကြောင့်ဖြစ်၏။

<u>ဘဝ အမြင်ကျဉ်းမှု</u>

အတိတ်ဘဝများကို သိခြင်းနှင့် အနာဂတ်ဘဝများကို ပိတ်ကူးကြည့်နိုင်မှုသည် ယခုဘဝကို ရှဲ့လန်းနေကြခြင်းအားများမှ လျော့ပါးသွားစေနိုင်၏။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် အသက်ရှင်နေလိုမှု တပ်မက်ခြင်းကို ထိန်းသိမ်းပေးနိုင်လိမ့်မည်ဖြစ်၏။ ကျွန်ုပ်တို့၏ မျက်မှောက်ဘဝသည် အတိတ်ဘဝ၊ အနာဂတ်ဘဝတို့နှင့် အဆက်အစပ်မရှိသော သီးခြားပိတ်ထားသော အခန်းဖြစ်သည်ဟု ယုံကြည်ကြသောအခါတွင် အသက်ရှင်နေလိုမှုအတွက် တပ်မက်ခြင်းသည် အလွန်အမင်းပြင်းထန်လာပြီးလျှင် ယခုဘဝကို ရှည်နိုင်သမျှ ရှည်စေရန်အတွက် ကျွန်ုပ်တို့သည် နည်းမျိုးစုံဖြင့် အမှီးကုန်ကြိုးစားကြမည်ဖြစ်၏။ ထိုကဲ့သို့ တကိုယ်ကောင်းစိတ်များ ပူးဝင်နေသောအခါတွင် ကျွန်ုပ်တို့သည် မည်သည့်အမှုမျိုးကိုမဆို မငြိမငြား ပြုလိုလာကြ၏။ ကြိမ်ဖန်များစွာ ပင်လည်း မငင်ကြယ်မှုများကို ကျူးလွန်ကြ၏။

ကျွန်ုပ်တို့၏ အတိတ်ဘဝများကို သိရလျှင် ကျွန်ုပ်တို့တွင် သင်ခန်းစာ အများကြီး ရနိုင်၏။ ဥဒါဟရဏ်ဆိုသော် ထိုသို့သိရလျှင် ယခုဘဝတွင် ကျွန်ုပ်တို့ခံရှိနေသော ချွတ်ယွင်းချက်တို့မှာ မည်သည့်အကြောင်းကြောင့် ဖြစ်သည်ဟု သိနိုင်မည်ဖြစ်၏။ သို့ရာတွင် ထိုသို့သိရခြင်းကို မဆင်မခြင် အသုံးပြုကြမည်ဆိုလျှင် ထိုသို့ သိရခြင်းအတွက် ယခုကျွန်ုပ်တို့၏ မျက်မှောက်ဘဝတွင် ပို၍ ဇယားရှုပ်သွားဘွယ်ရှိ၏။ ဥဒါဟရဏ်ဆိုသော် အကယ်၍ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ဘဝဟောင်းများကို သိ၍ ဘဝဟောင်းက ရန်သူများကို တွေ့ရလျှင် သို့မဟုတ် ကျွန်ုပ်တို့ ဘဝဟောင်းက ဥစ္စာထားခဲ့သော နေရာကို သိကြမည်ဆိုလျှင် ကျွန်ုပ်တို့တွင် မုန်းတီးမှုစိတ်နှင့် တပ်မက်မှုစိတ်တို့ ပေါ်လာသဖြင့် ဆင်းရဲကြဘွယ်ရာရှိ၏။ သို့ရာတွင် ဘဝဟောင်းများအကြောင်းကို ပြန်၍သိနိုင်သော သူတို့သည် နာမ်ဓါတ်အလွန်ကြီးမားချက်ရှိသဖြင့် ထိုသူတို့သည် မုန်းတီးခြင်း တပ်မက်ခြင်း ဖြစ်ကြလိမ့်မည်မဟုတ်။

## နာမ်ဓါတ်၏ ကျင်လည်ခြင်း

နာမ်ဓါတ်၏ အင်အားသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများအတွင်း၌ ရှိနေခိုက်တွင် ဘဝယက်မှု ဘဝဝန်များနှင့် အာရုံခံသွားမှုဘဝဝန်အမျိုးမျိုးကို ရွက်ဆောင်ကာနေ၏။ နာမ်ဓါတ် လေ့ကျင့်မှု (ဘာဝနာ) အလုပ်ကို လုပ်၍ တိုးတက်နေသည်မဟုတ်လျှင် နာမ်ဓါတ်တို့၏ အင်အားသည် ဘဝဟောင်းများကို ပြန်၍သိမြင်နိုင်လောက်အောင် အစွမ်းမရှိ။ သို့ရာတွင် မျက်မှောက်ဘဝ၏ အဆုံးသို့ရောက်၍ နာမ်ဓါတ်တို့၏ အင်အား အားလုံးသည် နှလုံးတွင်း၌ ပုံ၍ နေသော အခါတွင် နောင်ဘဝဆီသို့ လှမ်း၍ကြည့်နိုင်၏။ အဆိုပါ နည်းဖြင့် လှမ်းကြည့်၍ ဘဝသစ်ကို မြင်သည်နှင့် တပြိုင်နက် အသက်ရှင်နေလိုသော တဏှာမက်မှုအင်အားတို့သည် ကုန်ခမ်းသွား၏။ ဘဝသစ်သို့ ရောက်သောအခါတွင် အသက်ရှင်နေလိုမှု တဏှာမက်ခြင်းသည် ဘဝသစ်ကို ခိုင်မြဲစွာ ယှယ်ကာနေသဖြင့် နာမ်ဓါတ်တခုလုံးသည် ဘဝသစ်သို့ ပြောင်းလာရ၏။

ကျွန်ုပ်တို့၏ ယခုမျက်မှောက်ဘဝ၌ နေခြင်းသည် အသက်ရှင်နေလိုမှုကို တဏှာမက်သောအင်အားများက ယောက်မံ့ထားသောကြောင့် ဖြစ်၏။ ယခုမျက်မှောက်ဘဝဆုံးခန်းသို့ ရောက်သောအခါတွင် အဆိုပါ အသက်ရှင်နေလိုမှုကို တဏှာမက်ခြင်းသည် ဘဝဝန်သစ်ကို ဆောင်ရွက်၏။ ထိုတဏှာမက်ခြင်းသည် သေခြင်းမြင်မှုကို မြင်ပေါ်စေပြီးလျှင် ထိုသေခြင်းမြင်မှုကို ဘဝသစ်ဖြစ်မည့်နယ်တွင် ပူးကပ်နေစေ၏။ ဤနည်းဖြင့် နာမ်ဓါတ်တခုလုံးကို ဘဝသစ်သို့ ရောက်၍ တဖန် ရှင်ပေါ်ပြန်၏။

## ပဋိသန္ဓေ တည်ခြင်း

နာမ်ဓါတ်သည် ဘဝသစ်သို့ ရွှေ့ပြောင်းသွားမှုပြီး မြောက်သွားသော အခါတွင် သေခြင်းမြင်မှုသည် ရပ်စဲသွား၏။ ဤအခါကဝ၌ နာမ်ဓါတ်၏ အင်အား အားလုံးသည် ကိုယ်ခန္ဓာအသစ် တည်ဆောက်မှုဘက်သို့ ညွှတ်၍ သွား၏။ နာမ်ဓါတ် အင်အားများက ဘဝသစ်ကို စ၍တည်ဆောက်သည့်အခါတွင် ရုပ်ဓါတ်၌ သတ္တဝါအသစ်တို့ ပဋိသန္ဓေတည်၏။

သေခြင်းနှင့် ပဋိသန္ဓေတည်ခြင်း၏ စပ်ကြားအချိန်မှာ အင်မတိ အင်မတန် တိုတောင်းလှ၏။ သေခြင်းမြင်မှု မြင်ပေါ်ချိန် [illegible]ဦးတခုလုံးသည် နာမ်ဓါတ်လှုပ်ရှားမှု အကြိမ်အနည်းငယ်သာ ကြာ၏။ သေသည့်အခါတွင် ဘဝသစ်သို့

ရောက်သွားသော နာမ်ဓါတ်နှင့် ဘဝသစ်တွင် ရှိသော မဟာဘုတ်ဓါတ်တို့သည် နာမ်ဓါတ်လှုပ်ရှားမှု၏ ပထမ ဂိုင်းဖြင့် ပေါ်ထိုက်အတွင်း၌ ပေါင်းစပ်ကြ၏။ ထိုသို့ ပေါင်းစပ်သောအချိန်မှာ ယှက်ပျက်၍ မရနိုင်လောက်အောင် တိုတောင်းသော အချိန်ကာလ၏ အစိတ်အပိုင်းကလေးသာဖြစ်၍ လျှပ်တပြက်၏ အပုံကုဋေ ၅၀ သန်း၏ တပုံသာကြာ၏။ ဘဝသစ်သို့ ပြောင်းရွှေ့သွားသော နာမ်ဓါတ်နှင့် ဘဝသစ်တွင်ရှိသော မဟာဘုတ်ဓါတ်တို့ ပေါင်းစပ်သွားခြင်းသည် ဂျူပိုးအဖို့တွင် ပဋိသန္ဓေတည်ခြင်း ဖြစ်၏။ ထို့ကြောင့် ပဋိသန္ဓေတည်ခြင်းသည် အလွန်တိုတောင်းသောအချိန်ကလေးဖြစ်၏။ ပဋိသန္ဓေတည်ရာတွင် အမြဲတမ်းအားဖြင့် အလွန်လျှင်မြန်သော သော်ခြင်းဖြင့်မှုဖြင့် ပေါ်၍ ထိုကဲ့သို့ အလွန်လျှင်မြန်သော ဖြစ်ပ နာမ်ဓါတ် ပြောင်းရွှေ့သွားခြင်း ဖြစ်ပေါ်၏။

## အခြားဂြိုဟ်များနှင့် ကြယ်များ

နာမ်ဓါတ်၏ အခြင်းအရာများကို ဖော်ပြရာတွင် နာမ်ဓါတ်သည် သက်ရှိသတ္တဝါတို့၏ ကိုယ်ခန္ဓာအတွင်း၌ တည်နေကြောင်းကို ဆိုခဲ့ပြီ။ နာမ်ဓါတ်သည် ပဋိသန္ဓေတည်သည့်အချိန်ကစ၍ သက်ဆိုင်ရာသတ္တဝါ၏ ကိုယ်ခန္ဓာအတွင်း၌ နေ၍ သေသည့်အချိန်ကျမှပင် လွတ်မြောက်၏။ အဘယ်နည်းဆိုသော် သေခြင်းဖြင့်မှု ဖြစ်ပေါ်၍ ဘဝသစ်သို့ ပြောင်းရွှေ့သွားသောအခါကျမှပင် လွတ်မြောက်၏။ အသီးသီးသော နာမ်ဓါတ်တို့သည် မိမိတို့သက်ဆိုင်ရာ ကိုယ်ခန္ဓာများကို အလွန်သေးငယ်သော အခြေအနေကစ၍ တည်ဆောက်ကြ၏။ ဤနည်းဖြင့် ကိုယ်ခန္ဓာများတည်ဆောက်ပြီးစ အချိန်တွင် နာမ်ဓါတ်တို့သည် မိမိတို့တွင်ရှိသမျှသော ဉာဏ်အားအကုန်လုံးကို အသုံးပြုကြ၏။ ထိုကဲ့သို့ မိမိတို့ တည်ဆောက်ကြသော ကိုယ်ခန္ဓာတို့ သုံးဝန်းသို့ရောက်သောအခါတွင် နာမ်ဓါတ်တို့သည် မိမိတို့ သက်ဆိုင်ရာ ကိုယ်ခန္ဓာအဟောင်းများကို စွန့်ပစ်၍ ပြောင်းရွှေ့သွားကြပြီးလျှင် မိမိတို့၏ သက်တမ်းအသစ်အတွက် ဆောလျင်စွာ ကိုယ်ခန္ဓာအသစ်များကို တည်ဆောက်ကြ၏။ နာမ်ဓါတ်တို့သည် စကြာဝဠာအတွင်း၌ ဤသို့ မရပ်မနားဆက်၍ လုပ်နေကြ၏။

စကြာဝဠာအတွင်း၌ ရုပ်ဓါတ်တို့၏ အခြေအနေများမှာ မရေမတွက်နိုင်လောက်အောင် များပြား၏။ ထိုနည်းတူစွာပင် စကြာဝဠာအတွင်း၌ လှည့်လည်နေကြသော နာမ်ဓါတ်တို့၏ အခြေအနေများသည်လည်း မရေမတွက်နိုင်လောက်အောင်ပင် များပြား၏။ ဤအချက်နှင့်ပတ်သက်၍ ရုပ်ဓါတ်နှင့် နာမ်ဓါတ်တို့ အခြေ

အနေအထားမျိုးမျိုး၌ ရှိနေကြခြင်းမှာ ဤကမ္ဘာမြေကြီးပေါ်နှင့် ဤစကြာဝဠာအတွင်း၌သာ မဟုတ်၊ အခြားဂြိုလ်များ၊ ကြယ်များအတွင်း၌လည်း ဤနည်းအတိုင်းပင် ဖြစ်၏။ အခြားဂြိုလ်နှင့် ကြယ်များ အတွင်းရှိ နာမ်ဓါတ်တို့သည် အမြဲအနေ ပြောင်းလဲလျက်ရှိ၏။ ထိုနည်းတူစွာပင် အခြားဂြိုလ်များနှင့် ကြယ်များအတွင်းရှိ သတ္တဝါတို့သည်လည်း အမြဲပြောင်းလဲလျက်ရှိကြ၏။ ထို့ကြောင့် ကျွန်ုပ်တို့နေထိုင်ရာ စကြာဝဠာ အကြောင်းကို တိကျမှန်ကန်စွာ သိလိုသည်ဖြစ်မူ ကျွန်ုပ်တို့သည် အပိုင်းအခြားမရှိသော ရုပ်ဓါတ်ရှိ စကြာဝဠာ တခုလုံးကို တစုတည်းအဖြစ်နှင့် မှတ်ယူအပ်၏။

## ရုပ်ဓါတ် ပြောင်းလဲမှုအကြောင်း

ရုပ်ဓါတ်တို့တွင် ပြောင်းလဲမှုကို ဖြစ်စေနိုင်လောက်အောင် ကြီးမားသော အင်အား မရှိကြကြောင်းကို ဆိုခဲ့ပြီ။ ဥဒါဟရုဏ်ဆိုသော် မီးဓါတ်တို့၏ အင်အားများသည် နှစ်ပေါင်း ကုဋေကုဋာ ကြာသည့်ပင်ဖြစ်သော်လည်း တိုးခြင်း လျော့ခြင်း မရှိကြ။ အခြားမဟာဘုတ်ဓါတ်တို့၏ အင်အားများသည်လည်း ဤနည်းအတိုင်းပင်ဖြစ်၏။ ထိုဓါတ်တို့သည် မိမိတို့၏ အင်အားကို တိုးလာအောင်လည်း မလုပ်နိုင်၊ လျော့သွားအောင်လည်း မလုပ်နိုင်ကြ။ ထို့ကြောင့် ရုပ်ဓါတ်တို့ ပြောင်းလဲမှုဟု ဆိုရာတွင် အချိန်ကာလ ရှည်ကြာခြင်းကြောင့် မဟာဘုတ်ဓါတ်တို့၏ အင်အားများ ပြောင်းလဲမှု ရှိကြသည်ဟု မယူဆအပ်။

သို့ရာတွင် မဟာဘုတ်ဓါတ်တို့သည် အရာဝတ္ထုများကို ဖြစ်ပေါ်စေနိုင်၍ အရာဝတ္ထုတို့သည် မိမိတို့အတွင်း၌ ပါဝင်သော မဟာဘုတ်ဓါတ်တို့၏ အချိုးအစားအလိုက် တခုနှင့်တခု ခြားနားခြင်းရှိကြ၏။ ကျွန်ုပ်တို့ တွေ့မြင်ကြရသမျှသော ဤကမ္ဘာမြေကြီးနှင့် အခြားသော ဂြိုလ်များ၊ ကြယ်များပေါ်ရှိ ရုပ်ဓါတ်တို့၏ ပြောင်းလဲမှုများမှာ မဟာဘုတ်ဓါတ်များ၏ ပြောင်းလဲမှုများ မဟုတ်ဘဲ အရာဝတ္ထုအမျိုးမျိုးတို့၏ ပြောင်းလဲမှုများသာ ဖြစ်၏။ အရာဝတ္ထုတို့မှာ အချိုးအစားအမျိုးမျိုးဖြင့် မဟာဘုတ်ဓါတ်များ စုဝေးနေကြခြင်းများဖြစ်သည်ကို သတိပြုအပ်၏။

## နာမ်ဓါတ်က ရုပ်ဓါတ်ကို ဖြစ်ပေါ်စေခြင်း

နာမ်ဓါတ်တို့သည် မဟာဘုတ်ဓါတ်များနှင့် မတူဘဲ ပြောင်းလဲမှုရှိကြ၏။ နာမ်ဓါတ်တို့သည် မိမိတို့အတွင်း၌ အထုအထည်ဖြစ်၍နေသော စင်ကြယ်မှုနှင့်လန်းချက်အင်အားများအလိုက် တိုးတက်မှုရှိကြ၍ အထုအထည်ဖြစ်နေသော မစင်ကြယ်မှု

ဖွဲ့လန်းချက် အင်အားများအလိုက် ဆုတ်ယုတ်ခြင်း ရှိကြ၏။ မဟာဘုတ်ဓါတ်တို့၏ အင်အားများသည် အချိန်ကာလမည်မျှလောက်ပင်ကြာသည်ဖြစ်စေကာမူ ပြောင်းလဲခြင်းမရှိ။ သို့ရာတွင် နာမ်ဓါတ်တို့၏ အင်အားများသည်မူကား အစဉ်မပြတ်ပြောင်းလဲနေကြ၏။ နာမ်ဓါတ်တို့၏ အင်အားများသည် အချိန်ကာလရှည်ကြာသောအခါ အကြီးအကျယ် ပြောင်းလဲသွား၏။ ဤနည်းအတိုင်းပင် နာမ်ဓါတ်အမျိုးမျိုးတို့၏ စုစုပေါင်းအင်အားသည်လည်း အမြဲပြောင်းလဲနေ၏။ ဤသို့ နာမ်ဓါတ်တို့၏ အင်အား ပြောင်းလဲနေမှုကြောင့် ရုပ်ဓါတ်ရှိ စကြာဝဠာ၏ ပြောင်းလဲမှုများဖြစ်ပေါ်လာ၏။ ဤသို့ နာမ်ဓါတ်တို့၏ အင်အား ပြောင်းလဲမှုရှိခြင်းကြောင့် စကြာဝဠာတွင်းရှိ ရုပ်ဝတ္ထု ပြောင်းလဲမှုဖြစ်ပုံကို ဤအခန်းတွင် အကျဉ်းအားဖြင့် ဖော်ပြပေအံ့။ မီးဓါတ်တွင် စ၍ဖြစ်ပေါ်လာကြသော အဆင့်အတန်းအနိမ့်ဆုံးဖြစ်သော သတ္တဝါတို့သည် မိမိတို့ ကိုယ်ခန္ဓာအတွင်း၌ ရှိကြသောအသက်ရှင်မှု အလျှင်အင်အားအလိုက် ကြီးပွားကြ၏။ အဆိုပါ အဆင့်အတန်းအနိမ့်ဆုံးဖြစ်သော သတ္တဝါတို့ကို အခြေပြု၍ အခြားသတ္တဝါတို့ ကြီးပွားကြ၏။ နောက်ဆုံးတွင် လူသတ္တဝါနှင့် အဆင့်အတန်းမြင့်သော တိရစ္ဆာန်တို့ကဲ့သို့သော ရုပ်ဓါတ် ၂၀ ခုပါဝင်၍ အလွန်လျှင်ထက်မှုရှိသော သတ္တဝါများ ဖြစ်ပေါ်လာကြ၏။

စကြာဝဠာအတွင်း၌ ရုပ်ဓါတ်များ ပြောင်းလဲမှုဖြစ်ပေါ်လာခြင်းမှာ အမျိုးမျိုးသော နာမ်ဓါတ်တို့က မဟာဘုတ်ဓါတ်များကို စုပေါင်း၍ ယူငင်ကြခြင်းကြောင့်ဖြစ်၏။ ဤနည်းဖြင့် ဟင်းလင်းပြင်ဓါတ်အတွင်း၌ ရုပ်ဓါတ်တို့သည် မိမိတို့ဟာ မိမိတို့ တသီးတခြားစီ ဖြစ်ပေါ်နေမှုသည် ပျက်ပြားသွား၏။ မဟာဘုတ်ဓါတ်တို့၏ ပင်ကိုယ်သဘောမှာ ဟင်းလင်းပြင်ဓါတ်အတွင်း၌ ညီမျှစွာ ပြန့်၍နေလိုကြကြောင်း၊ သို့ရာတွင် နာမ်ဓါတ်တို့က ထိုကဲ့သို့ ညီမျှစွာပြန့်၍ မနေနိုင်ကြစေရန် တားမြစ်ကြကြောင်းကို ဖော်ပြခဲ့ပြီ ။

## ညီမျှမှု ပျက်စီးခြင်း

နာမ်ဓါတ်များသည် အင်အားကြီး၍လာကြသောအခါတွင် မဟာဘုတ်ဓါတ်များကို မိမိတို့ သိမ်းယူထားနိုင်သမျှ သိမ်းယူထားကြသဖြင့် မဟာဘုတ်ဓါတ်တို့သည် မိမိတို့ အလိုရှိသလို ညီမျှသော ပမာဏဖြင့် ပြန့်၍မနေနိုင်ကြတော့ဘဲ အင်အားကြီးသော နာမ်ဓါတ်တို့ရှိရာသို့ စုရုံး၍လာကြ၏။ ထို့ပြင် နာမ်ဓါတ်တို့သည်

မဟာဘုတ်ဓါတ်အချို့ကို ပို၍ သိမ်းယူကြပြီးလျှင် အချို့ကိုမူ လျှော့၍ သိမ်းယူကြ၏။ ဟင်းလင်းပြင်ဓါတ်အတွင်း၌ မရေမတွက်နိုင်လောက်အောင် များပြားသော နေရာတို့တွင် မရေမတွက်နိုင်လောက်အောင် များပြားသော သတ္တဝါတို့သည် အဆိုပါနည်းအတိုင်း ထပ်ဘလဲလဲ ပြုမူနေကြခြင်းကြောင့် ရုပ်ဓါတ်၌ စကြာဝဠာ၏ ညီမျှစွာရှိနေမှုသည် ပျက်စီးသွားရ၏။ ဤနည်းဖြင့် မိမိတို့၏ နာမ်ဓါတ်အင်အား အမျိုးမျိုးအလိုက် အမျိုးမျိုးသော သတ္တဝါတို့က မိမိတို့ ကိုယ်ခန္ဓာများအတွက် ရုပ်ဓါတ်များကို သိမ်းပိုက်စုပြုကြ၏။ ထို့နောက် အဆိုပါ ရုပ်ဓါတ်အထုအထည်တို့၏ ဘုန့်ပြန်မှုအင်အားကြောင့် သက်မဲ့ရုပ်ဝတ္ထုများ ဖြစ်ပေါ်လာကြ၏။ ထိုသက်မဲ့ ရုပ်ဝတ္ထုတို့သည် လျှောက်ပတ်စွာ အချိန်ကြာသောအခါ ဂြိုလ်များ၊ ကြယ်များ ဖြစ်လာကြ၏။

သတ္တဝါတို့သည် မိမိတို့ နာမ်ဓါတ်အတွင်း၌ အင်အားများလာသော အခါတွင် မဟာဘုတ်ဓါတ်များကို ပို၍သိမ်းယူကြ၏။ ထို့ပြင် မိမိတို့ သိမ်းယူထားသော မဟာဘုတ်ဓါတ်တို့ကို ပို၍ ကောင်းသောအရာများဖြစ်လာအောင် ပြုပြင်ကြ၏။ ပို၍ ကောင်းသော အရာဝတ္ထုများ ပြုလုပ်၍ မိမိတို့ ကိုယ်ခန္ဓာများကို တည်ဆောက်ကြသော သတ္တဝါများကြောင့် သူတို့ပတ်ဝန်းကျင်တွင် ပို၍ ကောင်းသော သက်ရှိ အရာဝတ္ထုများဖြစ်ပေါ်လာ၏။ သို့ရာတွင် ကျွန်ုပ်တို့သည် သတ္တဝါတဦးတည်းကို ခွဲခြား၍ ရုပ်ဓါတ်၌ စကြာဝဠာအတွင်း၌ ထိုသတ္တဝါကြောင့် ဖြစ်ပေါ်လာသော အကျိုးတရားများကို ခြေရာခံ၍ မကြည့်အပ်။ အဘယ့်ကြောင့်ဆိုသော် ထိုသတ္တဝါကြောင့် ဖြစ်ပေါ်လာသော အကျိုးတရားတို့မှာ အင်မတိအင်မတန် သေးငယ်လှသဖြင့် သိမြင်နိုင်မည်မဟုတ်သော ကြောင့် ဖြစ်၏။

## ပဋိသန္ဓေတည်ရန် နေရာအလုံအလောက်ရှိခြင်း

စကြာဝဠာတွင်း၌ရှိ သတ္တဝါတို့၏ နာမ်ဓါတ်အင်အားတို့မှာ အဆင့်အတန်း အမျိုးမျိုးဖြစ်၏။ ထိုသတ္တဝါတို့သည် မိမိတို့၏ ကိုယ်ခန္ဓာများအတွင်း၌ မိမိတို့ နာမ်ဓါတ်အင်အားအဆင့်အတန်းနှင့် ထိုက်တန်သော ရုပ်ဝတ္ထုများနှင့် အသက်ရှင်မှု အလျှင်များကို ဖြစ်ပေါ်စေကြ၏။ စကြာဝဠာအတွင်း၌ မရေမတွက်နိုင်လောက်အောင် များပြားသော နေရာများတွင် ဤကဲ့သို့ ဖြစ်ပေါ်စေလျက်ရှိ၏။ ထို့ကြောင့် ရုပ်ဓါတ်၌ စကြာဝဠာအတွင်း၌ အမျိုးမျိုးသော နေရာတို့တွင် အဆင့်အတန်းအမျိုးမျိုး ရှိသော သတ္တဝါများ ဆက်လက်ဖြစ်ပေါ်နေ၏။

လူသတ္တဝါနှင့် တိရစ္ဆာန်တို့ကဲ့သို့သော အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် ဇီဝဘဝ၌ ရုပ်ဓါတ်အခြေကို စွဲ၍ တည်ဆောက်ကြသောအခါတွင် မိမိတို့၏ ကိုယ်ခန္ဓာများနှင့် မိမိတို့၏ အသက်ရှင်မှုအလျှင်တို့ကို မဟာဘုတ်ဓါတ်များဖြင့် တိုက်ရိုက် မတည်ဆောက်ကြ။ အဆင့်အတန်းမြင့်သော သတ္တဝါတို့သည် အဆင့်အတန်းအနိမ့်ဆုံး သတ္တဝါများကဲ့သို့ပင် မိမိတို့ဘဝကို မီးဓါတ်ဖြင့် စကြ၏။ သို့ရာတွင် ထိုသို့ မိမိတို့ဘဝကို စကြသည်နှင့် တပြိုင်နက် ထိုသတ္တဝါတို့၏ နာမ်ဓါတ်တို့က မိမိတို့၏ အင်အားနှင့် ထိုက်တန်အောင် အဆင့်အတန်းမြင့်သော ရုပ်ဓါတ်များကို သိမ်းပိုက်ယူငင်ကြပြီးလျှင် ထိုအခြေအနေကစ၍ မိမိတို့၏ အလုပ်ကို စ၍လုပ်ကြ၏။ သေချိန်ကျ၍ သေခြင်းမြင်မှုသည် ထွက်သွားသောအခါတွင် အဆင့်အတန်းမြင့်သော ဘဝသို့ ရောက်နိုင်လောက်အောင် အဆင့်အတန်းမြင့်သော နာမ်ဓါတ်တွင်း၌ အသက်ရှင်မှုအလျှင် အထုအထည်ကြီးသော သတ္တဝါတို့သည် ရုပ်ဓါတ်၌ စကြာဝဠာအတွင်းတွင် မိမိတို့ဖြစ်ပေါ်နိုင်မှုနှင့် သင့်လျော်သော အခြေအနေရှိသော နေရာများသို့ သွားရောက်ကာ အခြေစိုက်ကြ၏။

နာမ်ဓါတ်အင်အား အဆင့်အတန်းအမျိုးမျိုးနှင့် သင့်လျော်သော အဆင့်အတန်းအမျိုးမျိုးရှိသော ရုပ်ဓါတ်အင်အား အခြေအနေတို့သည် အမြဲတန်းလိုလောက်စွာ ရှိကြ၏။ ပဋိသန္ဓေတည်ရန် သေခြင်းမြင်မှုဖြင့် လှမ်းကြည့်သော သတ္တဝါတို့သည် မိမိတို့နှင့် ထိုက်တန်သော နေရာကို အမြဲတန်းရနိုင်ကြ၏။ အင်အားအသေးဆုံး အခြေအနေတွင် ရှိကြသော နာမ်ဓါတ်တို့အား မီးဓါတ်က လိုသော နေရာကို ပေး၏။ အဆင့်အတန်းမြင့်သော သတ္တဝါတွင် အမြဲရှိနေသော ဆိင်ဓါတ်က ထိုသတ္တဝါတို့အား ပဋိသန္ဓေယူရန် နေရာများကို ရအောင်အမြဲရှာပေး၏။

## ဘဝ၏ ပထမ ရုပ်ကလာပ်တည်ဆောက်မှု

ပဋိသန္ဓေတည်မှုအစဉ်သည် အင်မတန် အင်မတန်လျင်မြန်သည့်အကြောင်းကို ဖော်ပြခဲ့ပြီ။ ပဋိသန္ဓေတည်မှုသည် နာမ်ဓါတ်တကြိမ်လှုပ်ရှားမှုတွင် ပါဝင်သော ပထမ လှိုင်းအတွင်း၌ ဖြစ်ပေါ်၏။ နာမ်ဓါတ်လှုပ်ရှားမှု၏ ပထမ လှိုင်းသည် လျှပ်တပျက်အချိန်ကို အပုံကုဋေ ၁၀ သိန်းပုံလျှင် တပုံကြာ၏။ ထိုတိုတောင်းသော အချိန်အတွင်း၌ ဘဝ၏ ပထမ ရုပ်ကလာပ်သည်လည်း ပြည့်စုံစွာ ဖြစ်ပေါ်လာ၏။ ပဋိသန္ဓေတည်မှုအတွက် ပထမ ရုပ်ကလာပ်ဖြစ်ပေါ်ရာတွင် ဘဝအတွက် လိုအပ်သော အရာအားလုံးလည်း ပါလာ၏။ သို့ရာတွင် ထိုအရာများအနက် အနည်းငယ်တို့သည်သာလျှင် ထကြွသော အင်အားရှိကြပြီးလျှင် ကျန်သော အရာအားလုံးတို့၏ အင်အားမှာ ငုတ်လျှိုး၍ နေကြ၏။ သို့ရာတွင် အချိန်အနည်းငယ်ကြာသောအခါ ထိုအရာတို့သည်လည်း ကြီးပွား၍လာကြ၏။

ဘဝ၏ ပထမ ရုပ်ကလာပ်တခုလုံးတွင် ပြန့်နှံ့၍ပါလာသော အရာတခုမှာ အခြားမဟုတ် နာမ်ဓါတ်ပင်ဖြစ်၏။ မြေဓါတ်၊ ရေဓါတ်၊ လေဓါတ်၊ မီးဓါတ်ဖြစ်သော မဟာဘူတ်ဓါတ်ကြီးလေးခုသည် အဆိုပါ ရုပ်ကလာပ်၏ အုတ်မြစ်ဖြစ်၏။ ထို့နောက်ကျန်သော သက်မဲ့ထပ်ပွားဓါတ်ကိုးခုသည် လျှင်မြန်စွာ အခြေစိုက်ကြ၏။ အဆင့်အတန်းမြင့်သော သတ္တဝါတို့အဖို့တွင် ရုပ်ကလာပ်သည် အဆိုပါ ရုပ်ဓါတ်ကိုးခုနှင့် ပြိုင်တူ သက်ရှိ စကြာဝဠာနှင့် သက်ဆိုင်သော ဓါတ်အမျိုးမျိုးကို ရ၏။ အကယ်၍ သတ္တဝါတို့သည် မိဘနှင့်ကင်းသော ဘဝတွင် ဖြစ်သည့်ဖြစ်မှုတို့ သတ္တဝါတို့သည် မိမိတို့ နာမ်ဓါတ်၏ အင်အားတခုတည်းဖြင့်သာ အသက်ရှင်မှုဓါတ်အမျိုးမျိုးကို ဖြစ်ပေါ်စေ၏။

လူသတ္တဝါများနှင့် အဆင့်အတန်းမြင့်သော တိရစ္ဆာန်တို့ကဲ့သို့သော သတ္တဝါများအဖို့တွင် ဘဝရုပ်ကလာပ်နှင့် တပြိုင်တည်း ပေါ်လာသော အသက်ရှင်မှုဓါတ်တို့မှာ (၁) အသက်ရှင်မှုဓါတ် (ဇီဝိတိန္ဒြိယ ရုပ) (၂) လိင်ဓါတ်နှစ်မျိုး (ဘာဝရုပ) (၃) နှလုံးအာရုံပြန်မှုဓါတ် (ဟဒယဝတ္ထုရုပ) (၄) အာဟာရဓါတ် (အာဟာရရုပ) တို့ဖြစ်၏။ သက်မဲ့ဓါတ်များအနက် မီးဓါတ် (တေဇောဓါတု) သည် ဘဝရုပ်ကလာပ်အတွင်းသို့ အခြားသော သက်မဲ့ ရုပ်ဓါတ်များမရောက်မီ ရောက်၏။

နာမ်ဓါတ်သည် ဘဝ၏ ပထမရုပ်ကလာပ်တွင် ပါဝင်သော အရာအားလုံးကို စုဆောင်း၍ပေး၏။ အဆိုပါ ဓါတ်တို့သည် တခုနှင့်တခု အပြန်အလှန် ကျေးဇူးပြုကြပြီးလျှင် နောက်ဆုံးတွင် တခုအတွင်းသို့ တခုဝင်၍ ရစ်ပတ်ကာ နေကြ၏။ ဤနည်းဖြင့် ရုပ်ကလာပ်သည် ဆောက်မှုသည့် ပြီးပြည့်စုံခြင်းသို့ ရောက်၏။ အဆိုပါ ရုပ်ကလာပ်သည် နာမ်ဓါတ်ကို ဘေးပတ်လည်မှ ဝိုင်းထားရင်းကြီးပွားလာ၏။ ထို့ကြောင့် နာမ်ဓါတ်သည် အစဉ်မပြတ် ရုပ်ကလာပ်အတွင်း၌ မိမိဟာ မိမိ လှုပ်ရှားမှုကို ပြုကာ နေ၏။

## ကိုယ်ခန္ဓာဖြစ်ပေါ်ပုံ

ပဋိသန္ဓေတည်ပြီးနောက်တွင် ဖြစ်ပေါ်သော နာမ်ဓါတ်ပထမ အကြိမ် လှုပ်ရှားမှုအတွင်း၌ ကိုယ်ခန္ဓာအဖို့ ပထမ ရုပ်ကလာပ် ဖွဲ့စည်းမှုသည် ပြီးပြည့်စုံ၍ ခိုင်မာခြင်းအဖြစ်သို့ ရောက်၏။ နာမ်ဓါတ်က နောက်ထပ်ဆက်၍ လှုပ်ရှားတိုင်း လှုပ်ရှားတိုင်း အဆိုပါ ရုပ်ကလာပ်အတွင်းသို့ နောက်ထပ်ဓါတ်

များ ရောက်၍ ရောက်၍ လာ၏။ ဤနည်းဖြင့် နာမ်ဓါတ်တို့သည် မိမိတို့၏ ကိုယ်ခန္ဓာကို ကြီး၍ကြီး၍ လာစေ၏။ ထိုကဲ့သို့ ကြီး၍လာသောအခါတွင် ပဋိသန္ဓေတည်မှု ရုပ်ကလာပ်အတွင်း၌ အသက်ရှင်မှုဓါတ်တို့၏ အင်အားများထွက် ပေါ်လာကြပြီးလျှင် ထိုအင်အားတို့က ကိုယ်ခန္ဓာတည် ဆောက်မှုကို စောင့်ထိန်း ပေးကြ၏။

ပဋိသန္ဓေတည်မှု ရုပ်ကလာပ်တွင် ထင်ရှားသော အင်အားနှင့် အခြေ ခိုင်ကြသော အသက်ရှင်မှုဓါတ်တို့သည် မိမိတို့သက်ဆိုင်ရာ အလုပ်များကိုစ၍လုပ်ကြ၏။ အထူးသဖြင့် မီးဓါတ်နှင့် အာဟာရဓါတ်တို့သည် အလွန်ထင်ရှားမှုရှိကြ၏။အာဟာရဓါတ်က အစာကို နှုတ်ယူပြီးလျှင် ပတ်ဝန်းကျင်၌ လောင်စာနှင့် မီးဓါတ်တို့က အစာ ဖြန့်မှုနှင့် ကြီးပွားမှုကို စောင့်ထိန်း ပေးကြ၏။ အခြားထင်ရှားမှုရှိသော ဓါတ်တို့ ကလည်း အဆိုပါအင်အားများကို ဝိုင်း၍ကူညီကြ၏။ ထို့ပြင် လိင်ဓါတ်နှစ်ခုနှင့် အသက်ရှင်မှုဓါတ်က ကိုယ်ခန္ဓာအတွက် ပုံစံနှင့် အသွင်ကို ပေး၏။ ထို့နောက် ပထမ ဆုံး အင်္ဂါဖြစ်သော နှလုံးသည် ဖြစ်ပေါ်လာ၏။ နှလုံးက ကိုယ်ခန္ဓာတခုလုံးကို ဆက်သွယ်ထိန်းသိမ်း၍ ပေး၏။

အဝိက လုပ်ငန်းပြီး၍ ကိုယ်ခန္ဓာ၏ အခြေကို ခိုင်မာစွာ တည်ဆောက် ပြီးနောက် အတွင်းအင်္ဂါများ၏ ပုံသဏ္ဌာန်ကို သတ်မှတ်၍ပြီးသောအခါတွင် ကျန်သော ဓါတ်တို့သည် ရင့်မာလာကြ၏။ ပဋိသန္ဓေတည်မှု ရုပ်ကလာပ်ဖြစ်ပေါ်လာပြီးနောက် လူသတ္တဝါတို့အဖို့တွင် ရက် ၇၀ ခန့်ကြာသောအခါ၌ ပတ်ဝန်းကျင်အာရုံဖြန့်မှုဓါတ် များဖြစ်ကြသော မျက်စေ့၊ နား၊ လျှာနှင့် အထိအတွေ့တို့ စ၍ဖြစ်ပေါ်လာသည်ဟု ဆို၏။ ဤကဲ့သို့ ဖြစ်ပေါ်လာသော သတ္တဝါသည် နောက်ထပ် ရင့်မာလာသောအခါ တွင် မိမိ၏ ဘဝအတွက် မိခင်အပေါ်၌ မှီခိုနေရခြင်းကိုပင် မွန့်သွတ်ပြီးလျှင် နောက်ဆုံး၌ မိမိပဋိသန္ဓေတည်ရာ ကိုယ်ခန္ဓာနှင့် တူလည်းတူ၍ ခြားနားခြင်း လည်း အနည်းငယ်ရှိသော ကိုယ်ခန္ဓာအဖြစ်သို့ ရောက်လာ၏။

## မိခင်က သားသမီးကို စောင့်ရှောက်ခြင်း

အကယ်၍ တိကျစွာ ပြောရမည်ဆိုလျှင် ကျွန်ုပ်တို့သည် သစ်ပင်ကို စိုက် သည်ဟု မပြောနိုင်။ သစ်ပင်ပေါက်ရန်လိုသော အခြေအနေများကို ပေးခြင်း ဖြင့်သာ သစ်ပင်ပေါက်ရန်အတွက် ကျွန်ုပ်တို့က အကူအညီ ပေးနိုင်၏။ ထိုနည်းတူ

ဖွားပြီးပင် မိခင်က ကလေးကိုကြီးပွားအောင် မလုပ်နိုင်။ ကြီးပွားအောင်သာ ကူညီ၍ ပေးနိုင်၏။ ပဋိသန္ဓေတည်ချိန်၌ပင် မိခင်၏ ဘာဝနာမှာ ကလေးအား ကြီးပွားလာအောင် ကူညီပေးရုံသာတတ်နိုင်၏။ သတ္တဝါအသစ်တခု၏ ကိုယ်ခန္ဓာ ကြီးပွားမှုနှင့် ပတ်သက်၍ မိခင်သည် ဘာမျှပါဝင် ဆောင်ရွက်ခြင်း၊ ပါဝင် ဆောင်ရွက်နိုင်ခြင်း မရှိ။

ပဋိသန္ဓေတည်ချိန်တွင် သတ္တဝါအသစ်တို့အား မိခင်တို့က (၁) အသက်ရှင်မှုဓာတ်များ (၂) အစာနှင့် (၃) ကောင်းရာနေရာကို ပေး၏။ မိခင်က သော်၎င်း၊ ဖခင်က သော်၎င်း၊ မိခင်ဖခင်နှစ်ဦးလုံးက သော်၎င်း၊ သတ္တဝါ အသစ်တခု ဖြစ်ပေါ်လာရန်အတွက် လိုအပ်သော နာမ်ဓာတ်ကို မပေးနိုင်။ ပဋိသန္ဓေတည်ရာ နေရာသို့ လာ၍ အခြေစိုက်လာသော နာမ်ဓာတ်သည် ယခင်က ဘဝဟောင်းကို စွန့်ခွာပြောင်းရွှေ့လိုသော ပြင်ပမှ လာသော နာမ်ဓာတ်သာ ဖြစ်၏။

၎င်းသို့ အခြေစိုက်လာသော နာမ်ဓာတ်သည် မိဘတို့ထံမှ ရရှိသော အကူအညီကို ခံယူ၍ မိမိ၏ ကိုယ်ခန္ဓာကို တည်ဆောက်၏။ နာမ်ဓာတ်တို့အဖို့ ကိုယ်ခန္ဓာကို ပြင်ပမှ မည်သူကမျှ တည်ဆောက်၍ မပေးနိုင်။ ပြင်ပနာမ်ဓာတ်တို့သည် နီးရာမှလည်း လာချင်လာမည်၊ ဝေးရာမှလည်း လာချင်လာမည်။ ဗုဒ္ဓနှင့် ရဟန္တာတို့ကဲ့သို့သော မြင်မှုအားကြီးသော ပုဂ္ဂိုလ်များသည်သာ နာမ်ဓာတ်တို့သည် မည်သည့်နေရာက ရောက်လာကြသည်ဟု သေချာစွာ ပြောနိုင်ကြ၏။

<u>မဟာဘုတ်ဓာတ်တို့၏ ဘာဝနာနှစ်ခု</u>

ရုပ်ဝတ်တို့၏ ကိုယ်ခန္ဓာများ ဖြစ်ပေါ်စေမှုနှင့် ပတ်သက်၍ မီးဓာတ်တွင် ဘာဝနာနှစ်ခု ရှိကြောင်းကို ဖော်ပြအံ့။ စကြဝဠာအတွင်း၌ ဖြစ်ပေါ်သော ရုပ်ဓာတ်နှင့်သက်ဆိုင်သည့် အခြင်းအရာများတွင် မဟာဘုတ်ဓာတ်တို့၌ ဘာဝနာနှစ်ခု ရှိသည့်နည်းတူ ရုပ်ဓာတ်၌ သတ္တဝါတို့၏ ကိုယ်ခန္ဓာများကို ဖြစ်ပေါ်စေမှုနှင့်ပတ်သက်၍လည်း မီးဓာတ်တွင် ဘာဝနာနှစ်ခု ရှိ၏။ ပဋိသန္ဓေ ရုပ်ကလာပ်ဖြစ်ပေါ်ချိန်မှ လူဖြစ်ပေါက်အရွယ်အချိန်အထိဟု ဆိုအပ်သော ပထမ အရွယ်တွင် မီးဓာတ်သည် ကိုယ်ခန္ဓာ ကြီးပွားမှုကို အကူအညီ ပေး၏။ သို့ရာတွင် ထိုနောက်တွင်မူ ၎င်းမီးဓာတ်သည်ပင်လျှင်

အရွယ်အိုခြင်းနှင့် အိုမင်းရင့်ရော်ခြင်းတို့ကို ဖြစ်စေ၏။ မိုးခါးကြောင့် ပေါင်မုန့်ဖိုထဲ၌ နယ်၍ထားသော မုန့်မှုန့်တွင်ဖြစ်ပေါ်သော အကျိုးနှင့် မိုးခါးကြောင့် ကိုယ်ခန္ဓာတို့အပေါ်တွင် ဖြစ်ပေါ်သော အကျိုးတို့မှာ တူ၏။ မုန့်ဖိုတွင်း၌ မိုးခါး၏ အကျိုးကြောင့် ပေါင်မုန့်သည် ကျက်၍လာ၏။ သို့ရာတွင် ထိုမိုးခါးကို ဖယ်ရှားချိန်တွင် ဖယ်ရှား၍မပစ်မူ အဆိပ်ပါ မိုးခါးကပင် ထိုပေါင်မုန့်ကို ကျွမ်းသွားစေလိမ့်မည်ဖြစ်၏။ ထိုနည်းတူစွာပင် မိုးခါးက ကျွန်ုပ်တို့အား လူပျိုပေါက်အရွယ်နှင့် လူကြီးအရွယ်သို့ ရောက်စေပြီးလျှင် ဤမိုးခါးကပင် ကျွန်ုပ်တို့အား အိုမင်း၍ သေခြင်းကိုဖြစ်စေ၏။

မိုးခါးနှင့်ကင်း၍ မည်သည့်အရာဝတ္ထုသည်မျှ မကြီးပွားနိုင်။ ကို့ဖြင့် မိုးခါးနှင့်ကင်း၍ မည်သည့်သတ္တဝါသည်မျှ မိမိတို့၏ ကိုယ်ခန္ဓာကို မဖြစ်ပေါ်စေနိုင်။ အရာဝတ္ထုတိုင်းနှင့် သတ္တဝါတိုင်းတို့သည် မိုးခါးကို အသုံးပြုကြ၏။ မိုးခါးကို အသုံးပြုလိုက်သည်နှင့် တပြိုင်နက် ကိုယ်ခန္ဓာ၌ ကျရောက်သော ထိုမိုးခါး၏ အရှိန်ကို တားဆီး၍ မရတော့။ ခပ်သိမ်းသော ရုပ်ဝတ္ထုတို့သည် မိုးခါးလွန်ကဲလျှင်လည်း ပျက်စီးကြ၍ မိုးခါးယုတ်လျော့လျှင်လည်း ပျက်စီးကြ၏။ အရာဝတ္ထုများအတွင်း၌ မိုးခါး အချိုးအစား ညီမျှ၍ နေအောင် မည်သည့်နည်းနှင့်မျှ လုပ်၍မရ။ ထို့နောက်စကြာဝဠာတွင်း၌ အရာဝတ္ထုမှန်သမျှသည် အမြဲတန်းတည်နေသည်ဟု မရှိ။ မိုးခါးသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာကို ဖြစ်ပေါ်စေ၏။ ထို့ကြောင့် မိုးခါးသည် ကျွန်ုပ်တို့၏ အပည့် လိမ္မာဖြစ်၏။ သို့ရာတွင် မိုးခါးသည် ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာများကိုလည်း ပျက်စီးစေသေး၏။ ထို့ကြောင့် မိုးခါးသည် ကျွန်ုပ်တို့၏ ဆရာဆိုးလည်းဖြစ်၏။

ရုပ်ပါတ်၌ သတ္တဝါတို့ဖြစ်ပေါ်လာစအချိန်တွင် မိုးခါးအပါအဝင် ဖြစ်သော အားလုံးသော မဟာဘုတ်ပါတ်တို့သည် ကျွန်ုပ်တို့၏ နာမ်ပါတ်ကို နိုင်စေရာကို လုပ်ကြ၏။ သို့ရာတွင် နောက်ပိုင်းအချိန်သို့ ရောက်သောအခါတွင် ခပ်သိမ်းသော မဟာဘုတ်ပါတ်များအနက် အထူးသဖြင့် မိုးခါးသည် နာမ်ပါတ်ကို ပုန်ကန်ပြီးလျှင် နောက်ဆုံးတွင် နာမ်ပါတ်ကို ကိုယ်ခန္ဓာမှ နှင်ထုတ်၏။ ဤဘေးအန္တရာယ်သည် ရုပ်ပါတ်တို့နှင့် ပေါင်းဖော်မှုအားလုံးတို့နှင့် ဒွန်တွဲလျက်ရှိ၏။ ရုပ်ပါတ်တို့နှင့် ပေါင်းဖော်သူမှန်သမျှသည် ဤဘေးအန္တရာယ်ကို မလွန်ဆန်နိုင်ကြ။

## မိုးခေါ်သည် မည်သည့်နေရာတွင်မျှ ရပ်နားနေခြင်းမရှိ

ရုပ်ခေါ်၌ သဗ္ဗဝါတို့၏ အကြောင်းကို ဤမျှဖော်ပြလျှင် တော်လောက်ပြီ။ သက်မဲ့ အရာဝတ္ထုတို့၏အကြောင်းကို အနည်းငယ် ဖော်ပြပြီးလျှင် ဤအခန်းကို အဆုံး သတ်တော့အံ့။ အကယ်၍ ကျွန်ုပ်တို့သည် ရုပ်ခေါ်၌ သဗ္ဗဝါတို့ ဖြစ်ပုံကို နားလည်ကြ သည်ဖြစ်မူ သက်မဲ့ အရာဝတ္ထုတို့ ဖြစ်ပုံကို နားလည်ဘို့ ခက်မည်မဟုတ်။ သက်မဲ့အရာ ဝတ္ထုတို့ အပွင်း၌လည်း မိုးခေါ်သည် မည်သည့်အခါတွင်မျှ ရပ်နားနေခြင်းမရှိ။ အရာဝတ္ထုအမျိုးမျိုးအပွင်းသို့ မိုးခေါ်သည် မည်ကဲ့သို့ ရောက်လာကြောင်းနှင့် ထိုအရာ ဝတ္ထုများထဲမှ မိုးခေါ်သည် မည်ကဲ့သို့ လွတ်ထွက်သွားသည့်အကြောင်းများကို အထက်ပါ အခန်းများတွင် ဖော်ပြခဲ့ပြီ။ ထို့ပြင် သက်မဲ့ မဟာဘုတ်ခေါ်အားလုံးအနက် မိုး ခေါ်သည် နာမ်ခေါ်၏ စိမ်ရာကို ရွေးချယ်ခွင့်ရသော မဟာဘုတ်ခေါ် ဖြစ်ကြောင်း ကိုလည်း ဖော်ပြခဲ့ပြီ။ ဉာဏ်အဆင့်အတန်းအနိမ့်ဆုံး သော သဗ္ဗဝါတို့သည် မိမိတို့ နေထိုင် ရန် နေရာကို တည်ဆောက်ရန် အလို့ငှါ မိုးခေါ်တခုတည်းကိုသာ ယူငင်ကြသော် လည်း အဆင့်အတန်း မြင့်သော သဗ္ဗဝါတို့သည် မိုးခေါ်အပြောက်အများကို စုပေါင်း ယူငင်ကြ၏။

စကြဝဠာတွင်း၌ မဟာဘုတ်ခေါ်တို့သည် မိမိတို့ဟန်ပူဘသည်း ညီမျှစွာ ပြန့်နှံ့နေနိုင်ရန် အမြဲတမ်းအားထုတ်နေကြသည့် အကြောင်းကို ယခုအခါတွင် ပြန် ၍သတိရကြလိုပါ။ အကယ်၍ စကြဝဠာအတွင်း၌ ရုပ်ခေါ်အင်အားတို့၏ အလိုဆန္ဒ သည်သာ အင်ကပြမ်မူ အမျိုးမျိုး သော အရာဝတ္ထု အတုအထည်တို့သည် ပျောက်ကွယ် သွားသည့် အခြေအနေသို့ ရောက်အောင် ပြန့်ကျယ်သွားကြမည် ဖြစ်၏။ ထိုအခါတွင် မဟာ ဘုတ်ခေါ်အားလုံးသည် တကွဲတပြားစီဖြစ်၍ သွားပြီးလျှင် အနှောင်အဖွဲ့ကင်း သော အင်အားများအဖြစ်နှင့်သာ တည်နေကြလိမ့်မည်။ အထင်း၊ သဏ္ဍာန်၊ အသံ၊ အနံ့၊ အရသာနှင့် အထိအတွေ့ဟူ၍လည်း ရှိတော့မည်မဟုတ်။ ထို့ကြောင့် စကြဝဠာတခုလုံးသည် မမြင်ကောင်းသော ဟင်းလင်းပြင် အချပ်ကြီးဖြစ်၍ သွားလိမ့် မည်။ သို့ရာတွင် ထိုကဲ့သို့ ဟင်းလင်းပြင် အချပ်ကြီးဖြစ်၍ မသွားနိုင်ရန် နာမ်ခေါ်တို့က တားဆီး၍ထား၏။ ဤနည်းဖြင့် အမျိုးမျိုးသော ရုပ်ခေါ်အခြင်း အရာတို့သည် ဖြစ်ပေါ်လာကြ၏။

## စကြာဝဠာကို နာမ်ဓါတ်က ဘင့်ဆောင်၍ ထိန်းသိမ်း ထားခြင်း

နာမ်ဓါတ်အသီးသီးတို့သည် မိမိတို့၏ ကိုယ်ခန္ဓာကို ဘင့်ဆောင်ကြရာတွင် အချို့မဟာဘုတ်ဓါတ်တို့ကို ပိုမို၍ အသုံးပြုကြပြီးလျှင် အချို့မဟာဘုတ်ဓါတ်တို့ကို လျော့နည်းစွာ အသုံးပြုကြ၏။ ဤနည်းဖြင့် အချို့သော နေရာများတွင် မဟာဘုတ်ဓါတ်များ စုပုံ၍ နေပြီးလျှင် အချို့သော နေရာများတွင် ဟင်းလင်းဖြစ်၍ နေ၏။ ဟင်းလင်းမှုများ ဖြစ်ပေါ်လာသောအခါတွင် အနီးအနားရှိ မဟာဘုတ်ဓါတ်တို့က မိမိတို့ အမျိုးအနွယ် သို့မျှစွာဖြန့်၍ နေနိုင်အောင် ဝင်၍လာကြပြီးလျှင် အခြေစိုက်၍ နေကြသော မဟာဘုတ်ဓါတ်တို့က မဟာဘုတ်ဓါတ်များ၏ ပုံမှုကို ပြုပ်ပေးရန်အတွက် ဖယ်ရှားပေးကြ၏။ အဝိုင်းအခြားမရှိသော စကြာဝဠာအတွင်းရှိ နေရာတိုင်း၌ အကြိမ်ပေါင်း မရေမတွက်နိုင်လောက်အောင် ထပ်တလဲလဲ ဤကဲ့သို့ ဖြစ်ပေါ်နေ၏။ ဤနည်းဖြင့် အဝိုင်းအခြားမရှိသော စကြာဝဠာအတွင်းရှိ နေရာတိုင်းသည် လှုပ်ရှားလျက်ရှိ၏။ အချို့နေရာများတွင် အရာဝတ္ထုများကို ဖြစ်ပေါ်စေလျက် အချို့နေရာများတွင် အရာဝတ္ထုများကို ကွဲပျက်စေလျက်၊ အချို့နေရာများတွင် ကြယ်များကို ဖြစ်ပေါ်စေလျက် အချို့နေရာများတွင် ကြယ်များကို ကွဲပျက်စေလျက် ရှိ၏။ နာမ်ဓါတ်သည် စကြာဝဠာအတွင်း၌ လှည့်လည်နေခြင်းကြောင့် မဟာဘုတ်ဓါတ်အသီးသီးတို့သည်လည်း လှည့်လည်နေကြ၏။ အထူးသဖြင့် မီးဓါတ်သည် အင်မတန်လျှင်မြန်စွာ လှုပ်ရှားနေ၏။ မဟာဘုတ်ဓါတ်တို့က စကြာဝဠာအတွင်း၌ လှည့်လည်နေကြသောအခါတွင် ဂြိုဟ်အမျိုးမျိုးနှင့် ကြယ်အမျိုးမျိုးတို့သည်လည်း လှည့်လည်နေကြ၏။

အသီးသီးသော နာမ်ဓါတ်တို့သည် မိမိတို့အသက်ရှင်မှု အလျှင်အတွင်း၌ ရှိသော အင်အားများအလိုက် မိမိတို့လိုသော မဟာဘုတ်ဓါတ်များကို စုပုံ၍ ယူငင်ထားနိုင်လောက်အောင် ကြီးမားသော ဆွဲငင်မှုအင်အားကို ဖြစ်ပေါ်စေကြ၏။ အဆင့်အတန်း အမျိုးမျိုးဖြစ်သော သတ္တဝါများသည် [illegible] နိမ့်ကျသော သတ္တဝါတိုင်း သတ္တဝါတိုင်းက ဤစကြာဝဠာအား မိမိတို့၏ ဝေပုံကျ ဆွဲငင်မှုအင်အားကို ပို့၍ ပေးကြ၏။ လူသတ္တဝါတို့နှင့် တိရစ္ဆာန်တို့ကဲ့သို့သော [illegible]နိမ့်ကျသော သတ္တဝါတို့က ကြီးမားသော ဆွဲငင်မှုအင်အားကို ပေး၍ အဆင့်အတန်းနိမ့်သော သတ္တဝါတို့က သေးငယ်သော ဆွဲငင်မှုအင်အားကို ပေးကြ၏။ ဤကမ္ဘာမြေကြီးပေါ်တွင် နေကြသော သတ္တဝါအားလုံးက ဤကမ္ဘာမြေကြီး၏ ဆွဲငင်မှုအင်အားကို ဝေပုံကျ ထောက်ပံ့ကြ၏။ အကယ်၍ ဤကမ္ဘာမြေကြီးပေါ်တွင် ရှိနေကြသော သတ္တဝါတို့ ပျောက်ကွယ်

သွားခဲ့မူ ဤကမ္ဘာမြေကြီးတွင် ဆွဲငင်မှုအင်အား ရှိတော့မည်မဟုတ်။ ဆွဲငင်မှု အင်အား မရှိခဲ့လျှင် ဤကမ္ဘာမြေကြီးသည် တည်နေနိုင်လိမ့်မည်မဟုတ်။ ရေသည် အငွေ့ဖြစ်၍ ပျောက်သွားပြီး နောက် မိုးရေအဖြစ်နှင့် ပြန်၍ ကျလာလိမ့်မည်မ ဟုတ်။ ထိုအခါတွင် မီးဓါတ်များ စုပုံလာပြီးလျှင် နောက်ဆုံးတွင် ကမ္ဘာမြေကြီး သည် ပေါက်ကွဲကာ ဟင်းလင်းပြင် ဓါတ်ငွေ့တွင်း၌ ကြေပျက်သွားလိမ့်မည်။

## ဤ စကြာဝဠာ ပျက်သုန်

ရုပ်ဓါတ် စကြာဝဠာသည် နာမ်ဓါတ်များကို အမှီပြု၍ ဖြစ်ပေါ်နေရ ကြောင်းမှာ ဤစကြာဝဠာ ပျက်ခါနီးတွင် မည်ကဲ့သို့ ဖြစ်လိမ့်မည်အကြောင်းနှင့် ပတ်သက်၍ ဗုဒ္ဓ ဟောခဲ့သည့် တရားများအရ အလွန်ထင်ရှားပေ၏။ နောင်နှစ် ပေါင်းများစွာ ကြာသောအခါတွင် ရုပ်ဓါတ်ရှိ သတ္တဝါအားလုံး၏ နာမ်ဓါတ်များ၏ စုစုပေါင်းအင်အားသည် ဂြိုလ်များနှင့် ကြယ်များကို သူ့နေရာ၌ သူရှိအောင် ထိန်းသိမ်း ပေးနိုင်လောက်အောင် မကြီး တော့သဖြင့် စကြာဝဠာအတွင်း၌ သတ္တ ဝါတို့သည် နေနိုင်ရန် အလွန်ခဲယဉ်း၍ လာလိမ့်မည်။

ထိုအခါတွင် မိမိတို့အား ကျရောက်ခံ့သဲသဲဖြစ်သော ဘေးအန္တရာယ်တို့ ကို သိမြင်ကြသော သတ္တဝါတို့သည် မိမိတို့၏ အသက်ရှင်မှုအလျင်၏အင်အား တိုးတက်လာ စေရန် အလျှင်သာ စေဘော အားထုတ်ကြလိမ့်မည်။ ဤနည်းဖြင့် ထိုသတ္တဝါတို့သည် ဤစကြာ ဝဠာမှ လွတ်မြောက်၍ နာမ်ဓါတ်ရှိ သတ္တဝါတို့၏ ဘုံသို့ ရောက်သွားကြလိမ့်မည်။ သို့ ရာတွင် များစွာကုန်သော သတ္တဝါတို့မှာ အသက်ရှင်မှုအလျင်၏ အင်အား ဆုတ်ယုတ် သည်ထက် ဆုတ်ယုတ်သွားကြပြီးလျှင် နောက်ဆုံးတွင် အဆင့်အတန်း အနိမ့်ဆုံးဘဝသို့ ရောက်သွားကြလိမ့်မည်။

## ဆွဲငင်မှုအင်အား ဆုတ်ယုတ်၍ အခြေအနေဆိုးလာခြင်း

နာမ်ဓါတ်တို့၏ အသက်ရှင်မှုအလျင် ပုံ့ပေါင်းအင်အား ဆုတ်ယုတ်လာ သောအခါတွင် ထိုနာမ်ဓါတ်တို့က ထိန်းသိမ်းထားနိုင်သော မဟာဘုတ်ဓါတ် စုစု ပေါင်းသည်လည်း ဆုတ်ယုတ်၍ သွားလိမ့်မည်။ ဘနည်းဆိုသော် နာမ်ဓါတ်တို့တွင် မဟာဘုတ်ဓါတ် သုံ့လောက်စွာ ထိန်းသိမ်းထားနိုင်သော ဆွဲငင်မှုအင်အား ဆုတ် ယုတ်၍ သွားကြလိမ့်မည်။ ဤသို့ ဆုတ်ယုတ်သွားခြင်းကြောင့် ဂြိုလ်များနှင့် ကြယ်များ တွင်လည်း မိမိတို့တွင်ရှိကြသည့် အရာဝတ္ထုအမျိုးမျိုးကို ထိန်းသိမ်းထားနိုင်သော အင်အားဆုတ်ယုတ်သွားကြလိမ့်မည်။ ဂြိုလ်များနှင့် ကြယ်များတွင်ရှိကြသော အရာ ဝတ္ထုတို့သည် အိုး၍ ဟင်းလင်းပြင်တွင်းသို့ ပြန့်လွင့်ပျောက်ကွယ်သွားကြလိမ့်မည်။ ထို့ ပြင် ဂြိုလ်များနှင့် ကြယ်များ အခြေအနေမှာ ပို၍ ဆိုးရွားလာလိမ့်မည်။

ထို့နောက် ရာသီဥတု ဆိုးရွားလာပြီးလျှင် အဝာရှားပါးလာသဖြင့် ဖကြာဝဠာအတွင်း၌ သတ္တဝါတို့သည် ပို၍ ရက်စက်ကြမ်းကြုတ်လာကြလိမ့်မည်။ ထိုသို့ စကြာဝဠာအတွင်း၌ သတ္တဝါတို့ ပို၍ ရက်စက်ကြမ်းကြုတ်လာခြင်းကြောင့် ထိုသတ္တဝါတို့ နာမ်ပါတ်၏ အသက်ရှင်မှုအလျှင်သည် ပို၍ ဆုတ်ယုတ်လာလိမ့်မည်။ အသက်ရှင်မှုအလျှင်တို့ အင်အားဆုတ်ယုတ်လာခြင်းကြောင့် ဂြိုလ်များနှင့်ကြယ်များ၏ အခြေအနေ ဆုတ်ယုတ်လာသောအခါတွင် သတ္တဝါတို့သည်လည်း ဆုတ်ယုတ်လာလိမ့်မည်။ သတ္တဝါတို့ ဆုတ်ယုတ်လာသောအခါတွင် ဂြိုလ်များကြယ်များတို့ ဆုတ်ယုတ်လာလိမ့်မည်။ ဤသို့ အဆက်မပြတ် ဆုတ်ယုတ်လာသောအခါတွင် စကြာဝဠာသည် အင်အားမျှတမှု ဆုံးရှုံး၍ အလိုအလျောက်အဝိတ်ဝိတ် အပြာပြာကွဲ၍ ပျက်စီးသွားလိမ့်မည်။

## ကမ္ဘာပျက်ခါနီး ရှုကွင်းများ

ကမ္ဘာပျက်ခါနီးအချိန်တွင် ဤကမ္ဘာမြေကြီး ပေါ်တွင်ရှိကြမည့် သတ္တဝါတို့ တွေ့မြင်ကြရမည့် ရှုကွင်းများကို ဗုဒ္ဓက ဖော်ပြထားခဲ့သည်မှာ အလွန်အလွန် ဝိတ်ဝင်စားဖွယ်ကောင်းလှတ်၏။ ထိုအခါတွင် ကမ္ဘာမြေကြီး၏ ရာသီဥတုသည် ဆိုးဝါးလာပြီးလျှင် သတ္တဝါတို့တွင် သေးငယ်သောကိုယ်ခန္ဓာများနှင့် ယုတ်ညံ့သော အကျင့်များ ရှိလာကြလိမ့်မည်။ ရာသီဥတု၏ အခြေသည့်ငင်း၊ သတ္တဝါတို့ ကိုယ်ခန္ဓာများ၏ အခြေသည့်ငင်း၊ အကျင့်တရားသည့်ငင်း၊ တဆင့်ထက်တဆင့် နိမ့်ကျ၍လာပြီးလျှင် များစွာသော သတ္တဝါတို့သည် သေ၍ ပျောက်ကွယ်သွားကြလိမ့်မည်။ ထို့ပြင် ဤကမ္ဘာမြေကြီး ပေါ်သို့ နောက်ထပ်ရောက်လာကြသော သတ္တဝါတို့၏ အရေအတွက်သည်လည်း ဆက်လက်၍ နည်းပါးလာပြီးလျှင် ပို၍ဆိုးရွားသော အခြေအနေများ ဖြစ်ပေါ်လာလိမ့်မည်။ ထို့နောက် အချိန်ကာလထပ်၍ ကြာပြန်သော် ဤကမ္ဘာပေါ်၌ သတ္တဝါတို့၏ အရေအတွက်သည် အလွန်နည်းပါး၍လာပြီးလျှင် အချိန်ရှည်လျားစွာ ရေပြတ်၍ ပူလောင်ခြင်းသည် ဖြစ်ပေါ်လာလိမ့်မည်။ ထိုသို့ ရေပြတ်မှုကြောင့် မြစ်များခမ်းခြောက်၍ ကောက်ပင်များပျက်စီးလိမ့်မည်။ ဤနည်းဖြင့် ကျန်သော သတ္တဝါအကုန်နီးနီး လောက် သေ၍ ပျောက်ကွယ်သွားလိမ့်မည်။

ထို့နောက် ကြယ်တို့စပ်ကြား၌ မိုးတိမ်တိုက်တို့ ပေါ်လာပြီးလျှင် မိုးသီးထန်စွာ ရွာပြလိမ့်မည်။ ထိုမိုးသည် ခုနှပ်ရက်တာရွာ၍ ပထမတွင် တဖွဲဖွဲ ရွာနေရာမှ နောက်ဆုံးတွင် ပေပေါင်းများစွာရှည်သော မိုးပေါက်ကြီးများကို ရွာချလိမ့်မည်။ ထိုမိုးကြီးရွာသောအခါတွင် တောင်ထိပ်အနည်းငယ်မှတပါး ကျန်သော မြေပြင်အလုံးကို ရေလွှမ်းမိုး၍ သွားလိမ့်မည်။ ထိုသို့ ရေလွှမ်းမိုးခြင်းကြောင့် ဤကမ္ဘာမြေကြီး ပေါ်တွင် ကျန်နေသော သတ္တဝါများ နောက်ထပ် သေကြလိမ့်မည်။

ထို့နောက် ဒုတိယအကြိမ် ရေပြတ်ပြန်ပြီးလျှင် ရက်သတ္တပါတ် အနည်းငယ်အတွင်း၌ မိုးရေများခမ်းခြောက်၍ မကြာမြင့်မီတွင် သမုဒ္ဒရာများပါ ခမ်းခြောက်သွားလိမ့်မည်။ ထိုအနိုင်သို့ရောက်သောအခါတွင် စကြဝဠာတခုလုံး ဖြောင်းဆန်၍ နေပြီးလျှင် ကြယ်တို့လည်း ကွဲပျက်၍ ဂြိုဟ်တို့၏ နေနှင့်တကွ ကမ္ဘာမြေကြီးအပါအဝင် ကြယ်ရံ ကိုးလုံးသည် ပြင်းထန်သော အရှိန်နှင့် ပြိုကွဲသွားလိမ့်မည်။ ထို့နောက် ဂြိုဟ်တို့ နေနှင့် ဂြိုလ်ရံတို့သည် အခြားနေနှင့် ဂြိုလ်ရံများနှင့် တွေ့ပြီးလျှင် ကမ္ဘာမြေကြီးသည် နေခုနှစ်စင်း၏ ဆွဲငင်မှုနယ်အတွင်းသို့ ရောက်၍ သွားလိမ့်မည်။

## စကြဝဠာကို လောင်သည့်မီး

ထိုအချိန်အခါတွင် ကမ္ဘာမြေကြီးပေါ်၌ ရေတပေါက်မှ မရှိတော့ဘဲ ကမ္ဘာမြေကြီးကို ဝန်းရံနေသော လေထုသည်လည်း အစိတ်စိတ်အမြွှာမြွှာ ဖြစ်၍ နေလိမ့်မည်။ ကမ္ဘာမြေကြီးတခုလုံးကို အပူဓါတ်က ဖုံးအုပ်၍ နေပြီးလျှင် ကမ္ဘာမြေကြီး၏ မျက်နှာပြင်ပေါ်၌ အနှံ့အပြား မီးလောင်လျှက် နေလိမ့်မည်။ နောက်ဆုံးတွင် နေခုနှစ်စင်းထွက်ပေါ်လာ၍ အပူအားကြီးလှသဖြင့် ကမ္ဘာမြေကြီးတခုလုံးသည် မီးဟုန်းဟုန်း တောက်ပြီး နောက် ခဏကြာသောအခါ ကမ္ဘာမြေကြီးသည်ပေါက်ကွဲ၍ ပျောက်ကွယ်သွားလိမ့်မည်။

ထိုအတိုက်တွင် စကြဝဠာတွင်း၌ရှိ ကျန်သော ဂြိုလ်အားလုံးနှင့် ကြယ်အားလုံးသည် အချို့က ကမ္ဘာမြေကြီး ပေါက်ကွဲ ပျောက်ကွယ်ပုံမျိုးနှင့် ပျောက်ကွယ်သွားကြပြီးလျှင် အချို့က အခြားနည်းတို့ဖြင့် ပျောက်ကွယ်သွားကြလိမ့်မည်။ နောက်ဆုံးတွင် ဟင်းလင်းပြင် စကြဝဠာကြီးတခုလုံးမှ ဂြိုလ်များနှင့် ကြယ်များ ပျောက်ကွယ်သွားကြလိမ့်မည်။ စကြဝဠာသည် အချိန်ကာလ အတော်ရှည်မျှ ထိုကဲ့သို့ ပြန်ချင်သလို ဖြိမ်ကာ မဲမှောင်နေလိမ့်မည်။

## အမှောင်ထုကြီး ဖုံးသောအချိန်

အဆိုပါအချိန်ကာလအတွင်း၌ စကြဝဠာတခုလုံးသည် မဲမှောင်၍နေသော်လည်း စကြဝဠာ၏ မည်သည့်အစိတ်အပိုင်းတခုသည်မျှ ပျက်စီး၍ သွားလိမ့်မည် မဟုတ်။ နာမ်ဓါတ်အားလုံးနှင့် မဟာဘုတ်ဓါတ်အားလုံးတို့သည် ရှိမြဲအတိုင်းသာ ဆက်လက်ရှိနေကြလိမ့်မည်။ အထက်ပါနည်းအတိုင်း စကြဝဠာကြီး ပျက်စီးသွားရာတွင် ရုပ်ဓါတ် အရာဝတ္ထုအမျိုးမျိုးနှင့် ရုပ်ဓါတ်ရှိ သတ္တဝါတို့၏ ကိုယ်ခန္ဓာအမျိုးမျိုးသာလျှင် ပျက်စီးသွားလိမ့်မည်။ အဆိုပါအချိန်ကာလအတွင်း၌ မဟာဘုတ်ဓါတ်တို့သည် မိမိတို့ အမြဲတောင့်တ၍ နေကြသည့်အတိုင်း ဟင်းလင်းပြင်ပါဂ်အတွင်း၌ ညီမျှစွာပြန့်နှံ့၍ နေကြလိမ့်မည်။ ထိုအချိန်တွင် မဟာဘုတ်ဓါတ်တို့သည် ကျယ်ပြန့်မှုအားကြီး နေကြသဖြင့် ရုပ်ကလာပ်များအဖြစ် မပေါင်း၍ မနေနိုင်ကြဘဲ အင်အား(ပရမတ္ထ)အဖြစ်နှင့်သာ

တည် နေကြလိမ့်မည်။ အင်အားအဖြစ်သို့ ရောက်သွားသော ရုပ်ဝါဒီတို့ကို ဗုဒ္ဓဝါဒီတို့၏ ပတ်ဝန်းကျင် သိမှုအာရုံများဖြင့် မသိမြင်နိုင်သဖြင့် ဗုဒ္ဓဝါဒီတို့သည် အဆုံပါ အခြေအနေသို့ ရောက်ရှိနေသော စကြဝဠာကို အမှောင်ဘုံကြီးအဖြစ်နှင့်သာ စိတ်ကူးကြည့်နိုင်လိမ့်မည်။

နာမ်ဓါတ် (ဗြဟ္မာ) ဘုံသို့ ရောက်သွားကြသော နာမ်ဓါတ်တို့မှာ ပါး အခြားကျန်သော နာမ်ဓါတ်အားလုံးသည် အနုံ ါအချိန်တွင် အသက်ရှင်မှု အလျင်အင်အားသည် အင်မတန်အင်မတန်ကြီး ဆုတ်ယုတ်သွားကြသဖြင့် အဆင့်အတန်းအနိမ့်ဆုံးသော သတ္တဝါများအဖြစ်သို့ ရောက်သွားကြလိမ့်မည်။ ထို့ကြောင့် ထိုသတ္တဝါတို့သည် တသီးတခြားစီဖြစ်သော မိုးပါတ်တို့တွင် ပဋိသန္ဓေ တည်ကြလိမ့်မည်။ တသီးတခြားစီဖြစ်နေသော မိုးပါတ်တို့သည် အထုအထည် မရှိကြ။ ထို့ကြောင့် မိုးပါတ်များတွင် ပဋိသန္ဓေတည်ကြသော သတ္တဝါတို့သည် အထုအထည်မရှိသော သတ္တဝါများဖြစ်ကြ၏။ ထို့ကြောင့် ထိုသတ္တဝါတို့ရှိကြောင်းကို ပတ်ဝန်းကျင်သိမှုအာရုံများဖြင့် သိမြင်နိုင်လိမ့်မည် မဟုတ်။

## အကြီးဆုံးသော ဆင်းရဲမှု

တသီးတခြားစီဖြစ်သော မိုးပါတ်များတွင် ပဋိသန္ဓေတည်ကြသော သတ္တဝါတို့၏ ဘဝသည် အကြီးဆုံးဆင်းရဲမှုရှိသော ဘဝဖြစ်၏။ ထို့ကြောင့် စကြဝဠာပျက်၍ မိုးပါတ်များတွင် ပဋိသန္ဓေတည်ရသော သတ္တဝါအားလုံးသည် ပြင်းစွာသော ဆင်းရဲမှုကို ခံစားကြရ၏။ အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ဆင်းရဲမှုခံစားရခြင်းသည် မစင်ကြယ်မှုတို့၏ အင်အားကို လျော့ပါးသွားစေသဖြင့် ထိုကဲ့သို့ ဆင်းရဲမှုကိုခံစားနေကြရသော သတ္တဝါတို့သည် မိမိတို့၏ မစင်ကြယ်မှုအားလုံး လောက်ကို ပျောက်ပသွားစေကြလိမ့်မည်။

အချိန်များစွာကြာသောအခါ အဆုံပါသတ္တဝါတို့၏ မစင်ကြယ်မှုတို့သည် တိုက်လျှောက်စွာ လျော့ပါးသွားကြသဖြင့်၎င်း၊ ထိုအတောအတွင်း၌ ထိုသတ္တဝါတို့၏ အသက်ရှင်မှုအလျင်အတွင်း၌ ကျန်ရှိနေသော စင်ကြယ်မှုဖွဲ့လန်းချက်တို့သည် တိုက်လျှောက်စွာ တိုးပွားလာသဖြင့်၎င်း၊ များစွာသော နာမ်ဓါတ်တို့၏ အသက်ရှင်မှုအလျင်တို့သည် တိုက်လျှောက်စွာ အင်အားပြည့်တင်းလာကြပြီးလျှင် မိမိတို့၏ ဆင်းရဲကြီးလှသော မိုးပါတ်ကိုယ်ခန္ဓာများကို အခြားမဟာဘုတ်ဓါတ်အချိုးဖြင့် ဖိုးဆုပ်နိုင်လာကြလိမ့်မည်။ ထိုသတ္တဝါတို့သည် အဆုံပါနည်းအတိုင်း အင်အားပြည့်တင်းလာကြသောအခါတွင် မိမိတို့၏ ကိုယ်ခန္ဓာများကို သေးငယ်သော ရုပ်ကလာပ်တိုလေးများအဖြစ်သို့ ရောက်စေကြပြီးလျှင် ဟင်းလင်းပြင်ဓါတ်အတွင်း၌ လွင့်ပါးလာနေကြလိမ့်မည်။

## စကြာဝဠာ ပြန်၍ဖြစ်ပေါ်ခြင်း

အဆိုပါ သတ္တဝါတို့ နာမ်ဓါတ်အတွင်း၌ အသက်ရှင်မှုအလျင်တို့သည် တဆင့်ထက်တဆင့် အင်အားတိုးတက်၍ လာကြသောအခါတွင် သူတို့၏ ရုပ်ဓါတ်ကိုယ်ခန္ဓာတို့သည်လည်း ပို၍ပို၍ကြီးလာကြလိမ့်မည်။ ဤနည်းဖြင့် လျောက်ပတ်မှုသာ အချိန်ကြာသောအခါတွင် ထိုသတ္တဝါတို့သည် ဟင်းလင်းပြင်ဓါတ်အတွင်း၌ အဝလိုက် အပြုံလိုက် ပေါ်လာကြလိမ့်မည်။ ထိုအချိန်တွင် အဆိုပါ သေးငယ်သော သတ္တဝါလေးတို့၏ သွေးစီးရွားမှုတို့က မဟာဘုတ်ဓါတ်တို့ တမျိုးတည်းချင်း ညှိမျှစွာ ပြန့်နှံ့နေမှုကို ကမောက်ကမ ဖြစ်စေလိမ့်မည်။ ဤနည်းဖြင့် နေရာဘာဝတွင်ရှိသော မဟာဘုတ်ဓါတ်တို့သည် ရွေ့လျားပြုလာကြလိမ့်မည်။ သတ္တဝါတို့သည် နောက်ထပ်ကြီးပွားလာကြသောအခါတွင် ဂြိုလ်များနှင့် ကြယ်များဖြင့် ပေါ်လာကြလိမ့်မည်။ ဤနည်းဖြင့် စကြာဝဠာအသင်သည် ပြန်၍ ဖြစ်ပေါ်လာလိမ့်မည်။

ဤနည်းဖြင့် စကြာဝဠာအသင်သည် ကြီးပွား၊ ရင့်မာ၊ ဆုတ်ယုတ်၊ ပျက်စီး၍ ပေါက်ကွဲပြီးဆုံးသွားပြီးလျှင် ဤအစဉ်အတိုင်း အဆုံးမရှိဆက်၍ ဖြစ်နေလိမ့်မည်။

## သစ္စာဖေါက်ခြင်း

ဤနည်းဖြင့် စကြာဝဠာသည် မိမိအတွင်း၌ရှိကြသော နာမ်ဓါတ်အားလုံး၏ ပေါင်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာ၏။ စကြာဝဠာဖြစ်ပေါ်တည်နေမှုအတွက် သတ္တဝါတိုင်းက မိမိသက်ဆိုင်ရာ တာဝန်ကို ထမ်းဆောင်ကြ၏။ စကြာဝဠာအတွင်း၌ရှိ သတ္တဝါတိုင်းက တက်ကို ပဲ့ကိုင်ကာ မိမိတို့၏ အင်အားအလိုက် စကြာဝဠာကြီးကို လှော်၍ ပေးနေကြ၏။ ကျွန်ုပ်တို့က စီး၍နေကြခြင်းမှာ စကြာဝဠာတွင်း၌ ကျန်အားလုံးသော သတ္တဝါတို့၏ ကြိုးပမ်းမှုကို စီး၍နေကြခြင်းပင်ဖြစ်၏။

သို့ရာတွင် ဝမ်းနည်းဖွယ်ကောင်းသော အချက်မှာ စကြာဝဠာကို ဖြစ်အောင်လုပ်ပေးကြသော သတ္တဝါအားလုံးအား နောက်ဆုံးတွင် ထိုစကြာဝဠာကပင် ပြန်၍သစ္စာ ဖေါက်ခြင်းဖြစ်၏။ ဤစကြာဝဠာသည် ကြောက်ရာကောင်းသော ကျွန်ုပ်တို့ လက်သပ်မွေးထားသည့် သတ္တဝါဖြစ်၏။ ဤစကြာဝဠာဖြစ်ပေါ်စေရန်အတွက် သတ္တဝါအားလုံးက ဝေပုံကျတာဝန်ခံကြ၏။ ထိုသို့ ဝေပုံကျတာဝန်ခံကြ

ခြင်းမှာလည်း အလွန်ငြိမ်သက်ပါလက်ပါ ဝရိယ ကောင်းစွာဖြင့် ဘာဝနာပွါးကြခြင်း သာဖြစ်၏။ ထို့ရာတွင် နောက်ဆုံးတွင် သတ္တဝါအားလုံးအား မိမိတို့ကဖြင့် ပေါ်စေအောင်လုပ်၍ ကျွေးမွေးထားသော အရာကပင် ကိုက်၍သတ်လိုက်၏။ ဤကား အင်ဝိဝ်ရှိသော လက်သစ်မွေးသတ္တဝါကို မွေးမြူခြင်း၏ မိုက်မှားပင်ဖြစ်၏။

## လွတ်မြောက်ခြင်း

လက်သစ်မွေးသတ္တဝါသည် ယဉ်ကျေးသတ္တဝါကိုမျှ ထိုက်လျောက်သော ကျေနပ်မှုကို မပေး။ ထို့ကြောင့် ပညာရှိသော သူတို့သည် အဆိုပါ အကျိုးမရှိသော အလုပ်ကို ပယ်ရန် ကြောက်ကြ၏။ သတ္တဝါအားလုံးအား ငင်းရဲမှုကိုသို့ အမြဲဆွဲချ နေသည့် နောက်မှ အမြဲတကောက်ကောက်လိုက်နေသော နတ်ဆိုးဖြစ်သော ရုပ်ဝါဒမှ လွတ်မြောက်အောင် လုပ်ကြပြီးလျှင် ဆိုးရွားယုတ်ညံ့သော ရုပ်ဝါဒမရှိသော သာယာချမ်းမြေ့သောဘဝသို့ ရောက်အောင်လုပ်ကြကုန်လော့။ ထိုသာယာချမ်းမြေ့သောဘဝတွင် အရာဝတ္ထုတို့သည် ဖြင့်ပေါ်ခြင်းလည်း မရှိ။ မခင်တွယ်မှုတို့၏ ဆွဲငင်ခြင်းလည်း မရှိ။ အဆင့်အတန်းနိမ့်ကျသော ဘဝသို့ကျမည့်ဘေးလည်း မရှိ။ မပြည့်စုံမှုလည်း မရှိ။ ဘဝမက်မှုလည်း မရှိ။ ပုန်းဘိးမှုလည်း မရှိ။ မသိမှုလည်း မရှိ။

ထိုသာယာချမ်းမြေ့သောဘဝတွင် ခင်တွယ်မှုအတိရှိ၍ မွေ့ဖွန်းမထင်သော ပျော်ရွှင်မှုများ၊ အကြီးမားဆုံးသော ချမ်းသာမှု၊ ပြည့်လျှံသော ရောင့်ရဲမှု၊ ပျက်စီးခြင်း မရှိသော ရွှင်လန်းမှုများများသာရှိ၏။

ထိုဘဝသည် ရုပ်ဝါဒနှင့် ဖိဘ်ပွဲသော ဘဝဖြစ်၏။ အပြည့်စုံဆုံး၊ အထွဋ်အထိပ်အကျဆုံးဘဝဖြစ်၏။ ထိုဘဝသည် ပစင်ကြွယ်မှုတို့လုံးဝကင်းမင်၍ အများဆုံးသော ခင်ကြွယ်မှုပြည့်ဝ၍နေသော နာမ်ဝါဒ်ရှိသော ဘဝဖြစ်၏။ ထိုဘဝသည် ခင်ကြွယ်မှုများနှင့်ဖြင့်သာ ဆုတ်ရွာနေသော ဘဝဖြစ်၏။ ထိုဘဝသည် အမြတ်ဆုံး၊ အနိုင်ဆုံး ဘဝဖြစ်၍ ထိုဘဝသို့ ရဟန္တာအဖြစ်ကို လွန်မြောက်သွားအောင် မိမိတို့၏ နာမ်ဝါဒ်ကို ခင်ကြွယ်အောင်ပြုလုပ်သူတို့သာ ရောက်နိုင်၏။ ထိုဘဝသည် ထာဝစဉ်ချမ်းသာသော အထွဋ်အထိပ်ဘဝဖြစ်သော နိဗ္ဗာန အလင်းဝါဒ်ကို ရကြသူများအတွက်သာ ဖြစ်၏။

## အခန်း ၇

## ပထဝီ လမ်းညွှန်

ဤစကြာဝဠာသည် သူအလိုအလျောက် လှုပ်ရှားနေသည့် အလွန်ကြီးမား၍ အပိုင်းအခြားမရှိသော ဟာကြီးဖြစ်ကြောင်းကို ဖော်ပြခဲ့ပြီ။ ထိုဟာကြီးထဲ၌ ဘီးကြီးများလည်းရှိကြ၏။ ဘီးသေးများလည်းရှိကြ၏။ ဘီးတခုတခုအတွင်း၌လည်း မရေမတွက်နိုင်လောက်သော တဆင့်ထက်တဆင့် သေးငယ်သည့် ဘီးငယ်ကလေးများရှိကြ၏။

စကြာဝဠာသည် အပိုင်းအခြားမရှိသော အခြင်းအရာဖြစ်၏။ စကြာဝဠာသည် ကျဉ်းကြုံ့သည့်ဘက်တွင်လည်း အပိုင်းအခြားမရှိ။ ပြန့်ကျယ်သည့်ဘက်တွင်လည်း အပိုင်းအခြားမရှိ။ စကြာဝဠာ၏ အပိုင်းအစိတ်မှန်သမျှသည် အပိုင်းအပိုင်းအခြားမရှိ ကျယ်ပြန့်သော စကြာဝဠာပြင်ကြီး၏ အစိတ်အပိုင်းများသာဖြစ်၏။ အစိတ်အပိုင်းတိုင်း အစိတ်အပိုင်းတိုင်းတွင် အပိုင်းအခြားမရှိအောင် ကျဉ်းကြုံ့နေသော အစိတ်အပိုင်းများလည်း အပိုင်းအခြားမရှိအောင် ပါဝင်၏။ ထို့ကြောင့် အသေးဆုံး အစိတ်အပိုင်းတိုင်းသည် စကြာဝဠာတခုလုံးကို အကျဉ်းချုံ့ထားချက်သာ ဖြစ်ပြီးလျှင် စကြာဝဠာတခုလုံးသည် အပိုင်းအခြားမရှိသော စကြာဝဠာအသေးကလေးများကို ပေါင်းထားခြင်းဖြစ်သည်ဟုလည်း ဆိုနိုင်၏။ ဤအချက်သည် စကြာဝဠာဖြစ်ပေါ်လာပုံနှင့် စကြာဝဠာတည်ဆောက်ပုံနှင့် ပတ်သက်၍ အခြေခံ အမှန်တရားကြီးဖြစ်၏။

စကြာဝဠာတခုလုံးအဖို့ မှန်သော တရားကြီးသည် သတ္တဝါတိုင်း သတ္တဝါတိုင်းအဖို့လည်း မှန်၏။ သတ္တဝါတို့၏ အသားမြှင်ကလေးတိုင်း အသားမြှင်ကလေးတိုင်းသည် သတ္တဝါတခုလုံး၏ အကျဉ်းချုံ့ထားချက်များ မျှသာဖြစ်၏။ ဤနည်းဖြင့် လူသတ္တဝါတို့ ကိုယ်ခန္ဓာအတွင်းရှိ အသားမြှင်ကလေးတိုင်း အသားမြှင်ကလေးတိုင်းတို့သည် လူသတ္တဝါတခုလုံးကို အကျဉ်းချုံ့ထားသော ရုပ်ဓါတ်အထုအထည်ကလေးများသာဖြစ်၏။

## နာမ်ဓါတ်နှင့်ရုပ်ဓါတ်တို့ တပူးပူးဖြစ်နေမှု

စကြာဝဠာအတွင်းရှိ ဘီးအားလုံးအနက် အငယ်ဆုံးလည်းဖြစ်၍ အင်အားအကြီးဆုံးလည်းဖြစ်သော ဘီးများမှာ နာမ်ဓါတ်ဘီးများဖြစ်၏။ နာမ်ဓါတ် တကြိမ်တကြိမ်လှုပ်ရှားခြင်းမှာ ထိုဘီးများ တပတ်တပတ်လည်ခြင်း ဖြစ်၏။ ထိုဘီး

များ၏ လှုပ်ရှားမှု အမြန်နှုန်းမှာ လျှပ်စစ်ဓါတ်ပျက်ကို အပိုင်းကုဋေ ၁၁ သိန်းပုံ ပြုလျှင် တပိုင်းနှင့် ညီမျှကြောင်းကို ဖော်ပြခဲ့ပြီ။ နာမ်ဓါတ်ကြီးတို့သည် ထိုကဲ့သို့ အလွန်မြန်သော နှုန်းနှင့် သင့်၍ နေကြသော်လည်း အပေါ်၌ ၁၇ ခုကို ၁ ခုမျှ မလွတ်အောင် ပံ့နိုင် ကျကျနနှင့် မှန်ကန်တိကျစွာ ဖြတ်သန်းသွား၏။ ရုပ်ဓါတ်တို့သည်လည်း ထိုအတိုင်းပင် လည်ကြ၏။ သို့ရာတွင် ရုပ်ဓါတ်တို့လည်သော အမြန်နှုန်းမှာ နာမ်ဓါတ်တို့လည်သော အလျင်မြန်နှုန်း၏ ၁၇ ပုံ ၁ ပုံသာ ရှိ၏။

နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့ လည်ပတ်ရာတွင် မည်သည့်အခါတွင်မဆို အမြဲဖြစ်ပေါ်သော အခြင်းအရာတခု ရှိ၏။ ထိုအခြင်းအရာမှာ အခြားမဟုတ်။ ဝင်ခြင်း၊ တိုးခြင်း၊ ဟန့်ခြင်း၊ ဆုတ်ယုတ်ခြင်းနှင့် ပျက်ခြင်း တို့ဖြစ်၏။ နာမ်ဓါတ်တို့ လည်ပတ်ရာတွင် အစ ရှိသော်လည်း နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့ဖြစ်ပေါ်မှုတွင် အစမရှိ။ ထို့ကြောင့် နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့သည် မည်သည့်အခါတွင်မျှ ပျောက်ကွယ်သွားခြင်း မရှိ။ ထို့ပြင် စကြာဝဠာအတွင်း၌ ရှိသမျှသော နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့သည် တသမတ်တည်း တည်နေကြလိမ့်မည် မဟုတ်။ အချိန် ( ကာလ ) က နာမ်ဓါတ်ကြီးများနှင့် ရုပ်ဓါတ်ကြီးများကို အမြဲတန်းလှည့်ပေး၏။ အချိန် ( ကာလ ) သည် မည်သည့်အခါတွင်မျှ ရပ်တန့်၍ မနေသဖြင့် မည်သည့် နာမ်ဓါတ်ကြီးနှင့် မည်သည့် ရုပ်ဓါတ်ကြီးသည်မျှ ရပ်တန့်၍ မနေ။ ထို့ကြောင့် စကြာဝဠာတွင်း၌ နာမ်ဓါတ်ကြီးများနှင့် ရုပ်ဓါတ်ကြီးများသည် တဘက်၏ အဝမှ တဘက်၏ အဆုံးသို့ ဆက်ကာဆက်ကာ လည်နေကြ၏။ တဘက်၏ ဆုံးသို့ ရောက်သည်နှင့် တပြိုင်နက် တဘက်၏ အဝသို့ လျှင်မြန်စွာ ခုန်ကူး၍ အပတ်သင်ကို လည်ပြန်၏။

ယနေ့ပြင်နှင့် စကြာဝဠာတခုလုံးသည် တမွှားမွှား၍ နေပြီးလျှင် နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့အထဲတွင် ဆက်လက်ခိုင်မြဲ နေမှုဟူ၍ မရှိ။ နာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့ ဖြစ်ပေါ်မှုတွင် အစမရှိသော်လည်း ထိုနာမ်ဓါတ်နှင့် ရုပ်ဓါတ်တို့လည်ပတ်မှုတွင်ကား အစနှင့်အဆုံး ရှိ၏။ ဖြစ်ပေါ်မှုကိုင်းသည် အစဖြစ်၏။ ထို့ကြောင့် ဖြစ်ပေါ်မှုကို ရုပ်ဝဲခြင်းဟု ဆိုအပ်သော ပျက်ခြင်းသို့ ဆောင်၏။ အမှန်အလွန် အားဖြင့်လည်း ရုပ်ဝဲခြင်း သို့မဟုတ် ပျက်စီးခြင်းသည် အစအသစ် သို့မဟုတ် ဖြစ်ပေါ်ခြင်းအသစ်သို့ ဆောင်၏။ စကြာဝဠာအတွင်း၌ ဝင်ခြင်းရှိသော အခြင်းအရာအားလုံးသည် အဆုံးသတ်ခြင်းရှိရာသို့ အမြဲသွားကြခြင်းသည် ၎င်း၊ အဆုံးသတ် သေခြင်းအရာအားလုံးသည် အခြင်းအရာအသစ်တို့၏ အစကို အမြဲတန်းဖြစ်ပေါ်စေခြင်းသည် ၎င်း၊ ဓမ္မတာသဘောတရား ဖြစ်၏။

စကြာဝဠာအတွင်း၌ နာမ်ပါဒ်အားလုံးနှင့် ရုပ်ပါဒ်အားလုံးတို့နှင့် သက်ဆိုင်သော အဆုံးပါ မြတ်သောသဘောတရားသည် အရာဝတ္ထုအားလုံး ရုပ်ပါဒ်၌ သတ္တဝါအားလုံးတို့နှင့်လည်း သက်ဆိုင်၏။

တဖွားဖွား ပြိုင်ပေါ်နေမှုသည် ရုပ်ပါဒ်၌ စကြာဝဠာတခုလုံးနှင့် သက်ဆိုင်သော မြတ်သောသဘောတရားဖြစ်၏။ အဖြတ်တန်း ရပ်နားခြင်း မရှိသော ထို မြတ်သောသဘောတရားကို မည်သည့် ရုပ်ပါဒ်အစုမျှသော်၎င်း၊ မည်သည့် ရုပ်ပါဒ်နှင့် နာမ်ပါဒ်အစုအဝေးကမျှသော်၎င်း၊ မလွန်ဆန်နိုင်။

<u>ပျက်ခြင်းသည် ဖြစ်ခြင်း၏ အကျိုး</u>

နာမ်ပါဒ်၏ လှုပ်ရှားမှုနှင့် ရုပ်ပါဒ်၏ လှုပ်ရှားမှုတို့သည် စွမ်းဆုံးသည့် နည်းတူ စကြာဝဠာအတွင်း၌ ခြင်း၌ရှိသော အရာဝတ္ထုတို့သည် သို့မဟုတ် သတ္တဝါတို့သည် ဆုံးခြင်း ရှိကြ၏။ ဥပမာ သဘောတရားသည် ကျောက်ဆောင်များ၊ တောင်များ၊ အားလုံးသော ဂြိုလ်များ ကြယ်များ အထက်လည်း မှန်၍ တိရစ္ဆာန်များနှင့် လူသတ္တဝါများ အပါအဝင်ဖြစ်သော အားလုံးသော သတ္တဝါတို့အတွက်လည်း မှန်၏။ စကြာဝဠာအတွင်း၌ ဖြစ်ပေါ်လာသော အရာအားလုံးသည် နောက်ဆုံးတွင် ပျက်ခြင်းသို့ ရောက်ကြ၏။ ပျက်ခြင်းကို ရှောင်လွှဲ၍ မရ။ ကျွန်ုပ်တို့သည် ရုပ်ပါဒ်၌ စကြာဝဠာအတွင်း၌ မွေးလာကြသဖြင့် လွတ်လမ်း မရှိကြ။ အနှေးနှင့်အမြန် အားဖြင့် သေကြရမည်သာ ဖြစ်၏။

စကြာဝဠာအတွင်း၌ မည်သည့် အခြင်းအရာသည်မျှ ခိုင်မြဲခြင်း မရှိ။ ယေဘုယျအားဖြင့် ကျွန်ုပ်တို့က ခိုင်မြဲသည်ဟု ထင်နေကြသော အရာများတွင် ခိုင်မြဲမှုလုံးလုံး မရှိ။ ဤကမ္ဘာမြေကြီးနှင့် ကောင်းကင်ပြင်၌ ဂြိုလ်များ ကြယ်များသည် မခိုင်မြဲကြ။ စကြာဝဠာသည် မိမိသက်တမ်းဖြစ်သော နှစ်ပေါင်း ၁၀၀၀၀၀ ၀၀၀၀၀၀၀၀၀ တွင် တကြိမ်တကြိမ်ကျ ပျက်စီး လေ့ရှိ၏။ (မဟာကပ္ပ)။ ယခု အခါတွင် ထိုအချိန်ကာလသုံးပုံနှစ်ပုံ ကုန်ခဲ့ပြီ။ သုံးပုံတပုံ ကျန်သေး၏ ထိုသုံးပုံတပုံ ကုန်သောအခါတွင် စကြာဝဠာသည် ပျက်၍ အမှောင်ထုကြီးနှင့်တူသော အင်အားများအဖြစ်သို့ ရောက်၍ သွားလိမ့်မည်။

အချို့သော ဂြိုလ်များနှင့် ကြယ်များသည် အခြားဂြိုလ်များ ကြယ်များ နှင့် စာလျှင် အလွန် သေးငယ်ပြီးလျှင် သူတို့၏ သက်တမ်းသည်လည်း အလွန်တို၏။ စကြာဝဠာအတွင်း၌ အလွန့်အလွန်ကြီးမား အတိုင်းအဆမဲ့ အလွန်ငိုင်သော ဂြိုလ်များ နှင့် ကြယ်များလည်း ရှိကြသေးသည်။ ထိုဂြိုလ်များနှင့် ကြယ်များသည် မရေမတွက် နိုင်လောက်အောင် အချိန်ကာလ ရှည်ကြာစွာ နေကြ၏။ သို့ရာတွင် ဥက္ကာ မြေကြီးနှင့် အခြားသောဂြိုလ်များနှင့် ကြယ်များအားလုံးသည် မည်သည့်အရာဝတ္ထု များပါဝင်၍ မည်မျှလောက် အချိန်ကာလရှည်ကြာစွာ တည်နေကြသည်ပင် ဖြစ်စေ ကာမူ ပျက်စီးခြင်းတရားကို မလွန်ဆန်နိုင်ကြသဖြင့် အချိန်တန်သည့်အခါတွင် ပျက် စီးကြမည်သာ ဖြစ်၏။

## ရှည်ကြာသော အချိန်ဟူ၍ မရှိ

ကျွန်ုပ်တို့သည် ဂြိုလ်များကြယ်များကဲ့သို့ ကြီးကျယ်သော အရာဝတ္ထုကြီးများ နှင့် သက်ဆိုင်သော ဖြစ်ခြင်း၊ ကြီးခြင်း၊ တည်ခြင်း၊ ဆုတ်ယုတ်ခြင်း၊ ပျက်ခြင်း ဘီး များလည်ခြင်းကို ကိုယ်တိုင်မတွေ့မြင်နိုင်ကြ။ အဘယ့်ကြောင့်ဆိုသော် ကျွန်ုပ်တို့ ကိုယ် ပိုင်ဖြစ်သော လူသတ္တဝါတို့၏ ဘီးသည် အလွန်ငယ်သော ကြောင့် ဖြစ်၏။ သို့ရာတွင် အပိုင်းအခြားမရှိမှုဖြစ်သည့် အချိန်ကာလနှင့် နှိုင်းစာမည်ဆိုသော် ကျွန်ုပ်တို့အာ ရုံ၌ ထင်လှာသော ယခုစကြာဝဠာ၏ သက်တမ်းဖြင့်သော အနှစ် ၁၀၀၀၀၀၀၀၀၀ ၀၀၀၀၀၀၀ ကဲ့သို့သော အချိန်ကာလများသည်ပင်လျှင် ပြောပလောက် တော့မည် မဟုတ် ။

ဂြိုလ်အသီးသီးနှင့် ကြယ်အသီးသီးတွင် ရှိကြသော သတ္တဝါအားလုံးနှင့် အရာ ဝတ္ထုအားလုံးသည် မိမိတို့သက်ဆိုင်ရာ ဂြိုလ်ဘီးကြီးများ၊ ကြယ်ဘီးကြီးများအတွင်း၌ ရှိ ကြသော ဘီးငယ်ကလေးများသာ ဖြစ်ကြ၏။ အဆိုပါ ဘီးအငယ်စားများတို့၏ သက်တမ်း သည် တခုနှင့်တခု မတူကြ။ သို့ရာတွင် လူသတ္တဝါတို့၏ ယနေ့သက်တမ်းမှာ အနှစ်ခုနှစ် ဆယ် သို့မဟုတ် ရှစ်ဆယ်မျှဖြစ်၏။ ဤတိုတောင်းသော အချိန်ကာလအတွင်း၌ လူသတ္တဝါ တို့၏ ဘီးသည် ဖြစ်ခြင်း၊ ကြီးခြင်း၊ တည်ခြင်း၊ ဆုတ်ယုတ်ခြင်း၊ ပျက်ခြင်း ဟူဆိုအပ် သော စခန်းတခုမှ တခုသို့ မရပ်မနားလည်လျက်ရှိ၏။ ကျွန်ုပ်တို့ ပြောမြဲစကား အရ ပြောရမည်ဆိုသော် မွေးချိန်၊ နို့စို့ကလေးအရွယ် ရောက်ချိန်၊ လူပျိုပေါက်

အရွယ်ရောက်ချိန်၊ အိုချိန်၊ သေချိန်သို့ မရပ်မနားလည်ပတ်လျက်ရှိ၏။ လူသတ္တဝါတို့၏ ဘီးသည် အမြဲသော စခန်းများကို ခုံကျော်ချင် ခုံကျော်မည် ဖြစ်၏။ သို့ရာတွင် မွေးခြင်း ဟု ဆိုအပ်သော အစတိုင်း အစတိုင်းသည် သေခြင်း ဟု ဆိုအပ်သော အဆုံးနှင့် တွဲလျက် နေ၏။

## မနိုင်မြဲမှုနှင့် မပစ်မပျန်မှု

စကြာဝဠာတွင်း၌ အရာဝတ္ထုအားလုံးသည် ယာယီမျှသာဖြစ်၏။ စကြာဝဠာတွင်း၌ အချိန်ကာလအားလုံးသည် မပြောပလောက်အောင်ပင် တိုတောင်း၏။ နာမည်ကြီးသည်လည်း အရာဝတ္ထုအားလုံး ပျောက်ကွယ်သောအမြန်နှုန်းအတိုင်း ပျောက်ကွယ်ကြ၏။ သမိုင်းစာအုပ်တို့လည်း ရေးပြီးသည်နှင့်တပြိုင်နက် ပျောက်ကွယ်ကြ၏။ (အမေရိကန် သမ္မတ များဖြစ်ကြသော) အေဗြာဟင်လင်ကွန်းနှင့် ဂျော့ဝါရှင်တန်တို့သည်၎င်း၊ (အင်္ဂလိပ်ကဗျာဆရာကြီး) ဝီလျံရှိတ်စပီးယားနှင့်၊ (လောကပါလ်ဆရာကြီး) ဂျော့ဝတီဗင်ဆင်တို့သည်၎င်း၊ သီရိဓမ္မာသောကမင်းကြီးနှင့် ဂေါတမ ဗုဒ္ဓတို့သည်၎င်း၊ မတိုင်မြဲခြင်းတရားကို မလွန်ဆန်နိုင်ကြ။ ဤတရားသည် အားလုံးနှင့်ဆိုင်သော တရားဖြစ်၏။ အဆိုပါ တဦးချင်း တဦးချင်း ဖြစ်ကြသော သတ္တဝါတို့သည် စကြာဝဠာတွင်း၌ အခြားသော သတ္တဝါအားလုံးတို့ နေနည်းအတိုင်း နေ၍ သေနည်းအတိုင်း သေကြ၏။ သူတို့ သေကြသောအခါတွင် သူတို့ နေခဲ့မှုမှ ပဲ့တင်သံနှင့် မွေးကြိုင်သော ရနံ့များ ကျန်ရစ်ခဲ့၏။ သို့ရာတွင် ထိုပဲ့တင်သံနှင့် မွေးကြိုင်သော ရနံ့တို့သည် ထာဝရ တည်မြဲလိမ့်မည်မဟုတ်။ ထိုမွေးကြိုင်သော ရနံ့သည် နောက်အနှစ်ပေါင်း သောင်း မခိတို့သာလျှင် များ၏။ နောက်အနှစ်ဘီလီယံများကြာလျှင် အဆိုပါ မွေးကြိုင်သော ရနံ့မှာ မရှိတော့မည်မှာ သေချာသလောက် ဖြစ်၏။ အနှစ်ဘီလီယံသည်ပင် ကာလမျှမဖြစ်လောက်သော အချိန်ဖြစ်၏။ ဤကား မတိုင်မြဲခြင်း (အနိစ္စ) တရား၏ သဘော ပေတည်း ။

ထို့နောက် အချိန်၏ ဂုဏ်အင်္ဂါများလည်း ရှိသေး၏။ အတိတ်သည် အတိတ်သာဖြစ်၏။ မည်သည့်အခါတွင်မှ ပြန်၍ မလာတော့။ အနာဂတ်ထက် မသေချာသော အရာသည် မရှိ။ ပစ္စုပ္ပန် သည်သာလျှင် အားလုံးအတွက် အကယ်စင်စစ် အရေးကြီး၏။ သို့ရာတွင် ပစ္စုပ္ပန်သည် အသွားလည်းအလွန်မြန်၍ ရပ်နားခြင်းလည်း

အလျဉ်းမရှိသောကြောင့် ပစ္စုပ္ပန်နှင့် ရင်ဘောင်တန်းလိုက်ရန် မဖြစ်နိုင်။ ကျွန်ုပ်တို့သည် ပျော်ရွှင်မှုများကို၎င်း၊ နာကြင်မှုများကို၎င်း၊ စည်းစိမ်ခံမှုများကို၎င်း၊ ဆင်းရဲမှုများကို၎င်း ခံစားကြရ၏။ သို့သော် ထိုသာယာမှုနှင့် မသာယာမှုများ အားလုံးသည် တည်မြဲခြင်းမရှိ။ အတိတ်သည် အစစ်အမှန်မဟုတ်။ အနာဂတ်သည်လည်း အစစ်အမှန်မဟုတ်။ ပစ္စုပ္ပန်သည် အကုန်အလွန်မြန်၍ ရပ်နားခြင်းလည်း မရှိသောကြောင့် ပစ္စုပ္ပန်သည်လည်း အစစ်အမှန်မဟုတ်။ စကြာဝဠာအတွင်း၌ရှိ သင်္ခါရအားလုံးသည် အဆိုပါ အစစ်အမှန်မဟုတ်သော ဘဝ (အနတ္တ) တွင် တုပ်နှောင်ထားခြင်းကို ခံနေကြရ၏။

## ဆင်းရဲခြင်း

ဤစကြာဝဠာအတွင်း၌ရှိ ကျွန်ုပ်တို့၏ ဘဝသည် ဒုက္ခရုံဖြစ်၏။ တံလျှပ်ဖြစ်၏။ အိပ်မက်ဖြစ်၏။ အတိတ်သည် လွန်ခဲ့သဖြင့် မေ့၍သွားသော အိမ်မက်ဖြစ်၏။ အနာဂတ်သည် လောင်းကစားမှုဖြစ်သဖြင့် အလွန်မရေရာသော အိမ်မက်ဖြစ်၏။ ပစ္စုပ္ပန်သည် လျှင်မြန်၍ မရပ်မနားယိုစီးနေသော အိမ်မက်ပြေးဖြစ်၏။ ဤစကြာဝဠာအတွင်း၌ရှိသော အရာများအနက် တခုသည်မျှ မခိုင်မြဲ။ ထို့ကြောင့် ဤစကြာဝဠာအတွင်း၌ရှိသော ပျော်ရွှင်မှုအားလုံးသည် တခုမျှ ပျော်ရွှင်မှုမဟုတ်။ အကုန်လုံးဆင်းရဲမှု ချည်းဖြစ်၏။

မွေးခြင်းသည် နာကျင်၍ ကျွန်ုပ်တို့အား ဆင်းရဲမှုကို ဖြစ်စေ၏။ ကြီးခြင်းသည်လည်း နာကျင်၍ ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ဖြစ်စေ၏။ ရောဂါသည် နာကျင်၍ ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ဖြစ်စေ၏။ သေခြင်းသည် နာကျင်၍ ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ဖြစ်စေ၏။ ဤနည်းဖြင့် ဤစကြာဝဠာ၌ ဖြစ်ရခြင်းသည် ဆင်းရဲခြင်းပင်လယ်ဝေ၍ နေ၏။

ထိုမှတပါး အခြားဆင်းရဲခြင်းမျိုးများလည်း ရှိကြသေး၏။ ဤစကြာဝဠာအတွင်း၌ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ လိုချင်သမျှသော အရာတို့ကို မရနိုင်ကြ။ ကျွန်ုပ်တို့ လိုချင်သမျှကို မရခြင်းသည်လည်း ကျွန်ုပ်တို့အား ဆင်းရဲခြင်းကိုဖြစ်စေ၏။ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ ချစ်ခင်သောသူများနှင့် ခွဲခွါမှုကိုလည်း မရှောင်လွှဲနိုင်ကြ။ ကျွန်ုပ်တို့ ချစ်ခင်သူတို့နှင့် ခွဲခွါရခြင်းသည်လည်း ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ဖြစ်စေ၏။ ကျွန်ုပ်တို့ မနှစ်သက်သော သူတို့နှင့် ပေါင်းဖော်ရခြင်းမှလည်း ကျွန်ုပ်တို့သည် ရှောင်လွှဲ၍မရ။ ကျွန်ုပ်တို့ မနှစ်သက်သောသူတို့နှင့် ပေါင်းဖော်ရခြင်းသည်လည်း ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ဖြစ်စေ၏။ (ဒုက္ခ။)

## သိမ်မွေ့သော ဝရိုက်နှင့် အဆင့်အတန်းမြင့်သော သတ္တဝါများ

သတ္တဝါတို့၏ ပရိုက်မှာ ဘဝအဆင့် အဆင့်အတန်းအလိုက် ခြားနားခြင်း ရှိ၏။ ဘဝကြမ်းတမ်းလျှင် ဝရိုက်ကြမ်းတမ်း၏။ ဘဝသိမ်မွေ့လျှင် ဗရိုက်သိမ်မွေ့၏။ တိရစ္ဆာန်တို့ကဲ့သို့သော ကြမ်းတမ်းသော သတ္တဝါတို့၏ ဝရိုက်သည် သူတို့ဘဝနှင့် လျော်ညီစွာ ကြမ်းတမ်း၏။ တိရစ္ဆာန်တို့ထက် သိမ်မွေ့သော သတ္တဝါတို့၏ ဝရိုက်သည် မိမိတို့ဘဝနှင့် လျော်ညီစွာ သိမ်မွေ့၏။ ယဉ်ကျေးသောသူတို့၏ ဝရိုက်သည် မယဉ်ကျေးသော လူတို့၏ ပရိုက်ထက် သိမ်မွေ့၏။ ဤနည်းဖြင့် ပဉ်းဝံမံခံမှု ပရိုက်များသည် ဖြစ်ပေါ်လာ၏။

စကြာဝဠာတွင်းရှိ ဆင်းရဲသော ဘဝများနှင့် မတူသော အတုမရှိသော ပညာရောင်ဖြင့် ထွန်းပြောင်လျက်ရှိသော နိဗ္ဗာန်ဘဝသင်ရှိ၏။ ထိုဘဝသည် အတုမရှိအောင် သိမ်မွေ့သော ဘဝဖြစ်၏။ သို့ရာတွင် အတုမရှိအောင် ဝင်ကြွယ်သော ချမ်းသာမှုဖြစ်သည့် ထိုဘဝကို ရနိုင်ရန်အတွက် လိုအပ်သော ဝရိုက်ကို တောင့်တသူတို့သည် အလွန်သိမ်မွေ့၍ ယဉ်ကျေးသောဘဝကို ရအောင်လုပ်ဖို့လို၏။ သိမ်မွေ့ယဉ်ကျေးမှုအခြေခံ မရှိသူတို့သည် နိဗ္ဗာန်သို့ ရောက်ကြသူတို့ ခံစားရသော ချမ်းသာမှုကို အကဲဖြတ်နိုင်ရန် ခဲယဉ်း၏။

## မြတ်သော ရှင်ဆင့်လမ်း

အနာဂတ်တွင် သိမ်မွေ့သော ဘဝသို့ ရောက်ပေနိုင်၍ နောက်ဆုံးတွင် နိဗ္ဗာန်ကို ရောက်ပေနိုင်ရန်အတွက် ဗုဒ္ဓက ညွှန်ပြခဲ့သော လမ်းမှာ လျှောက်သွားရန်အတွက် ပကတိအားဖြင့် လွယ်ကူ၍ သာယာ၏။ ထိုလမ်း၏ ပထမအဆင့်မှာ တဖက်တွင်ရှိသော အလွန်အကြူး ပြုကျင့်မှုများ အလွန်အကြူး ခန်းနားစွာ ပြုကျင့်မှုများနှင့် အခြားတဖက်တွင် ရှိသော ဝေးနဲမှုနှင့် မိမိကိုယ်ကို ညှင်းပမ်းမှုများကို ရှောင်ရှား၍ ရိုးရိုးမှန်မှန် နေထိုင်မှုဖြစ်၏။ ထိုလမ်းကို "အလယ်လမ်း" (ပဇ္ဈိမ ပဋိပဒါ) ဟု ခေါ်၏။

ဤအလယ်လမ်းကို သွားသူတို့သည် အောက်ပါအကျင့်ကို ကျင့်ရန် လို၏။ ထိုအကျင့်မှာ

(၁) မှန်သောအမြင် (သမ္မာဒိဋ္ဌိ) နှင့် မှန်သော အကြံ (သမ္မာသင်္ကပ္ပ) ဖြင့် ထိုးထွင်းဉာဏ်ကို ရအောင်လုပ်ခြင်း ၊

(၂) မှန်သောစကား (သမ္မာဝါစာ) ၊ မှန်သောလုပ်ခြင်း (သမ္မာကမ္မန္တ) ၊ မှန်သောအသက်မွေးခြင်း (သမ္မာအာဇီဝ) တို့ဖြင့် စရိုက်ကို သိမ်မွေ့စေခြင်း ၊

(၃) မှန်သောအားထုတ်မှု (သမ္မာဝါယမ) ၊ မှန်သောသတိရှိမှု (သမ္မာသတိ) ၊ မှန်သော အာရုံပူးစိုက်မှုနှင့် သင်ခြင်းမှု (သမ္မာသမာဓိ) တို့ဖြင့် နာမ်ပါတ်၏ အင်အားများကိုဖြစ် ပေါ်လာအောင် လုပ်ခြင်းနှင့် ထိန်းသိမ်းခြင်း

တို့ဖြစ်၏။

## ရောင့်ရဲမှုနှင့် ငြိမ်းချမ်းမှု

ဗုဒ္ဓ ညွှန်ပြခဲ့သော ပံ့နိဘကျ နေထိုင်မှုသည် လူသတ္တဝါတို့အား နိဗ္ဗာန်ကို ရနိုင်စေခြင်း၏ အကြောင်းဖြစ်သည်သာမက၊ အသင့်အဘန်း နိမ့်ကျသော ဘဝများသို့ မကျရောက်စေနိုင်သော အရံအတားလည်း ဖြစ်၏။ ဗုဒ္ဓ၏ နေထိုင်မှုစနစ်သည် လူသတ္တဝါတို့အား ဤကမ္ဘာမြေကြီး ပေါ်၌ မြင့်မြတ်သော ဘဝများသို့၎င်း သက်တမ်းလည်း ပို၍ရှည်၊ မရှိမှုဆင်းရဲမှုတို့လည်း ပိုနည်း၊ ချမ်းသာမှုတို့လည်း ပို၍ များသော နတ်ပြည်ဟူသော ဘုံများသို့၎င်း ၊ ရောက်စေတတ်၏။

ဤရှစ်ဆင့်လမ်းကို လိုက်ခြင်းသည် လူသတ္တဝါတို့နှင့်တကွ ဤကမ္ဘာမြေကြီး ပေါ်တွင် လူသတ္တဝါတို့နှင့်အတူ နေထိုင်ကြသော သတ္တဝါတို့အား ချက်ချင်းလက်ငင်း ချမ်းသာခြင်း၊ ရောင့်ရဲခြင်း၊ ချစ်ခင်ခြင်းစသော အကျိုးကျေးဇူးများကို ခံစား ရစေနိုင်၏။ ထိုအကျိုးကျေးဇူးများသည် သက်ဆိုင်ရာသူတို့အား ငြိမ်းချမ်းသာယာ ခြင်းတို့ဖြင့် ပြည့်စုံစေနိုင်၏။ ။